နင်း, *v.* to tread on; to trample upon, မြွေကိုနင်းလို့သေသည်; to sink in the water, as a boat, သည်လှေတယ်လောက်နင်းသလဲ, what is the draught of this boat? (စူး is also used); ကျွန်ုပ်အိမ်ရိပ်ကိုမျှမနင်းရပါ။

နင်းကျမ်း, *n.* a drawbridge.

နင်းကျိုးနင်းကျွံ, *adv.* slipping and sinking, as when walking in the mud, or as a person walking while under the influence of an intoxicant, မိုးသည်းရွာပြီးမှ၊ရွံ့ထဲမှာနင်းကျိုးနင်းကျွံသွားရလို့ခရီးမတွင်။

နင်းကွက်, *n.* a footprint, နင်းကွက်ရ, လမ်းတော်တော်နင်းကွက်ရပြီ။

နင်းကွင်း, *n.* a stirrup, နင်းခွက်။

နင်းခြင်းအပ် (နင်းခြင်းပြအပ်), *v.* to walk (*lit.* tread) around the boundary ridges of rice fields, on making them over to a purchaser; to beat the boundaries (လယ်ကန်သင်းရှောက်ပြီးအပ်သည်).

နင်းခွက်, *n.* a stirrup; the treadle of a loom, or other machine, ခြေနင်းခွက်။

နင်းနယ်, *v.* to tread down, to crush under foot.

နင်းနှိပ်, *v.* to press down hard with the feet, to crush.

နင်းပေး, *v.* to shampoo by treading on the body and limbs.

နစ်, 1, *v.* to sink into, be immersed, မြုပ်သည်; to pass beyond recall; applied to words or business; to faint away, *more than* မေ့ြော; လှေနစ်သွားလို့ဥစ္စာပစ္စည်းဆုံးပါးကုန်ပြီ, owing to the boat sinking, all the property is lost; သူနာနစ်သွားပြီ။စကားမေးမရဘူး. *Der.* အနစ်, and နှစ်။

နစ်နာ (*pron.* နှစ်နာ), *v.* to be difficult to bear or endure, not easy to put up with, or consent to; hence, to be severe, rigorous, oppressive, unjust; to feel aggrieved; အသက်ရှိစည်လျက်၊ပစ္စည်းအကုန်လက်လွတ်အောင်စီရင်ခြင်းသည်အလွန်နစ်နာလှပါသည်။

နစ်မွန်း, *v.* to sink into, be immersed, မောင်ဖြူသားကလေးရေနစ်မွန်းလို့သေသည်, Maung Pyu's son died by drowning, ရေနစ်လို့သေသည် is more often used in the colloquial, and နစ်မွန်း in composition.

နစ်, 2, *v.* to go back; combined with ဆုတ်, as ဆုတ်နစ်, မဆုတ်မနစ်; စစ်ရှုံးလို့ရှမ်းတပ်နစ်ခဲ့ပြီ, having been defeated, the Shan army has retreated; အကြံထုတ်မိပြီးလျှင်၊နစ်ရန်မတော်ပါ, when one has formed a plan, it is not advisable to go back (draw back).

နစ်နစ်, *adv. intensive*, to words of whiteness, ဆွတ်ဆွတ် (*infreq.*).

နစ်နစ်နည်းနည်း (*pron.* နှစ်နှစ်နဲ့နဲ့) (from အနစ်, and အနည်း), *adv.* thoroughly, to the very bottom, နစ်နစ်နည်းနည်းကြံတတ်သည်, he is in the habit of arranging his plans in a thorough manner.

နစ်နစ်နှော၍နှော, *adv.* backward and forward, from beginning to end, နစ်နစ်နှောနှောနှုတ်ပြောနေသည်။

နည်း, 1 (Pali နယ), *n.* a rule, precedent; *comp.* ဥပဒေ; a way, manner, custom, ထုံး, အတမ်း; hence တနည်းကား, *adv.* again, moreover; ထုံး is the more common word for precedent.

နည်းဥပဒေ, *n.* a statute, enactment; *see the parts.*

နည်းကျ, *v.* to be stylish; နည်းကျစွာ, stylishly.

နည်းခိုး, *v.* to learn to imitate, ယဉ်ကျေးသောသူများနည်းကိုခိုးပါ။

နည်းတူ (*pron.* နည်းဒူ), *adv.* in the same manner.

နည်းနယ, နည်းနာ, နည်းနာနယ, *n.* same as နည်း။

နည်းနိဿယခံ, *v.* to receive instruction from another, with a view of perfecting one's self in the same branch of learning or business, as a person serving his apprenticeship, နည်းခံ, ဆရာကြီးနည်းနိဿယကိုခံရလျှင်၊တတ်စရာရှိပါသည်။

နည်း, 2 (*pron.* နဲ), *v.* to be few, not many, မများ, သည်အရပ်တွင်လူနည်းသည်, there are few people in this place; အလွန်အကြံအစည်နည်းပါးသည့်လူ, a man of very few ideas; နည်း is much used in its negative form, *e.g.*, မနည်းဝေးသည်, မနည်းများသည်။

နည်းကျဉ်းစွာ, *adv.* sparingly, နည်းပါးစွာ, ခေါင်းပါးစွာ။

နည်းနည်းနောနော, *adv.* scantily, sparsely, နည်းနည်းနောနောပွေသည့်လူမဟုတ်, he is not a mischief-maker in a small way, *i.e.*, he is a great mischief-maker.

နည်းပါး, *v.* same as နည်း; *also used adverbially*, as နည်းနည်းပါးပါး, same as နည်းနည်းနောနော, သည်တောတွင်အမည်းသားငါးနည်းနည်းပါးပါးရှိပါသေးသည်။

နည်း, 3, *verb. affix, interrogative*, လဲ, တုံး; *see Gram. sec.* 110; *used in writings with the present and future tenses*, အဘယ်သို့သွားမည်နည်း, whither wilt thou go?

နတ်, *n.* said to be derived from the Sanskrit *nath*, master, husband, lord. "A *nat* is a kind of demigod, a being superior to Brahmas (ဗြဟ္မာ), some of whom inhabit the inferior celestial regions (နတ်ပြည်), while others have dominion over different parts of the earth and sky (ကိုးမြို့နတ်)." M.B. "By Burmans a *nat* is always addressed as အရှင်ကြီး. Each Burman or Talaing family has its own *nat*, and among the Talaings, persons worshiping the same *nat* are forbidden to intermarry." T.K. (84). လူကြိုက်မှနတ်လိုသည်; လူမစွမ်းနတ်မသည်, when mortals are incapable, *nats* render help; လူ့အလိုကိုနတ်မလိုက်နိုင်, *nats* cannot follow the wishes of mortals; meaning that mortals are insatiable.

နတ်သြဇာ, *n.* ambrosia.

နတ်က, *v.* to dance, as a နတ်ကတော်။

နတ်ကတော်, *n.* a *nat*-inspired female, နတ်ဝင်မိန်းမ; a sorceress.

နတ်ကနား, *n.* a shed erected for plays in honor of the *nats*.

နတ်ကနားပေး, *v.* to make a festival in which such plays are acted.

နတ်ကောက်, *n.* a kind of wild rice plant.

နတ်ကြီးငါးပါး, *n.* the five chief *nats*.

နတ်ကွန်း, *n.* a large building erected to a *nat*, နတ်ကွန်းတက်။

နတ်ကွယ်, *v.* to be born with concealed testes.

နတ်စင်, *n.* a small building erected to a *nat*; these small structures are to be seen near villages on the banks of fishery streams, also away from streams, under banyan and other trees.

နတ်စပါး, *n.* wild rice; *comp.* နတ်ကောက်; in times of great scarcity the Burmese eat this in lieu of the cultivated rice.

နတ်စာရေး, *n.* formerly a government officer who superintended the worship of *nats*.

နတ်စား, *n* food offered to a *nat*. The Karens perform a ceremony (generally when a member of a family falls sick) which is termed နတ်စားသည်, to propitiate the *nats* (generally the ကိုးမြို့နတ်), ကရင်လူမျိုးစိအတိုင်းကိုးမြို့နတ်တင်ရန်အရက်ချက်လုပ်ကြောင်း။

နတ်ဆိုး, *n.* an evil spirit, a demon, မိစ္ဆာနတ်; *comp.* သမ္မာဒေဝနတ်။

နတ်ညှင်း, *n.* the humming moth, ဖော်ရင်း။

နတ်တင်, *v.* to offer to a *nat*, နတ်ပသသည်။

နတ်တိုက်, *v.* to assail by means of a *nat*.

နတ်ထိန်း, *n.* one devoted to the service of a *nat*.

နတ်နှုတ်နာ, *v.* to listen to an oracular response, နတ်အမိန့်တော်နာခံရသည်။

နတ်ပန်း, *n.* a twig of certain trees (မယားကြီး, မယားသိမ်), used in religious offerings; any red flower.

နတ်ပသ, *v.* to offer to a *nat*, နတ်တင်သည်; နတ်ကိုး, to make a provisional offering to a *nat*, with the intention of supplementing it with a more substantial offering, at some future time.

နတ်ပုဂ္ဂိုလ်, *n.* a celestial being, ဖြစ်ထွန်းပုဂ္ဂိုလ်။

နတ်ပူး, *v.* to be possessed by a *nat*, နတ်ကပ်။

နတ်ပြည်, *n.* an abode of *nats*.

နတ်ပြည်ခြောက်ထပ်, *n.* the inferior celestial regions (ဒေဝလောက), consisting of six stages or stories (85).

နတ်ပြည်စံ, *v.* to die, as a king. The Burmese in speaking of the monarch immediately preceding the reigning one, styled him နတ်ပြည်စံမင်းတရားကြီး, *e.g.*, when King Thibaw was reigning, King Mindon

was called နတ်ပြည်စံမင်းတရားကြီး, နတ်ရွာကြွ, နတ်ရွာပြောင်း, နတ်ရွာလား။
နတ်ပွက်, *v.* to be hidden or kept out of the way for a short time by a *nat*.
နတ်ဘမ်း, နတ်ဘမ်းစား, *v.* to be permanently possessed by a *nat*, so as to cause loss of reason, or some serious physical defect.
နတ်ဘို့, *n.* same as နတ်ပြည်ခြောက်ထပ်။
နတ်မိစ္ဆာ, *n.* an evil *nat*.
နတ်ရကာ, *n.* an offering to a *nat*; နတ်ရကာပွဲ။
နတ်ရေစင်, *n.* water offered to a *nat*, သူနာကိုနတ်ရေစင်ဖျန်းသည်။
နတ်ရွာစံ, *v.* to die, as a prince or princess; *comp.* နတ်ပြည်စံ။
နတ်ဝင်, *n.* a person possessed by a *nat*, as a နတ်ထိန်း, or နတ်ကတော်။
နတ်ဝိဇ္ဇာ, *n.* knowledge or skill acquired by commerce with a *nat*.
နတ်သတ်, *n.* a dead tree (*Forestry*).
နတ်သတ်ကောင်လဲ, *n.* a term applied by forest officers to trees that have been blown down, or have fallen through other natural causes, ကောင်လဲနတ်သတ်။
နတ်သူငယ်, *n.* a young *nat*, or one that causes a person to speak with the voice of a child.
†နတ်တော် (*freq. pron.* နဒေါ်), *n.* *Natdaw*, the ninth month in the Burmese year, nearly answering to December.
နန့်, *v.* to wag, as a dog's tail; one kind of လှုပ်; to be light, wanton, vain, unsteady in deportment or conduct; *less than* ကမြင်း. *Der.* နှန့်။
နန့်တက်, နန့်ထိုး, *v.* to be light, vain, unsteady in deportment or conduct; *used in some adverbial forms*, နန့်နန့်တက်, နန့်နန့်ထိုး။
နန်း, 1. *n.* a royal palace, abode of a king; *in certain connections*, the occupant of a palace.
နန်းကျ, *v.* to be dethroned.
နန်းချ, *v.* to dethrone.
နန်းစည် (*pron.* စဉ်), *used adjectively*, hereditarily belonging to the crown, as နန်းစည်ငွေ, crown money; နန်းစည်ပတ္တမြား, crown jewels; နန်းစည်လှေတော်, crown boats; နန်းစည်အမြောက်, crown ordnance.
နန်းစံ, *v.* to enjoy royalty; နန်းစံထီးဆောင်းမင်း, a reigning monarch.
နန်းစိုက်, *v.* to erect a palace; နန်းစိုက်မြို့, the city in which the king holds his court, the metropolis of a kingdom.
နန်းဆက်ပြတ်, *v.* to become broken in succession, as a regal line.
နန်းဆန်, *v.* to ascend a throne.
နန်းညွန့်နန်းလျာ, *n.* the heir apparent of a crown; *see* နန်းလောင်း။

နန်းတက်, *v.* to begin to reign; *lit.* to ascend to the royal abode.
နန်းတင်, *v.* to place upon the throne.
နန်းတော်သား, နန်းတော်သူ, နန်းတွင်းသား, နန်းတွင်းသူ, *n.* persons, male or female, belonging to the palace.
နန်းတော်သားစု, *n.* the occupants of a palace (collectively).
နန်းတွင်းနား, *n.* a kind of border on a petticoat, အတွင်းဆင်, အတွင်းနား။
နန်းထိုင်, *v.* to occupy a throne; *lit.* to sit on a throne.
နန်းမတော်, *n.* the chief queen, တောင်ညာနန်းမတော်; နန်းမတော်မိဘုရားကြီး, နန်းမတော်မိဘုရားခေါင်ကြီး; နန်းမတောင်ညာတင်ထား၍မိဘုရားကြီးအရာကိုပေး၏။
နန်းမြင့်, *n.* the high conning-tower adjoining the palace.
နန်းရိုး, *n.* a royal dynasty, ထီးရိုးနန်းရိုး။
နန်းရိုးနန်းစည် (*pron.* စဉ်), နန်းရိုးနန်းဆက်, *n.* same as နန်းရိုး။
နန်းလောင်း, နန်းလျာ, *n.* the heir apparent of a crown.
နန်းသက်, *n.* the time during which a king reigns.
နန်းသက်ရှည်, *v.* to reign for a long time.
နန်းသံ, *n.* a courtly pronunciation.
နန်းသုံးနန်းဝတ်, *n.* palace fashions (in dress, etc.).
နန်း, 2. *n.* a plate of iron or wood perforated with small holes; hence ကြိုးနန်း, a machine for twisting ropes.
နန်းကြိုး, နန်းချည်, *n.* wire.
နန်းကြိုးတပ်, *v.* to wire, နန်းချည်ခတ်သည်။
နန်းကြိုးရိုက်, *v.* to telegraph, ကြေးနန်းရိုက်။
နန်းငင်, နန်းဆွဲ, *v.* to draw wire.
နန်းတိုက်ကြိုး, *n.* twisted rope.
နန်းပေါက်, *n.* a hole in a perforated iron plate; the hole in the wheel of a Burmese cart, in which the box (ပုံတောင်း) is inserted.
နန်းလှီး, *v.* to cut leather into strips; also applied to slicing mangoes and green ginger in a particular way for pickling; *see* ဖိုးတီလှီး။
နန်းတရုပ် (ပင်), *n.* the tree which produces the balsam of Peru, liquid amber, *Altingia excelsa.*
နန်းတော်ကျား, *see* ငန်းတော်ကျား, *n.* the yellow-banded bungarus.
နန်းတော်ရှည်, *see* ငန်းတော်ရှည်, *n.* a kind of serpent.
နန်းလုံးကြိုင်, *n.* the *Vachellia* tree, producing a gum with all the properties of the gumarabic of commerce.
နပ်, *v.* to be sufficiently cooked, as grain or vegetables cooked in water; particularly applied to rice steamed after boiling, ထမင်းနပ်သည်; *fig.* applied to the accomplishment of an end, အကျိုးနပ်သည်; is also used in the sense of being well-informed, knowing, as တယ်နပ်သည့်လူ, a

very knowing man. It is sometimes used in a sarcastic sense, တယ်လူနပ်လုပ်ချင်သည်, he wants, very much, to appear as a well-informed man. *Der.* အနပ်, ကြေနပ်, နူးနပ်, and နှပ်။

နပန်း (*pron.* နဗန်း).

နပန်းကိုင်, နပန်းချ, နပန်းလုံး, နပန်းလုံးချ, *v.* to wrestle, နပန်းလုံးတတ်သလား, can you wrestle? လုံးတွေးသည်; လုံး is sometimes used alone, လုံးကြနို။

နပန်းကျွင်, *v.* to be skilled in wrestling.

နပန်းဆရာ, *n.* a professor of wrestling.

နပန်းထိုင်, *n.* an umpire in a wrestling match, လက်ရွေထိုင်။

နပန်းပွဲ, *n.* a wrestling match.

နပုလ္လိင် (*pron.* နပုံးလိန်) (from နပုံ, and လိင်္ဂ), *n.* the neuter gender.

နပုံ (Pali နပုံသက), *n.* one who is neither male nor female.

နဖား, *n.* the eye of a needle, အပ်နဖား; သစ်နဖား, timber drag-holes; the hole through the nose of a buffalo or other animal, ကျွဲနဖား; a hole through the head or large end of anything, နဖားပေါက်။

နဖားကြိုး, *n.* the cord passed through the nose of a buffalo or bullock, with which the animal is led.

နဖားချွတ်, *v.* to remove the said cord temporarily or permanently, as when the animal is old; sometimes used *fig.*, မင်းတယ်မှုအသုံးမကျဘူး၊နဖားကြိုးချွတ်လွှတ်ထားရမည်။

နဖားထိုး, နဖားထွင်း, နဖားဖောက်, *v.* to make the said hole; ကြိုး is used only with ထိုး, နဖားကြိုးထိုး။

နဖားပြင်း, *v.* to be hard to lead with a နဖားကြိုး, as a buffalo or bullock; နဖားကြမ်း။

နဖားမှ, နဖားလွယ်, *v.* to be easy to lead with a နဖားကြိုး, as a buffalo or bullock.

နဖူး, *n.* the forehead.

နဖူးစည်း (*pron.* နဖူးဇည်း), *n.* an ornament tied on the forehead.

နဖူးစာ (*pron.* နဖူးဇာ), *n.* marks on the forehead indicative of one's destiny; fate, destiny, fortune, ကံ။

နဖူးစာပါ, *v.* to be one's destiny, fate; a term applied, as a rule, to the intimate consortment of persons in this life, who in past states of existence, have been more or less closely associated or brought together by an inevitable convergence of fate. It differs from ရေစက်ပါ, since the latter generally implies that the consortment is the result of having been co-offerers of religious gifts in past existences; နဖူးစာပါ, when applied to a married couple, means that their destinies are bound up together, သူ့ကိုကျွန်မချစ်လို့မဟုတ်ပါ၊နဖ

ဖူးစာပါ၍သာ ပေါင်းထော်ရပါသည်, it is not because I love him, but only because my destiny is bound up with his, that I am compelled to live with him; to have a synastry of destiny.
နဖူးဆံ, *n.* a forelock.
နဖူးပြောင် (*pron.* နဖူးပြွောင်), *n.* a bald forehead.
နဖူးသိုင်း, နဖူးသိုင်းကြိုး, *n.* the cord by which a basket (နောက်လွယ်) is suspended from the forehead, tumpline
နဘူး, *n.* a kind of creeper, the *Combretum apetalum.*
နဘူးလိမ်, *n.* the grooving, or spiral channels of a rifle.
နဘူးလိမ်ပန်းဆွဲ, *n.* certain ornamental carved work.
နမက်နမော်, *adv.* heedlessly, in the manner of one who stares about, forgetful of his own situation.
နမကာရ (Pali), *n.* a book containing forms of worship, a liturgy, နမကာရကျမ်းစာ (နမောကာရ).
နမသလေး (*freq.* သလေး), *n.* a kind of rice plant, နမသလေးစပါး။
နမိုးနမော်, *adv. see* နမက်နမော်။
နမူးနထူး, *adv.* pretending not to hear; stunned, stupefied, as by a blow; a term applied to persons when absent-minded, unheedful, etc.; the Burmese say နမူးနထူး၊ယောင်တီးယောင်တားအလွန်ထိုင်းသည့်လူ, of a person who behaves in an absent-minded, heedless manner; နမူးနထူးနေတတ်သည့်လူ။
နမောတဿ, *an abbrev.* of the Pali sentence placed at the commencement of each book in the Buddhist Scriptures, *viz.*, နမောတဿ၊ ဘဂဝတော၊ အရဟတော၊ သမ္မာသမ္ဗုဒ္ဓဿ, ပူဇော်ခြင်းကိုခံတော်မူထိုက်ထသော၊ ကောင်းစွာထိုးထွင်း၍သိတော်မူပြီးထသော၊ဘုန်းတော်ခြောက်ပါးနှင့်ပြည့်စုံတော်မူသောဘုရားကိုအကျွန်ုပ်ရှိခိုးပါ၏, I do homage to Bagawa, replete with the six glories, worthy of worship, possessed of unerring, intuitive knowledge; နတ်ကြီးငါးပါးရှိခိုးဂါထာ။
နမော်နမဲ့, *adv.* heedlessly, in the manner of one who stares about, forgetful of his own situation, ဂရုမစိုက်၊နမော်နမဲ့နေတတ်သည်; မော်မိမော်မန်း; နမက်နမော်။
နမ်း, *v.* to smell, receive scent (*obsolete*), အနံ့ရသည်, to scent game, as a hound, ခွေးယုန်နံ့ရသည်, or as a deer scents a tiger, ဒရယ်ကျားနံ့ရသည်; to smell of; to kiss, as the Burmese; ရေနမ်း, to lap, as water, ကမ်းနဖူးရေနမ်းသည်, the water laps the brow of the bank.
နမ်းရှုပ်, *v.* to snuff up a scent audibly; to kiss အကလေးကိုနမ်းရှုပ်လိုက်စမ်းအဘရယ် (*Colloq.*).

နမ်းရှူ, *v.* to snuff up, draw into the nose, တောစပယ်အလွန်မွှေးသောကြောင့်၊နမ်းရှူလို့အားမရနိုင်ပါ။

နယ်, 1, *n.* the component parts of a territory or jurisdiction, taken collectively, whether principal or subordinate.

နယ်ခြား, *n.* intermediate space between two territories, တိုက်သူကြီးနယ်ခြားမှတ်တိုင်စိုက်ပြီးလျှင်၊ဝေခြမ်းမျှတပေးပါသည်။

နယ်ခြားဝန်, *n.* a demarcation officer, နယ်ခြားမင်းကြီး။

နယ်ခွဲ, *v. lit.* to divide a territory, မအူပင်နယ်ခွဲကတည်းက။

နယ်စပ်, *n.* the line of junction between two territories.

နယ်နိမိတ်, *n.* the outer limit or boundary of a territory, နယ်စွန်းပြည်နား, နယ်ဆိုးနယ်ဖျား; သိမ်၏နယ်နိမိတ်သတ်မှတ်သည့်ကျောက်တိုင်။

နယ်ပယ်, *n.* the component parts of a territory or jurisdiction, taken collectively, whether principal or subordinate; *see* နယ်, ပယ်နယ်။

နယ်ပိုင်, *n.* one who has control over a territory, နယ်ရှင်မိဘ, နယ်ရှင်မိဘဖြစ်သည်အတိုင်းသွားကြည့်ရှုပါသည်, as in speaking of an official controlling a tract of country.

နယ်ပိုင်ဝန်ထောက်, *n.* a subdivisional officer.

နယ်သတ်, *v.* to delimit, or fix a boundary.

နယ်သတ်ဝန်, *n.* a boundary officer.

နယ်, 2, *n.* the curved stick that stretches the cloth in the loom, နယ်ကိုင်း (two curved sticks of unequal length).

နယ်ကန်, *v.* to stretch the cloth in the loom with the curved stick (or sticks).

နယ်ကိုင်း, *n.* same as နယ် (*more common*).

နယ်ဆူး (*pron.* နယ်ဇူး), *n.* the iron points of the said stick.

နယ်, 3, *n.* a pawn in chess.

နယ်, 4, *v.* to knead with the hands, or trample to pieces with the feet, ဆင်နှင့်နယ်သည်; to tread out corn, as an ox, စပါးနယ်သည်. *Der.* ဆုပ်နယ်, နင်းနယ်, နှိပ်နယ်, and သိပ်နယ်။

နယ်ဆီ, *n.* liniment to be applied by kneading.

နယားထား (ကြိမ်), *n.* a kind of rattan, with which, under Burmese rule, the punishment of whipping was often inflicted.

နယုံ, *n.* *Nayon,* the third month in the Burmese year, nearly answering to June.

နရ, 1 (Pali), *n.* a measure of time equal to ten winks of the eye.

နရ, 2 (Pali), *n.* man, လူ။

နရထွဋ်ခေါင်, နရသေဋ္ဌနှင်း, *n.* titles of royalty or divinity, နရသေဋ္ဌနှင်းအမင်းမင်းတို့ပူဇော်ထိုက်သောဘုရား။

နရည်း, *n.* a kind of trumpet (*obs.*).
နရပတေ, *n.* a kind of mortar, most durable; one kind of ဆင်ဒတေ။
နရား, *n.* a kind of flying animal (*fabulous*), နရားပျံ။
နရိန္ဒ (Pali နရ, လူ, and ဣန္ဒ, အစိုးရခြင်း), *n.* a title of royalty, signifying one who has authority over men; နရိန္ဒာဒေဝီ, formerly, a title of the chief queen.
နရွဲ (ပင်), *n.* a tree producing a small, astringent, apple-like fruit, which is edible, the *Flocourtia cataphracta.*
နဝကမ္မ, *n.* new work, a fresh undertaking; recently acquired merit, or demerit.
နဝဒသမ (Pali နဝ, nine, and ဒသမ, tenth), *a.* the nineteenth, ဆယ့်ကိုး ခုမြောက်။
နဝမ (Pali နဝ, nine), *a.* the ninth, ကိုးခုမြောက်။
နဝရတ် (Pali နဝ, nine, and ရတန, a gem), *n.* the nine kinds of precious stones, *viz.*, ပုလဲ, pearl; သန္တာ (*pron.* သဒ္ဒါ), coral; နီလာ, sapphire; စိန်, diamond; ကြောင်, cat's eye; မြ, emerald; ဥဿဖယား, topaz; ပတ္တမြား, ruby; and ဂေါမိတ်, garnet.
နဝံပိယံ (Pali နဝံ, အသစ်, and ပိယံ, ချစ်သည်), *n.* what is lovable because new, ပုဆိုးကိုနဝံပိယံမှုချစ်သည်, နဝံပိယံမှုနှမြောသေးသည်; နဝကမ္မ။
နံ, 1 (Pali နာမ), *n.* spirit; *opposed to* ရုပ်, matter. "*Rupa* (ရူပ) signifies the material form; *nama* (နံ) signifies the whole of the mental powers; the two combined signify the complete being, body and mind." M. B.
နံရုပ်ချုပ်, *v.* to die.
နံမိညာဉ်, *n.* same as နံ။
နံ, 2, *n.* the day of the week on which one was born. In the Burmese time, when recording revenue proceedings (စစ်တမ်း), the day of the week on which a witness was born, was usually inserted, ရွာသူကြီးသောထွန်းနံတနင်္ဂနွေ၊အသက် ၄၃နှစ်သူကို၊ သူကြီးအဆက်အနွယ်နှိမ်တ် အပိုင်အခြားကို စစ်မေးသော်။
နံဂြိုဟ်, *n.* the planet which presides at one's birth.
နံ, 3, *n.* the side of a body, generally animate, but sometimes inanimate.
နံကာ, *n.* a side raised, as a partition or a screen.
နံကြိုနံကြား, *n.* the interstices of the ribs.
နံကျွန်, *n.* an armed retainer of the King of Burma.
နံချို, *n.* the back part of the side (*infreq.*); *comp.* ခါးချို။
နံငယ်, *a.* narrow, applied to cloth, particularly a waistcloth, as ပုဆိုး နံငယ်; နံကြီး, နံငယ်, နံလတ်; နံကြီးလျှားရှည်။

နံစ (*pron.* နံဇ), *n.* a black spot tattooed on a person's side, of similar import with the broad arrow on the King's Own, နံစထိုး။
နံစောင်, *n.* the side of an animal.
နံစောင်း, *n.* the edge or middle ridge of a side.
နံတို, *n.* a short rib. The Burmese believe that if the eighth rib (nearest the hindquarter) of a bullock is shorter than the others, it will bring bad luck to the owner, နိုက်တတ်သည်။
နံထပ်, *n.* a large flat-bottomed boat; *comp.* ဗိန်းကော။
နံထောင်, *n.* the raised side of a boat or ship; sometimes applied in writings to human beings, လက်ျာနံထောင်ဖြင့်စောင်းကာသိပ်ထား၍။
နံပတ်, *n.* the flesh on the ribs, နံပါးသား, နံဖေးသား; ဘယ်ဆီကိုကိုက်မည်လဲ။နွတ်သီးကိုရိုက်မည်ဟဲ့။ဘယ်ထောင့်ကထိုးမည်လဲ။ နံပတ်ရိုးကျိုးစေမည်ဟဲ့ (*Colloq.*).
နံပေါ်နံကြားထောက်, *n.* a game which children play, by putting one of the forefingers backward into the mouth, drawing it out with a jerk, and thrusting the tip of it at the ribs of another; if the finger should strike a rib, the statement insisted on by the actor is regarded as true; if it should strike between, it is considered as not proved, ထုတ်လျှင်နံပေါ်မထုတ်လျှင်နံကြား။
နံဖေး (*pron.* ဇေား), *n.* the side of a body; *see* နံ။
နံဖေးချင်းဆိုင်, *adv.* side by side.
နံဖေးစောင်း, *v.* to lie on one side, နံဖေးစောင်း၍အိပ်သည်။
နံဖေးထပ်, 1 (*pron.* နဇေားထပ်), *adv.* one edge over another, as in rabbetting boards, clapboarding, or sewing cloth; folding, as doors.
နံဖေးထပ်, 2, *v.* to rabbet, နံဖေးထပ်၍စပ်သည်။
နံဖေးနံစောင်း, နံဖေးနံပါး, နံဖေးနံဗိ, *n.* *see* နံ။
နံယပ်သား, *n.* the flesh on the side of an animal.
နံရံ, *n.* the raised side of a house, wall, etc., တံတိုင်းနံရံ, နံရံကာ, နံရံတည်။
နံရိုး, *n.* a rib.
နံ, 4, *v.* to smell offensively, to stink. *Der.* အနံ့။
နံစော်, *v.* same, သည်ခွေးသေကောင်ပုပ်နံ့စော်သည်။
†နံနက်, *by corruption* မနက်, *n.* the morning.
နံနက်ခင်း, *n.* the morning, forenoon.
နံနက်ဖြေ, *n.* the early part of the morning, နံနက်ဖြေစောလွန်းလို့၊ခရီးမသွားနိုင်ပါ။
နံနက်စာ, *n.* breakfast; a tooth-stick, တံပူး; သန့်စင်တော်, a royal tooth-stick.
နံနက်ဝတ်, *n.* matins, နံနက်ဘုရားဝတ်ပြုခြင်း။

နံနံ (ပင်), *n.* the coriander plant, နံနံခင်း။
နံနံစေ့, *n.* the seed of the same.
နံနွင်း, *n.* the turmeric plant or root; *often in colloq. incorrectly pron.* စနွင်း; နံနွင်းနက်, နံနွင်းနီ, နံနွင်းတိမ်ပြာ, နံနွင်းဝါ, different varieties of the same.
နံပတ် (Eng.), *n.* number, the figure or figures which specify a number, နံပတ်ကြီး၊နံပတ်ငယ်, terms used when speaking of seniors and juniors in government service, *i.e.*, as to what position they occupy in the Civil List.
နံ့သာ (from အနံ့, a scent, and သာ, pleasant), *n.* an odoriferous substance, of which there are five kinds enumerated in ancient writings, နံ့သာနီ, နံ့သာဖြူ, အကျော်, စံပါ, and ကရမက်, နံ့သာမျိုးငါးပါး။
နံ့သာဆီ (*pron.* နံ့သာဆီ), *n.* fragrant oil.
နံ့သာပေါင်း, *n.* a mixture of fragrant substances used in incense, နံ့သာပေါင်းပန်းပေါင်းတို့ဖြင့်လိမ်းကျံ၍ထားသောအမွှေးအကြိုင်။
နံ့သာပျောင်း, *n.* fragrant ointment.
နံ့သာပြောက်, *n.* a beauty spot; generally on the eyelids, နံ့သာပြောက်ထိုး။
နံ့သာမှုန့်, *n.* fragrant powder.
နံ့သာရည်, *n.* fragrant essence.
နံ့သာရောင်, *n.* a light yellow, straw color; *a.* နံ့သာရောင်စက္ကူ, နံ့သာရောင်ပဝါ။
နာ, 1, *v.* to listen, hearken, attend to; နာသာခံခက်, pleasant to listen to, but hard to bear, နာသာခံခက်စကားပြောသည်။
နာခံ, နာယူ, *v.* to listen with regard and acceptance, လူကြီးအမိန့်ကိုနာခံသည့်အတွင်းတွင်၊ဘယ်မှမသွားပါနှင့်, while awaiting the orders of your superiors, please do not go anywhere; ကျွန်ုပ်စကားကိုနာယူလျှင်တော်လိမ့်မည်။
နာလို, *v.* to wish to listen to; to like, be pleased with, have kind feeling towards; hence မနာလို, to dislike, hate, to be intolerant, be jealous of; *comp.* ငြူစူ; လောကထုံးစံတဦးကောင်းစားသည်ကိုတဦးကမနာလိုဘူး, သည်သူသည်မနာလိုသောစိတ်ကိုမဓိတ်မဖုံးနိုင်။
နာသည်း, *v.* to be willing to, consent to; to be acceptable, agreeable, to receive as a proposal, မနာသည်းဘူးဆိုလျှင်၊ကျွန်ုပ်မလျှော်ပါမည်။
နာ, 2, *v.* to be ill, to be in pain, to feel pain; to be hurt in one's feelings, စိတ်နာသည်; to suffer loss, damage, become impaired, or weakened, as the force of an argument, objection, owing to the superior dialectic skill of an adversary; ကျောင်းတကာဦးမောင်ကလေးအင်မတန်နာနေသည်, အစိုးရဘက်က သက်သေတို့အပေါ်တွင်၊ ရှေ့နေထုတ်လိုက်သည့်မေးခွန်းများ အလွန်နာသည်, the questions put by the advocate to the witnesses for the government, were very damaging.

နာကျင်, *v.* to be ill, to be in pain; to be hurt in one's feelings; နာကျင် is more often used with reference to bodily pain than otherwise, ထား ပြမှားကလှေသူကြီးကိုနာကျင်စွာရိုက်ပြီးလျှင်၊ထွက်ပြေးကြသည်, the dacoits ran away after severely beating the head boatman.
နာကြည်း, *v.* to be ill, to be in pain; to be hurt in one's feelings, ကျွန်ုပ်မှလင် ကျွန်မကိုနာကြည်းစွာလုပ်သွားသည်။
နာတာရှည်ရောဂါ, *n.* a lingering or protracted illness.
နာဖျား, *v.* to be in a fever, နာဖျားမကျန်းရှိသည်; *see* ဖျား။
နာလှန်ထ (*pron.* နလန်ဒ), *v.* to suffer from the effects of old disease, though convalescent; to be convalescent, ကျွန်ုပ်နာလှန်ထသောကြောင့် စားလိုအားမရှိနိုင်ပါ။
†နာကြိုး (ပင်), *n.* a kind of tree, the *Byttneriaceæ subacerifolium.*
နာဇိ (Beng.), *n.* a court bailiff; ဘိလစ် (Eng.) is superseding နာဇိ။
နာဋျ (Pali), *n.* a union of song, dance, and instrumental music.
နာနတ် (ပင်), 1, *n.* the pineapple plant; နာနတ်ချည်။
နာနတ်, 2 (Pali, နာနာ), *n.* a dissimilarity, variety.
နာနာ (Pali), *a.* or *adv.* sundry, various, အထူးထူးအပြားပြား, အသီးသီး။
နာနာဘာဝ, *adv.* same, ဝိနာဘာဝ, အညာထာဘာဝ, တစ္ဆေမှားနာနာဘာဝဖန် ဆင်းနိုင်သည်, spirits are able to assume various shapes and forms.
နာနာရုပ်, *n.* various forms (assumed by superhuman power).
နာမ် (Pali နာမ), *n.* a noun.
နာမ်စား, *n.* a pronoun.
နာမ (Pali), *n.* a name, အမည်, အမည်နာမမှတ်ထားလိုက်ပါ။
နာမကာယ (Pali နာမ, mind, spirit, and ကာယ, a collection), *n.* the mind, considered collectively.
နာမဝိသေသနာ, *n.* an adjective; *see* ဝိသေသနာ။
နာမည် (from နာမ, and အမည်), *n.* a name.
နာမည်ကောင်း, *v.* to bear a good name or reputation.
နာမည်ကြီး, *v.* to have a great name, to be distinguished.
နာမည်ခေါ်, *v.* to call by name.
နာမည်ဆိုး, *v.* to bear an evil reputation.
နာမည်ပြောင်း, *v.* to change a name, နာမည်လွှဲပြောင်း။
နာမည်မပါသော, *a.* anonymous.
နာမည်မှည့်, *v.* to name, to style, to call. The Arakanese often give their children revoltingly filthy names, in order, as they say, to ward off evil *nats.*
နာမည်လွှဲပြောင်း, *v.* to change a name, to give a false name, နာမည် လွှဲပြောင်းပြော။

နာရကတ္တိ, *n.* a diamond of the second quality; *see under* မိန်။
နာရနိ, *n.* an excellent kind of gold, နာရနီရွှေ, နာရကာရွှေ။
နာရီ (Pali), *n.* a measure of time equal to four *pads* (ပါဒ်) or twenty four minutes of English time; an hour; a watch, clock, horologe, or timepiece.
နာရီအမြောက်, *n.* a gun fired at a stated hour.
နာရီအိမ်, *n.* a watch or clock, referring rather to the case.
နာရီခွက်, *n.* a watch.
နာရီစက်, *n.* the works of a clock or watch.
နာရီဆုပ် (မုန့်), *n.* a kind of confectionery.
နာရီတီး, *v.* to strike the hours, as a clock, နာရီထိုး။
နာရီပြန်, *n.* after noon, or after midnight.
နာရီမောင်း, *n.* a gong struck at a stated hour.
နား, 1, *n.* the ear.
နားအပါးနှင့်ပြောသော, *a.* auricular.
နားအုံ, *n.* the bulge behind the ear.
နားကင်း (*pron.* နဂင်း), *n.* an ornament above the ear of an image of Gautama.
နားကင်းထူ, *v.* to be thick-eared, that is, dull of hearing; to be dull of apprehension.
နားကင်းပါး, *v.* to be thin-eared, that is, quick in hearing; to be quick in apprehension.
နားကင်းဖိတ် (*pron.* နဂင်းဖိတ်), *a.* solid, not hollow; *see* နားပင်းဖိတ်; when applied to a person, signifies stupid, incapable of hearing (*infreq.*).
နားကန်ကြိုး (*pron.* နံကြိုး), *n.* a bowline.
နားကပ်, *n.* a certain ear ornament, မိန်နားကပ်။
နားကျ, *v.* to accord with, acquiesce.
နားခံ, *v.* to receive by the ear; to listen, attend to; *n.* an officer who receives an order from a higher authority, နာခံတော်, စစ်ကဲနားခံ, ရွှေနားခံတော်။
နားခံနာယူ, *v.* to listen with regard and acceptance.
နားခါး, *v.* to find bitter to the ear, to be much annoyed by hearing, မင်းပြောသည့်စကားအလွန်နားခါးသည်။
နားခေါင်, *n.* the tube of the ear.
နားချ, *v.* to convince by argument, or by evidence presented in any manner to the mind, in order to gain some benefit.
နားချည် (*pron.* ချည်), *v.* to find unpleasant to the ear.

နားချို, *v.* to find sweet to the ear, to love to hear.
နားချို, *v.* to be born deaf.
နားခွက်, *n.* the pan that holds the priming of a musket or gun; figuratively applied to quick discernment.
နားငြိမ့်, *v.* to listen with pleasure and delight.
နားငြီး, *v.* to be tired of hearing.
နားစိမ့်, *v.* to listen with thrilling pleasure; နားစိမ့်သွားသည်။
နားစေ့ (*pron.* နစေ့), *n.* a linchpin.
နားစေ့ဝေး, *v.* to be thick-eared, that is, dull of hearing; *see* နားထူ; a term also applied to timid horses, နားစေ့ (ဧွ) ဝေးလို့လန့်တတ်သည်။
နားစွင့်, *v.* to listen attentively, as when endeavoring to catch a distant or uncertain sound; applicable to animals as well as to men, နားတစွင့်စွင့်နှင့်နေသည်။
နားငြှ, *v.* to have small ears.
နားဆွဲ, *n.* a pulley, the wheel of a block.
နားဆိမ့်, *v.* to be extremely pleasant to the ear.
နားဆေး, *n.* the powder in the pan of a musket, နားယမ်း။
နားဆေးခတ်, *v.* to put powder in the pan of a musket.
နားညောင်း, *v.* to listen patiently, နားညောင်းတော်မူပါ။
နားတင်းတီး (*pron.* နဒင်းတီး), *v.* to keep up a continual repetition or din in order to force attention, as in the way of propagating scandal.
နားတောင်း (*pron.* နဒေါင်း), *n.* a hollow cylinder worn in the perforated lobe of the ear.
နားတောင်းဝတ်, *n.* the lobe of the ear, နားရွက်။
နားထင် (*pron.* နထင်), *n.* the part of the head before and above the ear, the temple.
နားထူ, *v.* to be thick-eared, that is, dull of hearing; to be dull of apprehension.
နားထောင် (from ထောင်, to erect), *v.* to listen, hearken, attend to; to mind, obey, as in the phrase, စကားကိုနားထောင်သည်။
နားထိုင်း, *v.* to be hard of hearing; *comp.* နားလေး။
နားထွင်း, *v.* to bore the ears; *see* နားဖောက်; နားထွင်းမင်္ဂလာပွဲ, to perform the ceremony of ear-boring.
နားပက်, *v.* to have large, unsightly perforations in the lobe of the ears, ရှမ်းနားပက်ကျယ်; နားပက် is also applied to an ornament worn in the perforations of the lobes of the ears.

နားပင်း, *v.* to be deaf.
နားပင်းဗိတ် (*pron.* နားဗင်းမိတ်), *a.* solid, not hollow; applied to articles that are naturally or commonly hollow, ခေါင်းဗိတ်; artificially solid; ဆင်စွယ်နားပင်းဗိတ်, ဝက်စွယ်နားပင်းဗိတ်; *comp.* စတိ။
နားပန်, *n.* an amulet worn in the ear, နားပန်လက်ဖွဲ့။
နားပန်း, *n.* the trunnion of a gun; the ear of a pail.
နားပန်းကြိုး (*pron.* နဗန်းကြိုး), *n.* a rope handle of a pail or bucket.
နားပန်းကွင်း, *n.* the curved handle of a pail or bucket.
နားပန်းစွန်း (*pron.* နဗန်းဇွန်း), *n.* the end of an axletree, နားစောင့်, ဗျည်း နားပန်းစွန်းထွက်သွားလို့ဗျည်းပျောက်သည်။
နားပန်းဆံ (*pron.* နဗန်းဇန်), *n.* an earlock.
နားပန်းဆံကြိုး, *n.* a sail rope.
နားပန်းပေါက်, *n.* the hole in the ear of a pail.
နားပါး, *v.* to be thin-eared, that is, quick in hearing; to be quick of apprehension, နားပါးသည့်လူ။
နားပုပ်နားဆွေး (*pron.* နဗုတ်နဆွေး), *int. imprecative*; may my ears perish (if I heard it), သည်စကားနားပုပ်နားဆွေးမကြားရဘူးပါဘူး။
နားပူသံကျပ် (*pron.* နဗူသံကျပ်), *adv.* in a manner painful to hear, whether teasingly, or scoldingly, နားပူသံကျပ်ထပ်တလဲလဲပြောသည်။
နားပေါက်, *n.* a perforation in the lobe of the ear; the touchhole of a musket or gun.
နားပျည်း (*pron.* နားဗျည်း), *n.* the lobe of the ear; နားပျည်းကျသည်, applied to old people.
နားဖါကော်, *n.* an earpick, နားဖာကလော်, နားဖာချူ။
နားဖါချေး, *n.* cerumen, earwax.
နားဖောက်, *v.* to bore the ears (ထွင်း is more elegant).
နားမခံသာ, *v.* to be harsh to the ear.
နားမရိုကွင်း, *n.* the ring that secures the shrouds of a boat or vessel.
နားမရိုဆိုင်း, *n.* the shrouds of a boat or ship, ရွက်တိုင်ဆိုင်းကြိုး။
နားယမ်း, *n.* the powder in the pan of a musket, နားဆေး။
နားရကင်း, နားရတင်း, *n.* an ornament or guard worn about the ears, being an appendage to a crown (သရဖူ).
နားရွက်, *n.* the ear, *lit.* the leaf of the ear; *also used as a verb*, when it has a signification similar to နားထောင်, though more elegant, ပေးသည့်အမိန့်ကိုနားရွက်ကြပါ, ကျွန်ုပ်စကားကိုနားရွက်စမ်းပါ။
နားရှက်, *v.* to be ashamed to hear.
နားလည် (*pron.* လယ်), *v.* to understand; *often followed by* တတ်မြောက်, ထချင်စကားနားလည်တတ်မြောက်သူ။

နားလေး, *v.* to be rather hard of hearing; *comp.* နားထိုင်း။
နားဝင်, *v.* to enter the ear, gain access to the mind, be persuasive.
နားဝေ, *v.* to have one's sense of hearing confused, နားဝေနေပြီ။
နားဝေနားဝါ (*pron.* နဝေနဝါ), *adv.* doubtingly, as to what is heard, နားဝေနားဝါနေသည်။
နားဝေ့, *v.* to hear indistinctly.
နားသည် (*pron.* နသယ်), *n.* the part of the head behind the ear.
နားသန်, *n.* an earring (*obs.*). *Der.* ကင်းနားသန်, ပိုးနားသန်, နားသန်ကွင်း။
နားသန်သီး, *n.* an eardrop, ရွှေနားသန်သီးပန်သည်။
နားသာ, *v.* to be pleased in hearing, နားညွတ်, နားညွတ်နူးသည်။
နားသီး, *n.* the block of a pulley, လက်ရုပ်သီး။
နားသီးစက်, *n.* same as နားသီး။
နားသွင်း, *v.* to put into the mind, either as a speaker or a hearer, နားချ်ပ်။
နားသွယ်, *n.* the part of the head under the ear.
နားဟူ, *v.* to sound, as a buzzing noise in the ear.
နား, 2, *v.* to cease from motion or action through desire for rest; to alight, as an insect, to perch, as a bird; to be arrested in its progress, as an arrow, bullet, or cannon-ball when fired at an object, *i.e.*, striking an object without forcing its way through, သစ်ပင်ကို ပစ်လိုက်သောအခါ၊ကျည်မနားဘူး; may also be used in speaking of a clean cut made by a *da*, sword, etc., ဒုန်းသီးခုတ်လိုက်သည်မှာ၊ထား မနားဘဲပြတ်သွားသည်; နံနက်နား၊နေ့နား၊ညနား, the three intervals of rest which reapers take in harvest time; နေတယ်ပူတယ်၊သစ်ပင်အောက် မှာနားကြဦးမှို့ရဲ့ (*colloq.*), the sun is very hot, let us rest under the tree; အညောင်းပြေအညာပြေခဏနားကြမို့, let us rest a little while, in order that our stiffness may be relieved.
နားနားနေနေ, *adv.* slowly, moderately; this word is usually applied to words of coming and going, and of performing manual labor, when it indicates that a journey or a work is undertaken with frequent rests, hence accomplished slowly.
နိကာယ်ငါးပါး (Pali နိကာယ, a collection), *n.* the five parts into which the Buddhist Scriptures are divided, *viz.* ဒီဃ, မဇ္ဈိ, သံယုတ္တ အင်္ဂုတ္တရ, ခုဒ္ဒက, the names of which are usually combined with the suffix နိကာယ်, ဒီဃနိကာယ်; နိကာယ်ငါးကျမ်း, နိကာယ်ငါးသွယ်။
နိက္ခမ (Pali), *n.* a departure into a wilderness, implying a renunciation of all the benefits and pleasures of social life, တောသို့ထွက်ခြင်း (86)
နိဂုံး, 1, *n.* the conclusion of a writing or book, sometimes containing a

summary, or other information, such as the writer's name, place of residence, the date of composing or transcribing, etc.; နိဂုံးဖွဲ့, နိဂုံးချုပ်, နိဂုံးသတ်, to make such a summary.

နိဂုံး, 2 (Pali နိဂမ), *n.* a small town, market village, little trading place; *comp.* ဈေးရပ်။

နိဂ္ဂဟိတ် (Pali နိဂ္ဂဟိတံ), *n.* the character (ံ), commonly called သေးသေးတင်, when combined, in words of Pali origin, with the symbol of the vowel ဣ (ိ), and in some other cases.

နိစ္စ (Pali), *n.* permanence; မြဲခြင်း, *see* ထာဝရ။

နိစ္စဓူဝ (Pali), *n.* permanence; *used also adverbially,* နိစ္စဓူဝပြုသည်, နိစ္စဓူဝနေသည်။

နိစ္စဘတ်, *n.* cooked rice offered regularly to *pongyis.*

နိဇီဝ (Pali နိ, *priv.* and ဇီဝ, life), *n.* a lifeless substance; *opposed to* သတ္တဇီဝ။

နိဒါန်း, *n.* a compendious view, a syllabus, table of contents prefixed to a work, နိဒါန်းရေးသည်; also used figuratively, နိဒါန်းထိုးလောက်သည့်လူဘဲ, နိဒါန်းတွင်နေရစ်သည်; *nedana* (နိဒါန်း) was originally applied to the introduction to the commentary on the *Jataka* stories.

နိပ်, *v.* to be kept down; chiefly applied to wind in the stomach, လေနိပ်သည်. *Der.* နှိပ်။

နိပါတ်, 1 (Pali နိပါတ), *n.* a particle prefixed or affixed, without taking the place or office of an inflection, နိပါတ်ဆိုက်အောင်ပြောတတ်သည်; *comp.* ဝိဘတ်။

နိပါတ်, 2, *n.* a short *zat*, one of the five hundred and fifty, exclusive of the ten great *zats*, ဇာတ်နိပါတ်။

နိဗ္ဗာန် (Pali နိဗ္ဗာနံ), *n.* rest from all evil; annihilation; သတ္တဝါတို့ကို နိဗ္ဗာန်တည်းဟူသော ချမ်းမြေ့သို့၊ ပို့ဆောင် ကယ်တင်တော်မူတတ်သော မြတ်စွာဘုရား; *nirvana,* အကျွတ်တရား။

နိဗ္ဗာန်ကျောင်း (*pron.* နိဗ္ဗာန်ကျောင်း), *n.* a building in which the body of a priest is laid in state.

နိဗ္ဗာန်ကျောင်းတကာ, *n.* one who makes an offering of a နိဗ္ဗာန်ကျောင်း။

နိဗ္ဗာန်စံ, *v.* to attain and enjoy *nirvana.*

နိဗ္ဗာန်ဆော် (*pron.* နိဗ္ဗာန်ဇော်), *n.* a religious crier, one who notifies and calls to worship.

နိဗ္ဗာန်ယူ, နိဗ္ဗာန်ရ, နိဗ္ဗာန်ဝင်, *v.* to attain *nirvana* (နိဝါန).

နိမ်, *v.* to be kept down; *comp.* နိမ့်; သူခိုးထားပြမှားကို၊အစိုးရမင်းနိမ်အောင်မနိုင်လျှင်၊သည်အရပ်တွင်မည်သူမျှနေဝံ့စရာအခွင့်မရှိ. *Der.* နှိမ့်။

နိမိတ် (Pali နိမိတ္တံ), *n.* a sign, mark, token, လက္ခဏာ; a mark denot-

ing the limit or boundary of a territory, နယ်နိမိတ်; the mark of gender, that is, the private parts, male or female; ယောက်ျားနိမိတ်, မိန်းမနိမိတ်; a mark or proof of something latent, or cognizable by the senses; a mark, sign of something future, an omen, prognostic, portent, တိတ်, ပုဗ္ဗနိမိတ်။

နိမိတ်ကောင်း, *v.* to be of good omen, အလွန်နိမိတ်ကောင်းသည်၊အကြံထမြောက်လိမ့်မည်။

နိမိတ်ကြီးလေးပါး, *n.* the four great signs, the sight of which induced Sidharttha to renounce the world previous to his becoming a Buddh, *viz.* an old man (သူအို), a sick and infirm person (သူနာ), a dead person (သူသေ), and a recluse (ရဟန်း) (87).

နိမိတ်ဆိုး, *v.* to be of evil omen, နိမိတ်ဆိုးသည်။သည်လမ်းသွားလို့မကောင်းပါ။

နိမိတ်တမျှည်, *n.* a mark, sign of something future, an omen, prognostic, portent, တိတ်။

နိမိတ်နမာ, *n.* same as နိမိတ်; ခင်ဗျားပြောသည့်စကားနိမိတ်မရှိ၊နမာမရှိ, sig. the words you speak have no omen (hence are of bad omen).

နိမိတ်ပြသောမေးခွန်း, *n.* a leading question.

နိမိတ်ဘတ်, *v.* to explain omens, ပုဏ္ဏားလူမျိုးနိမိတ်ဘတ်တတ်သည်ဟုမြန်မာလူမျိုးအယူရှိသည်, the Burmese believe that Brahmins are able to explain omens.

နိမိတ္တကကျမ်း, *n.* a book which explains omens.

နိမ္မာနရတိ, *n.* the fifth stage of the world of *nats*; *see under* နတ်ပြည်။

နိမ္မိတ (Pali), *a.* created.

နိမ္မိတသတ္တဝါ, *n.* a created being, creature.

နိမ့်, *v.* to be low, ပျပ်သည်; *comp.* နိမ်; to be short in stature; *comp.* ပု; သည်အိမ်တဆိတ်နိမ့်သည်၊ကြည့်မကောင်းပါ; ကံနိမ့်သည့်အခါ၊လူတကာလူဝိုင်းနှိပ်စက်ချင်သည်; သည်မှာမြေအလွန်နိမ့်သည်၊ရေဝပ်လိမ့်မည်လို့ထင်သည်, the ground is very low here; water will lodge, I think. *Der.* နှိမ့်။

နိရယ (Pali), *n.* hell, ငရဲ, နရက် or နရက။

နိဝါတ (*pron.* နိဝါဒ), *n.* lowliness, humility; နိဝါတတရား, the law of humility.

နိသိဒိုင် (Pali နိသီဒနံ), *n.* a quilt or cushion used by priests.

နိသမကာရိ, *a.* acting with care and attention.

နိဿယ (Pali), *n.* the interpretation of an original text (ပါဠိ), ပါဠိအနက်, နိဿယနာမ်စောင်။

နိဿရည်း (Pali နိဿယ), *n.* a support, guide, something to lean on or adhere to, အမှီသဟဲ, နည်း။

နိသာရည်းဆရာ, *n.* a superior teacher (inferior to ဥပဇ္ဈာယ်ဆရာ), one who is capable of laying down rules; ဓမ္မစရိယာဆရာ။
နိဿိတ, *n.* a dependent, pupil, disciple, adherent.
နီ, *v.* to be red.
နီကျင်ကျင်, နီကြန်ကြန်, *a.* or *adv.* pale red, violet; နီကျင့်ကျင့်, နီကြန့်ကြန့်, *less than* နီကျင်ကျင်, နီကြန်ကြန်။
နီစပ်စပ်, *a.* or *adv.* disagreeably reddish.
နီတီတီ, *a.* reddish.
နီတျာတျာ, နီတာရဲ, *a.* or *adv.* very or excessively red, အသားအရေနီတျာတျာရှိသည်။
နီနှမ်းနှမ်း, နီမွဲမွဲ, *a.* or *adv.* of a dull, faded, red color.
နီပြာပြာ, *a.* or *adv.* of a bluish red color, မိုဃ်းကြိုးရောင်။
နီမောင်း, *v.* to be purple, နီမောင်းသောရောင်ခြည်တော်ကိုသွတ်တော်မူသည်။
နီမြန်း, *v.* to be red; *see* နီ။
နီရဲရဲ, *a.* or *adv.* very red.
နီဝါ, *v.* to be tawny, auburn.
နီဝါဝါ, *a.* fallow in color, as a deer.
†နီတိ (Pali, ဩဝါဒ), *n.* a book of proverbs, of which there are three, *viz.*, ဓမ္မနီတိ, pertaining to religion; လောကနီတိ, pertaining to common life; ရာဇနီတိ, pertaining to government.
နီပါးဆေး (ပင်), *n.* the madder plant and root; formerly much used for dyeing cotton fabrics, the *Niba morinda* (88).
နီယတို့, *adv.* in contact, conjunction, as a planet or star.
နီလာ, *n.* a sapphire; hence သိဟိုဠ်နီလာ, an amethyst; နီလာကြိုဆံ, a term applied to sapphires which have a reddish tint.
နီလာတွင်း, *n.* a sapphire mine.
နီး, *v.* to be near, not distant, မဝေး, ရန်ကုန်မြို့တော်တော်နီးပြီလား, သူခိုးအိမ်နားနီးသူခိုး၊ တငါအိမ်နားနီးတငါ (ဖြစ်တတ်သည် understood), he who lives near the house of a thief is apt to become a thief; he who lives near the house of a fisherman is apt to become a fisherman.
နီးကမ်း, *v.* same; *seldom used assertively.*
နီးစပ်, *v.* to be contiguous, to be very near, ခင်ဘွားတို့နှင့်ယောက်သွေးနီးစပ်ကြသလား။လူပုံချင်းအလွန်တူကြသည်, ဆွေမျိုးနီးစပ်။
နီးပါး, *v.* to be near (*infreq.*). *Der.* အနီးအပါး။
နီးရင်း, *v.* to be nearly related.
နု, *v.* to be young, tender, delicate, မရင့်, မကြမ်း; to be fine in grain or texture, ချောသည်; to be done nicely or curiously, as carving, ပန်းနုသည်; to be young, as the moon, လနုသည်; to be feeble, as

the rays of the sun in the morning; to be immature in mind, inexperienced, စိတ်နု, သဘောနု; to be unseasoned, as timber, သစ်သားနုသည်; သရက်ရွက်နုသည်, သရက်ရွက်နုစပြုသည်, မန်ကျည်းရွက်နုသည်; also applied to a *paramita* which has not been fulfilled, ပါရမီနု; သည်လူအသက်နုနုကလေးရှိပါသေးသည်, this person is still of tender age; သည်စားပွဲပန်းထုသည်မှာ၊အလွန်နုသည်, the carving of this table is very delicate; သည်သူငယ်ခရီးမသွားနိုင်ပါ၊ငယ်ရွယ်နုလှသေးသည်, this child cannot travel, he is still of a young and tender age.

နုငယ်, *v.* to be young and tender.

နုထွတ်, *v.* to be very tender.

နုထွား, *v.* to be large in size for one's age.

နုနယ်, *v.* to be young, tender, delicate; to be nicely done.

နုပျို, *v.* to be in the prime of life; followed by သာယာ, in describing scenery, အလွန်နုပျိုသာယာသည့်အရပ်။

နုဖတ်, *v.* to be delicate and fresh-looking, as a person's complexion.

နုမှည့်, *v.* to be ripe and tender. as fruit, သရက်သီးနုမှည့်။

နုဝါ, *n.* tree cotton.

နုတ်, *v.* to take out, pull out, extract; *comp.* ထုတ်; to take away (one's office); to subtract (in arithmetic); to repeal (an order).

နုတ်ကိန်း, *n.* a subtrahend.

နုတ်ကြွင်း, *n.* a remainder (in subtraction).

နုတ်ထုတ်, *v.* to make an extract from a writing, ခက်ခဲသောစကားများကိုကျမ်းဂန်မှနုတ်ထုတ်ရေးသားလိုပေးပါ။

နုတ်ယူ, *v.* to take from, to subtract.

နုတ်ယူတတ်သော, *a.* privative.

နုတ်သိမ်း, *v.* to degrade from office and deprive of all insignia; to repeal (an order), အမိန့်နုတ်သိမ်းသည့်နေ့ကစ၍အတည်အမြဲမပြုစေရ, အမိန့်တော်ရုပ်သိမ်းသည်။

နုတ်သိမ်းပြန်, *v.* to revoke, ပလပ်စေသည်။

နုန်, *v.* to be unpleasant to the eye, as something grotesque, unwieldy, clumsy, or antiquated; to be outlandish; to be plain and ugly in features and dress; *fig.*, despicable, poor-spirited; တယ်နုန်သည့်နာရီကြီး, a very clumsy, large clock; တယ်နုန်သည့်အပျိုကြီး။

နုန့်, *v.* to be loose, not firm, unstable (*obs.*), မခိုင်, နဲ့သည်; to be weak, infirm, inefficient, irresolute; rather applicable to purpose, character, influence, etc.

နုန့်နဲ့, *v.* to be weak, infirm, inefficient, irresolute, တယ်မင်းသဘောနုန့်နဲ့ပါကလား (*colloq.*), your character is irresolute indeed! ပရိသတ်ထဲ

မှာခင်ဘျားနွန်နွန်နဲ့နဲ့စကားပြောတတ်လွန်းလို့၊ ရှေ့ကကဲ့သို့ ခင်ဘျားကိုအမှားက မရှိသေကြပါ။

နွန်း, 1, *n.* the deep mud or mire, on the bank or in the bed of a river; *comp.* ညွန်, and နွံ; နွန်းမြေ, land on which onions, tomatoes, pumpkins, gourds, and sweet potatoes are grown.

နွန်းကျွံ, *v.* to sink into deep mud.

နွန်းပို့, *v.* to become filled up, choked with mud, သည်နှစ်နွန်းပို့လို့သင်္ဘော များမသွားနိုင်ပါ။

နွန်း, 2, *v.* to be weak, exhausted, from fatigue or illness, or from the effects of medicine; *comp.* နွမ်း။

နွန်းချွဲ, *v.* to be in an exhausted and debilitated state, as when attacked by or recovering from cholera, or after having performed a journey which has overtaxed one's bodily strength; ဝါတ်သက် ဆေးကိုခဏခဏစားလျှင်၊အလွန်နွန်းချွဲတတ်သည်, if one takes purgative medicines frequently, one is liable to become exhausted and debilitated.

နွန်းခွေ, *v.* same as နွန်း။

နွန်းနယ်, *v.* same as နွန်း (*infreq.*), နေပူထဲတာရှည်သွားရလျှင်နွန်းနယ်တတ် သည်။

နုပ်, *v.* to be small, fine; implying many particles, ညွသည်; *comp.* သေး; to be insignificant looking; to be mean, paltry, contemptible, as language; with စည်း (စဥ်း) to cut, chop, or mince, into small pieces, နုပ်နုပ်စည်းလိုက်သည်; အပြောအဆိုနုပ်သည်; နုပ်နုပ်ညွ ညွများကိုသိမ်း ဆည်းစရာရှိပါသေးသည်။

နုမောင်, *an abbrev. of* အနုမောဒနာ။

နူ, *v.* to be leprous, to have leprosy. It is considered a great breach of good taste to use this expression in the hearing of any person afflicted with leprosy; ကိုယ်မကောင်း, or အနာကြီးရှိသည်, are substituted. The least offensive term is ကုဋ္ဌဖြစ်သည်; နူမည်အစလားသည်၊ သေမည်အစဖျားသည်၊ နူရာစုံခွဲ၊ လဲရာမှာသူခိုးထောင်း, signifying that misfortunes never come singly.

နူထွက်, *v.* to appear, as the prominent excrescences in leprosy.

နူနာ, *n.* the leprosy, ကုဋ္ဌ။

နူဝ်, *v.* to be leprous, to have leprosy.

နူး, *v.* to be made soft by some process; *comp.* ပြေ့; အုတ်မြေကိုနူး အောင်ရေနှင့်နှူးလိုက်ပါ. *Der.* နှူး။

နူးညံ့, *v.* to be fine, nice, delicate, gentle, pleasant, သိမ်မွေ့သည်။

နူးညံ့ချိုသာ, *v.* to be suave, ချိုသာသည်။

နူးညွတ်, *v.* to be well-disposed toward, affectionate, pleased with, ကြည်ညိုသည်, နှစ်သက်သည်။

နူးနပ်, *v.* to be made soft, especially by cooking; *fig.*, to be sensible, well-informed, experienced; to be well considered and cogent, as language, အပြောအဆိုနူးနပ်သည်; ဆရာကြီးအလွန်သဘောနူးနပ်သည်, the great teacher has a very experienced mind.

နေ, 1, *n.* the sun.

နေအိမ်ဖွဲ့, *v.* to form a halo, as the sun; *n.* a halo of the sun.

နေအောက်သီး, *n.* fruit that faces the setting sun.

နေကာ, *n.* a screen from the sun.

နေကျ, *n.* the decline of the sun, afternoon; နေကျသွား၊နေတက်သွား, to be born when the sun is in the decline, or in the ascent; ကျနေ အလွန်ပူသည်, the declining sun is very hot.

နေကျော်, *v.* to pass the meridian, as the sun.

နေကျော်အိမ်, *n.* a house that fronts east or west, ခင်ဗျားအိမ်နေကျော် ဆောက်သလား။

နေကြတ်, *v.* to be eclipsed, as the sun; *in colloq. freq. pron.* နေကြစ်; "the sun and moon are at regular intervals seized by the *asurs* Rahu (ရာဟု) and Ketu (ကိတ်ပြိုဟ်), and these periods are called *grahanas* or seizures (eclipses)." M.B.

နေကြာ, *n.* the sunflower, နေကြာပန်းကဲ့သို့နေ့တိုင်းမပြတ်ရှင်လန်းပါစေသော။

နေကွယ်, *v.* to disappear from view, as the sun.

နေခို, *v.* to take shelter from the heat of the sun.

နေချို, *v.* to be moderately warm, not hot, as the sun, နေချိုမှသွားကြမို့။

နေခြည်, *n.* a sunbeam, နေရောင်ခြည်။

နေစာ, *n.* the morning sun.

နေစာချို, *v.* to be the cool of the morning.

နေစာလှုံ, *v.* to bask in the morning sun, နေပူစာလှုံသည်. The Burmese believe that sick persons die, if they bask in the sun.

နေစောင်း, *v.* to be declining, as the sun in the latter part of the day, ညနေစောင်း။

နေရှယ်, *n.* the strong rays of the sun.

နေရှယ်ကျိုး, *v.* to be broken in strength, be cool, as the sun in the latter part of the day, နေအေးသည်။

နေရှယ်တောက်, *v.* to be emitted, as long shafts of sunlight through a cloud, which the Burmese regard as presaging a high wind.

နေရှယ်ထိုး, *v.* to strike powerfully, as the rays of the sun.

နေဇာမြက် (from ဇာတိ), *n.* the earliest grass, coeval with the sun and the earth, မြေဇာမြက်။

နေညာသီး, *n.* fruit that faces the rising sun.

နေညို, *v.* to be dark and cool, as the sun when covered by a cloud, နေညိုမှခရီးသွားနိုင်မည်, နေညိုမှသွားသည်။

နေတက်, *n.* the ascent of the sun, the forenoon.

နေတောင်တင် (*pron.* နေတောင်ဒင်), *n.* the time when the afternoon sun rests on the summit of a hill, or range of hills; this expression was used with reference to the time when criminals were executed at Mandalay, နေတောင်တင်လောက်ရှိလျှင်ထုတ်စေ; also used of the sun when in such position, in any locality having hills or mountains to the west.

နေတိုင်း, *n.* a sextant; နေတိုင်းနာရီ, a sun dial, နေနာရီ; နေတိုင်းနာရီစက်ဝန်း, a dial plate.

နေထီးဆောင်း, *n.* an imperfect halo of the sun; *comp.* နေအိမ်ဖွဲ့။

နေထွက်, *v.* to rise, as the sun.

နေထွက်နေဝင်, *adv.* from sunrise to sunset.

နေထွက်ဘုရင်, *n.* King of the Rising Sun; formerly a title of the Kings of Burma.

နေနည်း, *v.* to be late in the afternoon.

နေပူ, *v.* to be hot, as the sun; နေပူ, နေပွင့်, နေသာ, to be a fine day, မနေ့ကနေမသာပါ, yesterday was not a fine day.

နေပူခံသီး, *n.* fruit that is ripened in the sun; *comp.* လောင်းရိပ်ခံသီး။

နေပူစပ်ခါး, *n.* the burning heat of the sun.

နေပူစာလှုံ, *v.* to bask in the morning sun, နေစာလှုံ။

နေပြောက်, *n.* a spot of light made by the sun shining through an aperture, နေပြောက်ထိုး။

နေပွင့်, *v.* to appear through the clouds, as the sun; to be a fine day, မနေ့ကနေပွင့်သည်။သည်ကနေ့မိုးဃါးရွာသည်, yesterday was a fine day, to-day it is raining.

နေဗိမာန်, *n.* the sun, *lit.* the mansion of the sun (89); နေဗိမာန်အတွင်းကား၊ရွှေဖြင့်ပြီး၏။ အပကား၊ဖန်ဖြင့်ပြီး၏။ အတွင်းအပနှစ်ပါးလုံးပင်၊ ပူသည်သာတည်းဟုမှတ်ကုန်ရာသတည်း, နေဗိမာန်အဖြောင့်ကား၊ယူဇနာငါးဆယ်ရှိ၏။ နေဗိမာန်အဝန်းကား၊ ယူဇနာတရာငါးဆယ်ရှိ၏။

နေမင်း, 1, *n.* the sun (*poetical*).

နေမင်း, 2, *n.* a species of narcissuswort, the *Eurycles amboinensis*.

နေမြင့်, *v.* to be high in the heavens, as the sun; to be far advanced, as the morning, အိပ်ရာထနေမြင့်သည်, he is late in rising (နေစောင်း,

and မိုးလင်းချုပ် denote lateness of time in the afternoon and evening, ညဥ့်နက်, lateness of time at night).

နေရောင်, *n.* sunlight, နေ၏အလင်း။

နေရောင်ကာ, *n.* a visor; *see* နေကာ။

နေရောင်ခြည်, *n.* a sunbeam, နေရောင်နေဝါ။

နေရောင်ထိချက်, *n.* a sunstroke, နေပူလျှပ်ချက်။

နေရောင်ထိုး, *v.* to shine through an aperture, as the sun; to glare, as the sun; *more than* နေခြောက်ထိုး; နေရောင်တောက်။

နေရှိန်, *v.* to be burning, as the rays of the sun; to be radiated, as the rays of the sun.

နေဝင်, *v.* to set, as the sun; နေဝင်ဘုရင် was a title conferred on some Shan *sawbwas* by the King of Burma.

နေဝင်မိုးခြ, နေဝင်ရိတမှောင်, နေဝင်ရိရိ, နေဝင်ရိတရော, *n.* the evening twilight, the dusk of the evening, ညဆည်းဆာ။

နေဝန်း, *n.* the disc of the sun.

နေသာ, *v.* to be pleasant, as the sun in the cool of the evening; to be fair weather, မနေ့ကနေသာသည်။

နေ, 2, *v.* to stay, remain; to dwell, abide, have a residence; နေ *often gives a continuative force when it follows other verbs*, ရှိနေသည်, ကြည့်နေသည်, စွဲနေသည်; *in a protracted sense*, to wait for, ကောင်းပြီ ခင်ဗျား၊နေနှင့်ဦးနေ၌, all right, sir, you wait a bit (and see); said by way of a threat.

နေအိမ်, *n.* a dwelling house.

နေကျိုးနကြာ (from အကျိုးအကြာ), *adv.* without profit (*infreq.*), နေကျိုးနကြာသီးသည်။

နေခက်, နေမကောင်း, *v.* to feel indisposed, out of sorts.

နေခင်းထိုင်ခင်း (*pron.* နေဂင်းထိုင်ဂင်း), *n.* a place of residence, an abode, နေခင်းထိုင်ခင်းသာယာသည်။

နေထိုင်, *v.* same as နေ, but conveying a more permanent signification, ခင်ဗျားသည်အရပ်တွင်နေထိုင်သည်မှာတယ်လောက်ကြာပြီလဲ။

နေပြည်တော်, *n.* an honorific name formerly applied to the dominions of the King of Burma.

နေမြေ, *n.* land on which dwelling houses are erected.

နေရစ်, *v.* to remain behind.

နေရာကျ, *v.* to become settled, to be nicely adjusted, managed, or arranged; to be completed satisfactorily, သည်အမှုနေရာကျအောင်ပြုပါ, arrange this matter satisfactorily.

နေရာခွန်, နေရာလွတ်, *n.* situations more honorable than နေရာငါးသွယ်။

နေရာငါးသွယ်, *n.* the five posts of honor, or places of sitting in the royal presence, *viz.* တော်နေရာ, ဒူးနေရာ, စနည်းနေရာ, အတွင်းဘဝေါ်, ဖြင်ထဝေါ်။

နေရာတော်ခင်း (*pron.* ဓော်ဂင်း), *n.* the person in a dramatic performance who prepares the royal apartments for the king and queen.

နေရာထိုင်, *n.* a cushion, ဖုံ။

နေရာဖုံ, *n.* same.

နေရာဝင်, *v.* *see* နေရာကျ; နေရာသောဝင်။

နေ့, *n.* a day, from sunrise to sunset; *opposed to* ညဉ့်; *comp.* ရက်, a natural day of twenty-four hours; နေ့ချင်းပြန်နိုင်သည့်ခရီး။

နေ့ကောင်းရက်သာရွေး, *v.* to select a propitious day for an undertaking.

နေ့ခင်း, *n.* the middle of the day, from about noon till about 3 p.m.

နေ့ခစားငှါး (*pron.* နေ့ဂစားငှါး), *v.* to work by the day, to work for day wages.

နေ့ချင်း, *adv.* the selfsame day.

နေ့စားငှါး, *v.* to work for day wages.

- ~စားလုပ်, *v.* to work by the day.

နေ့စားလိုက်, *v.* to engage one's self and serve for day wages.

နေ့စေ့လစေ့, *v.* to be fulfilled, as the time of a woman who is *enceinte.*

နေ့ခွဲ, နေ့ခွဲရက်ချုပ်, *n.* a record of the time and circumstances of one's birth, made for astrological purposes.

နေ့နံ, *n.* the day of the week on which one was born; *see* နံ, 2.

နေ့ပုပ်, *n.* a bad day, either one spent in vain, or one marked by unlucky omens, ရက်ပုပ်; ပြဿဒါးရက်။

နေ့လယ်, *n.* the middle of the day; နေ့လယ်ကြောင်တောင်, in glaring daylight.

နေ့လယ်စာ, *n.* a midday meal; နေ့လယ်စာကျွေး, to give a midday meal.

နေ့ဝါ, *n.* lessons to be learned or recited by day; ဓနည်းငါးကျမ်း, သုတ်သုံးကျမ်း, etc.

နေ့သင့်နံသင့်မှည့်, *v.* to give a name, the initial of which is one of the letters belonging to the day on which a person was born.

နဲ, *see* နည်း, *v.* to be few.

နဲ့, *v.* to be loose, not firm, နွဲနဲ့သည်, ကျွန်ုပ်သွားတချောင်းနဲ့နေသို့ထမင်းအစားရခက်သည်; သည့်တိုင်နဲ့တုပြုံလဲတော့မည်, ပညာသမာဓိနည်းသောသူများ၊ သူတပါးလှုပ်ရှားတိုင်းနဲ့သည်, those who are deficient in wisdom and tranquility of disposition, are agitated whenever others move. *Der.* ညွှဲနဲ့, နွဲနဲ့, and နဲ့။

နောက်, 1, *n.* the space behind (a thing); sometimes, past time, အရင်, but commonly, future time, ရှေ့. *Der.* အနောက်။

နောက်ကင်းတပ်, *n.* the rear guard.
နောက်ကျ, *v.* to fall behind, be late, ခင်ဗျားနောက်ကျလို့စားစရာသောက်စရာကုန်ပြီ။
နောက်ကျုံ့, *v.* to be contracted or small in the hinder parts.
နောက်ခေါက် (from အခေါက်, a time, turn), *n.* a future time, နောက်တခေါက်။
နောက်ခို, *v.* to keep behind, from reluctance to come forward, မင်းနောက်ကဘာဖြစ်လို့ခိုနေသလဲ။
နောက်ခိုင်း, *v.* to turn the back in contempt, ကျောခိုင်းသည်, နောက်ခိုင်းနေရမည်လား။
နောက်ချေး, *n.* dung, manure, ဆင်ချေး, မြင်းချေး, နွားနောက်ချေး။
နောက်ချေးချ, *v.* to manure (*vulgar*), မြေဩဇာကျွေး (*polite*).
နောက်ချေးပိုး, *n.* a kind of beetle.
နောက်စေ့, *n.* the protuberance of the occiput.
နောက်ဆက်တွဲ, *n.* a supplement, as to a Gazette, or any publication.
နောက်ဆံ, *n.* the hair on the back part of the head.
နောက်ဆုတ်, *v.* to retrograde, fall back, retreat; *adv.* retreatingly, retrogradingly.
နောက်ဆုံး, *a.* last, final.
နောက်ဆုံးဗိတ် (*pron.* ဗိတ်), *n.* the very last; *adv.* နောက်ဆုံးဗိတ်သွားသည်, နောက်ဆုံးဗိတ်ရောက်သည်။
နောက်ဆိုင်းကြိုး, *n.* a backstay.
နောက်တပ်, *n.* the rear of an army or fleet.
နောက်တဖန်, *adv.* again, once more, နောက်တဖန်လာခဲ့ဦး, come again, another time.
နောက်ထပ်, *adv.* immediately after, နောက်ထပ်လိုက်ခဲ့ပါ, နောက်ထပ်ချင်းလိုက်သွားသည်; *n.* an addendum, နောက်ဆက်တွဲ, additional, နောက်ဆက်။
နောက်ထောက်ကျောခံ, *n.* *lit.* a back prop or stay; *fig.*, a stay, prop, support, နောက်ထောက်ကျောခံမရှိလို့အားနည်းပါသည်, as I have no support, I am weak.
နောက်ထောက်ငွေ, *n.* supplementary sums of money furnished to the families of အမှုထမ်းများ, at the capital of U.B., by their relatives living at home.
နောက်ထိုးသေနတ်, *n.* a breech-loading rifle or gun.
နောက်နောက်က, *n.* and *adv.* past time, နောက်နောက်ကလွန်ခဲ့သမျှဝန်ချပါ၏။
နောက်နောင်, *n.* future time; *see* နောင်။
နောက်ပစ်, *n.* the mark (^), *e.g.*, အဲ။
နောက်ဗိတ်ခွေး, *n.* the iron ring or band at the end of a *da* handle; *fig.*, ထားမနောက်ဗိတ်ခွေးလောက်မျှအထိုးတန်သည့်လူမဟုတ်ဘူး။

နောက်ဖိတ်ဘိနပ်, *n.* a European shoe or boot, ဖွတ်ဘိနပ်။
နောက်ဖိုးကြိုက်, *v.* to love in secret; ဖိုး is oftener used alone, အညာသူကလေးကိုလိုက်လိုက်ဖိုးသည်။
နောက်ဖိုးလေ, *n.* a wind directly aft.
နောက်ပြန်, *adv.* backward, နောက်ပြန်ကောက်, ရှေ့ကျွမ်း၊နောက်ပြန်ကျွမ်း, နောက်ပြန်ယူ။
နောက်ဖယ်, *n.* the back part of the head just below the protuberance of the occiput.
နောက်ဖယ်တွင်း, *n.* same, နောက်ဖယ်တွင်းနက်သောသူမှားပျင်းတတ်သည်။
နောက်ဖေး, *n.* the back side or back precincts of a house.
နောက်ဖေးနောက်ဗီ, *n.* same as နောက်ဖေး။
နောက်မှ, *adv.* subsequently, ငင်းနောက်။
နောက်ယုတ်, *adv.* from better to worse.
နောက်ရောင်လိုက်, *v.* to follow at a distance for the purpose of watching, ဟိုလူကိုနောက်ရောင်လိုက်သွား, follow and watch that man.
နောက်လိုက်နောက်ပါ, *n.* a follower.
နောက်လွယ်, *n.* a large basket suspended from the shoulders or the forehead.
နောက်လွယ်အိတ်, *n.* a bag suspended from the shoulders.
နောက်လွယ်ပုံး, *n.* a large oval basket (with cover) suspended from the shoulders or the forehead.
နောက်သားနောင်လာ, *n.* posterity.
နောက်သို့, *adv.* backwards, ရန်သူတို့က၊နောက်သို့ဆုတ်သွားကြသည်။
နောက်သို့လှန်သော, *a.* reflex.
နောက်, 2, *v.* to be dirty, foul, as water; to be turbid, not clear, not transparent, မကြည်, မကြည်လင်; တယ်နောက်သည့်လူ, တယ်သည်ရေနောက်ပါကလား(*colloq.*); ကျွန်ုပ်သည်ယနေ့စိတ်နောက်နောက်ကျိကျိရှိသည်, I am in a very perturbed frame of mind, to-day. *Der.* စိတ်နောက်, and နှောက်။
နောက်ကျိ, *v. see the parts.*
နောက်ကျု, *v.* same as နောက်။
နောင်, *n.* future time; *sometimes used as a verb in the participial form,* နောင်သောကာလ, နောင်သောအခါ; နောင်အရေးကိုမြော်မြင်နိုင်မှကောင်းသည်။
နောင်တ (from နောင်, and တ), *n.* regret, repentance.
နောင်တရ, *v.* to regret, be sorry for, repent of, အမှုပြုပြီးနောက်မှ၊နောင်တရသည်။
နောင်တော် (from အနောင်), *n.* an elder brother, royal or divine, နောင်တော်ဘုရင်မင်းခေါင်း, နောင်တော်မင်းမြတ်; the three Buddhas preceding

Gautama are styled နောင်တော်, *e.g.*, နောင်တော်ကဿပ (အရိမေတ္တေယျ is styled ညီတော်).

နောင်နင်, 1, *adv.* backward and forward, to and fro (*obs.*).

နောင်နင်, 2, *adv.* applied to the tinkling of small bells, ဆည်းလည်း (ဆွဲလွဲ) သံနောင်နင်နောင်နင်ကြားသည်။

နောင်နောင်, or တနောင်နောင်, *adv.* ringingly, ခေါင်းလောင်းသံနောင်နောင်ကြားသည်။

နှော့, *v.* to be immodest, indecent (*infreq.*), ကနှော့သည်, ကမြင်းသည်, ကလက်သည်, အရွှန်းနှော့သည့်လူ။

နှော့နီးနှော့နဲ့, နှော်နီနှော်နဲ့, *adv.* in a weak, infirm manner, သည်လူထမ်းရှောက်သည်မှာ၊နှော့နီးနှော့နဲ့တယ်ရှိုင်သည်။

နော်, *verb. affix, soliciting acquiescence* (*colloq.*), နက်ဖြန်လာပါ၊နော်, come to-morrow, won't you? ဆတ်ဆတ်လာပါနော်ဆရာကလေး, be sure to come, won't you, little teacher?

နိုင်, 1, *v.* to prevail, conquer, overcome, အောင်သည်; to be competent to perform; to abound, be prevalent, များသည်, အားကြီးသည်; to be overmuch, excessive, as salt, *ngapi*, or oil, in food; သည်လူကိုမိန်းမတယ်နိုင်သည်, တယ်သည်လူဆိုးနိုင်ခက်သည်; စေဇင်ကိုသိုက်နိုင်သည်။သိုက်ကိုတံဆောင်နိုင်သည်။ တံဆောင်ကိုဗိရိယနိုင်သည်။ ဗိရိယကိုဥာဏ်နိုင်သည်။

နိုင်ချင်း (*pron.* နန်းချင်း), *adv.* by equal weight; in equal proportions or quantities; on a par; မြင်းကိုစပါးနှင့်ကုလားပဲနိုင်ချင်းစပ်ကျွေးပါ, ကျွန်တော်ထိုးဘူးလုပ်သည်မှာ၊လက်ခနိုင်ချင်းပေးရသည်။

နိုင်တက်စီးနင်း, *adv.* in a domineering, overbearing manner, နိုင်တက်စီးနင်းပြုသည်။

နိုင်နင်း, *v.* to be master of, to hold in subjection, အမိန့်တော်မြတ်ကိုမဆန်လျှင်၊နိုင်နင်းအောင်ဆုံးမရမည်။

နိုင်, 2, *qual. verb. affix,* potential, can, able to, မသွားနိုင်ပါ, ပေးနိုင်ပါမည်လား။

နိုင်ငံ, *n.* a kingdom, a country under one jurisdiction or government, ထိုင်းနိုင်ငံ; authority, power; also used figuratively, တဏှာနိုင်ငံ, the domains of lust; လောဘနိုင်ငံ, the domains of cupidity.

နိုင်ငံအုပ်, *n.* the President of a Nation; သမတမင်း, the President of a Republic; နိုင်ငံအုပ်အရာ, the Presidency.

နိုင်ငံခြားမင်းကြီး, *n.* formerly the Minister of Foreign Affairs at Mandalay.

နိုင်ငံခြားဝန်ထောက်, *n.* an assistant to the above, နိုင်ငံခြားဝန်ထောက်ဦးချိန်။

နိုင်ငံသား, *n.* a native of a country, ကျွန်တော်သည်နိုင်ငံသားမဟုတ်၊ဘိုဆိုင်ဖြကပါ (*Colloq.*).

နိုဝင်ဘာ (Eng.), *n.* November, နိုဝင်ဘာလ, nearly answering to the Burmese တန်ဆောင်မုန်းလ။

နို့, 1, *n.* the breast of a female, နို့အုံ, ရင်သား, သားမြတ်; milk, နို့ရည်; နွားနို့, cow's milk; the spout (of a pot, etc.), နှုတ်သီး. *Der.* အနို့။

နို့အစ်ခဲ, *n.* curdled milk ejected from the stomach of an infant.

နို့အုံ, *n.* the breast of a female; an udder.

နို့ကြက်တက်ရည်, *n.* the serum or thin, watery part of milk, separate from the curd; *comp.* ဒိန်ရည်။

နို့ကွာ, *v.* to be weaned.

နို့ခဲ, *n.* curdled milk, curd, နို့ဓိုင်။

နို့ခွါ, နို့ခွဲ, *v.* to wean.

နို့ဃဏာ, *n.* rice boiled in milk; *see* ဃဏာ။

နို့စည်, *n.* milk preserved in hermetically sealed tins, condensed ~ evaporated

နို့စားနွားမ (*pron.* နို့ဇားနွားမ), *n.* a milch cow; *see* နို့ညှစ်နွားမ။

နို့ဓိုင်, *n.* curdled milk, curd, နို့ခဲ။

နို့စို့, *v.* to suck milk; *n.* a suckling, နို့စို့သူငယ်; နို့စို့ဘက်, a child-hood friend, of one's own age; a foster brother.

နို့ဆာ, *v.* to be hungry for milk, as an infant.

နို့ဆီ, *n.* cream, မလိုင်။

နို့ညှစ်, *v.* to milk. နို့ညှစ်နွားမ, *n.* a milch cow.

နို့ညှာ, *n.* a child who is about to be weaned in favor of a younger child.

နို့တိုက်, *v.* to nurse, give milk.

နို့တိုင်, *n.* a dug, the teat of a beast.

နို့ထိန်း, *n.* a wet nurse.

နို့ထွက်, *v.* to yield milk.

နို့ခမ်း, *n.* soured or curdled milk.

နို့ပျည်း (*pron.* ပျဉ်း), *n.* the pendulous flesh of a woman's breasts, နို့ပျည်းကျသည်။

နို့ပြက် (from ပြက်, to stick in the throat), *v.* to be deprived of the mother's milk.

နို့ရည်, *n.* milk, နို့ရည်ကောင်းလျှင်၊သားထွားကျိုင်းသည်။

နို့ရည်တည်, *v.* to secrete a milky fluid, as cereal plants, စပါးနို့ရည်တည်, ပြောင်းဖူးနို့ရည်တည်။

နို့သည်, *n.* a wet nurse, အမိမဟာထို့နို့သည်ငှါးတိုက်သည်; any vender of milk.

နို့သီး, *n.* a nipple, pap, the teat of a woman.

နို့, 2, *a corruption of* သို့, *adv.* thus, နို့မှကြောက်မည်။

နိုတစ်စာ (Eng.), *n.* a legal notice.
နိုး, 1, *v.* to awake (*intrans.*). start (of car) *Der.* နှိုး။
နိုးကြား, *v.* to be quick to hear while asleep, to awake easily, အအိပ်ဆတ်သည်; to be on the alert, to be vigilant, watchful; နိုး နိုးကြား ကြားအိပ်ကြနေ၏။
နိုးချုပ်, *v.* same (*infreq.*); to have broken sleep, တခါတည်းအိပ်ပျော်သွားသည်၊ နိုးချုပ်ခြင်းမရှိ, ညကသတိထား၍အိပ်ရသောကြောင့်၊ ခဏခဏအိပ်ချုပ်ခြင်းရှိသည်။
နိုးနာ, *v.* to listen with attention and deference, မင်းငါ့စကားမနိုးမနာပြုတတ်သည်။
နိုး, 2, *verb. formative*; *see Gram. sec.* 125, 4th; denotes what is likely to take place, သင်္ဘောရောက်နိုးနိုးထင်သည်, သင်္ဘောရောက်နိုးနိုးစောင့်နေသည်, he is waiting, expecting that the ship will arrive; ခင်ဗျားခေါ်နိုးနိုးစောင့်နေသည်, I was waiting, expecting you would call me, sir.
နိုးနိုး, same, စနိုး။
နိုးနိုးနောင်နောင်, *adv.* ringingly, နောင်နောင်။
နွင်းနက်, *n.* a kind of plant.
နွတ်စက္ကူ, *n.* a currency note.
နွမ်း, *v.* to be dull, faded, wilted, မလန်း, ညှိုးသည်; to be worn out, exhausted, from any cause; *comp.* နုန်း; ခင်ဗျားသည်လိုပြောပေအယ်လို့ ဂုဏ်အသရေနွမ်းခြင်းမရှိ (*colloq.*), though you should speak thus, sir, my character is not tarnished.
နွမ်းနှဲ့, *v.* to be weak and infirm.
နွမ်းနယ်, *v.* same as နွမ်း။
နွမ်းပါး, *v.* to be in distressed or needy circumstances; *usually preceded by* ဆင်းရဲ, ဆင်းရဲနွမ်းပါးသောကြောင့်၊ ပရိသတ်ထဲ၌မဝင်နိုင်ပါ, မရှိနွမ်းပါး။
နွမ်းရိ, *v.* to be worn out, exhausted.
နွမ်းဟောင်း, *v.* to be faded and old, as clothes.
နွယ်, *v.* to stretch along, as a creeper; *n.* a creeper. *Der.* အနွယ်, and နွယ်။
နွယ်ကစွန်းပွ, *n.* the moonflower, *Calonyction Roxburghii.*
နွယ်ချို, *n.* a sweet creeper; wild liquorice.
နွယ်စပ်, *n.* the *Symphorema involucratum*, a leaf-shedding, large, woody climber, bearing little clusters of small, white flowers.
နွယ်ညို, *n.* a kind of creeper, a species of *Thunbergia*, much used in making fish traps (ယင်း).
နွယ်နီ, *n.* the hairy *Lettsomia*, နွယ်နီမြွေရှောက်။
နွယ်ပင်, *n.* any vine.

နွယ်ပေါက်ငှက်, *n.* a kind of bird (Pali ဇီဝဇီဝ).
နွယ်ဖလံ, *n.* the creeping *Bauhinia.*
နွယ်ရစ်, *v.* to entwine a tree, as a creeper. The Burmese are averse to using the timber of a tree around which a creeper has entwined, being of the opinion that it brings ill-luck.
နွယ်ရှင်, *n.* a kind of wormlike insect said to resemble a creeper; hence its name; it frequents marshy tracts of country, and swift running streams. The Burmese believe that to drink the water in which this insect is found, is certain to cause malarial fever.
နွယ်လိမ်, *n.* the spiral winding of a creeper, ဝက်အူရစ်။
†နွယ်တာ, *n.* the twelfth month, တပေါင်း (*obs.*).
နွံ, 1, *n.* the sediment of muddy water, whether deposited as alluvium on the bank of a river (သောင်), or as settlings in a vessel; *comp.* အနစ်, အနည်, and နုန်း။
နွံကျ, *v.* to become deposited, or to collect, as settlings in a vessel, ဖန်ခွက်ထဲမှာရေနောက်သည်၊မနောက်သည်မပြောနှင့်တော့၊နွံတောင်ကျသေးသည်။
နွံနစ်, *n.* same as နွံ။
နွံ, 2, *v.* to sink, become low, as a piece of ground, or a post in the ground; to be submissive, compliant; *not used singly,* နွံကျသည်, နွံဆင်းသည်. *Der.* ကျိုးနွံ, and နွံနာ။
နွံနာ, *v.* to listen with respect and submission; *comp.* နိုးနာ; သည်လူကိုတခါတည်းနွံနာအောင်ဆုံးမလိုက်မည်, I will admonish this man so as to make him submissive, at once.
နွား, *n.* a bull, ox, or cow; နွားတရှည်, a pair of bullocks; a block on a cross beam which receives the foot of a short post; နွားအိုမြက်နုကြိုက်, *lit.* the aged bullock loves tender grass; which in its application signifies that old men are partial to young wives; နွားတတက်ကောင်းထိုချောင်းမကူးနိုင်, meaning that united action is necessary in carrying out an undertaking with others.
နွားကန်ကြိုး (*pron.* နဂန်ကြိုး), *n.* reins, used to guide oxen.
နွားကျောက်, *n.* the cowpox; နွားကျောက်ရည်, vaccine virus.
နွားကျောက်ထိုး, *v.* to vaccinate.
နွားကျောင်း, နွားထိန်း, *n.* a cowherd.
နွားထီး, *n.* a bull or ox; နွားထီးကလေး, a steer.
နွားနောက် (*pron.* နနောက်), *n.* an animal which is a cross between a bullock and a buffalo, with horns and fore quarters like a buffalo, and body and hump like a bullock.
နွားနို့ (*freq. pron.* နနို့) *n.* cow's milk, နွားနို့ရည်။

နွားနှုတ်စွပ်, *n.* the muzzle used on bullocks or cows, when treading out grain, နှုတ်ပိတ်။

နွားပေါက်, နွားပိုက်, *n.* a bullock, steer.

နွားပြိုး, *n.* an ox, နွားသင်း, နွားသင်းပြိုး။

နွားပြေးကောင်း, *v.* to be able to run well, as a bullock; the paces of a bullock are the following, အရှိန်သွား, ခါးဆုံပြေး, သမင်ပြေး, ခြေဆင်သွား။

နွားဘွေ, *n.* a circular flexure which is found in the hair of bullocks; the following are some of the flexures of bullocks, *viz.*, ဇိမ်ခြွောင်ဝစ်, စည်ကြိုးပိတ်, ဘောက်ထွဲနံ့ထို, ဘွေချက်ဖောက်, ဘွေမျက်ကြား, သျှပ်တပြက်မွေး, ဝါးနေ့တလုံး, တဝါးနေ့ပြောက်။

နွားမ, *n.* a cow (*freq. pron.* နမ).

နွားမတန်း (*pron.* နမဒန်း), *n.* a heifer, နွားမကလေး။

နွားမနို့သန့်လျက်, *n.* the *Capparis horrida*, a large scandent shrub, armed with short, laterally compressed, curved thorns. It bears white flowers about an inch in diameter, and red berries about the size of a prune.

နွားမလိုက်စောင် (*pron.* နမလိုက်စောင်), *n.* a kind of coverlet.

နွားလည်ပို့ (*pron.* နွားလပို့), *n.* the hump between an ox's shoulders.

နွားလားဥသဘ, *n.* the chief bull of the herd; *see* ဥသဘ။

နွားဝန်တင်, *n.* a bullock pannier; ဝန်တင်နွား, a pack-bullock.

နွားသင်း, *n.* a bullock, နွားပေါက်, နွားပိုက်။

နွားသိုး (*pron.* နသိုး), *n.* a bull; နွားသိုးကြိုးပြတ်, a term of reproach applied to men of strong, ungovernable, sensual appetites.

နွားသွေးသောက်, *n.* a kind of bird whose note is said to resemble the lowing of a cow.

နွားယိန်း (*pron.* နယိန်း), *n.* a bullock that breathes stertorously, owing to some disease.

နွေကာလ, *n.* the hot season; *comp.* ဥတု; နွေရာသီ, နွေဥတု, နွေခေါင်ခေါင်။

နွေး, *v.* to be warm; *less than* ပူ; ရေနွေးမျိုးသည်, သည်အကျီအလွန်နွေးသည်၊ဆောင်းအခါဝတ်သို့ကောင်းပါ၏။

နွဲ့, *v.* to bend flexibly, pliantly; *comp.* ညွဲ့; to wheedle, as a child.

နွဲ့ဆိုးဆိုး (*pron.* နွဲ့ဇိုးဆိုး), *v.* to wheedle, as a spoiled child.

နွဲ့နှောင်း, *v.* same as နွဲ့။

နွဲ့ပါး, နွဲ့လျ, *v.* to be slender and supple, as the limbs, ခြေလက်နွဲ့ပါး။

နွဲ့ယိမ်း, နွဲ့ယိုင်, *v.* same as နွဲ့။

နှက်, *v.* to beat, ရိုက်သည်; to beat or drive in or down, to ram down.

နှင်, *v.* to drive, drive along, to drive away; မြင်းကိုကြိမ်လုံးသွင်းပြီးနှင်လာသည်။

နှင်ချ, *v.* to cast out; to turn out of house and home; *see the parts*; နှင်ပစ်; ကျွန်မကိုနေအိမ်ကနှင်ချလိုက်ပါသည်။
နှင်တံ, *n.* a stick for driving; a horsewhip.
နှင်ထုတ်, *v.* to drive out, expel, banish; to excommunicate.
နှင်နှင် (*in colloq. usually pron.* နှယ်နယ်), *a.* common, middling, not distinguished, သာမည, သူ့ကိုနှင်နှင်လူမှတ်သလား, do you consider him an ordinary kind of a man? နှင်နှင်မမှတ်ကြနှင့်; နှင်နှင် and သာမည are frequently used together, သူ့ကိုသာမညနှင်နှင်လူမှတ်သလား။
နှင့်, 1, *n. affix, connective,* with, together with, မောင်ရွှေလင်းမောင်ထိုးမောင်နှင့်သွားသည်; *sometimes instrumentive,* by means of, တုတ်နှင့်ရိုက်သည်, လှေနှင့်သွားသည်; *sometimes causative,* on account of, သူသည်ဖျားနာနှင့်သေဆုံးရှာသည်, ခင်ဘျားမလာသည်နှင့်ကျွန်တော်အိပ်ပျော်သွားသည်; နှင့် also has the force of "from," indicating separation, as ကိုးဆယ်ခြောက်ပါးရောဂါနှင့်ကင်းလွတ်ရမည်အကြောင်း။
နှင့်, 2, *verb. affix, imperative in a negative sentence,* လင့်; မရယ်နှင့်, မလုပ်နှင့်, မသွားနှင့်; *a temporal affix denoting prior-past or prior-future,* ခင်ဘျားသွားနှင့်တော့; ကျွန်ုပ်အရင်ရောက်နှင့်သည်, နားကြနှင့်ဦး, သူမိုးကလည်းအိပ်၍နေနှင့်လေ၏; *see Gram. sec.* 111 and 115.
နှင်း, 1, *n.* dew, fog, mist; ဆီးနှင်း, နှင်းရိုက်။
နှင်းကွဲ, *v.* to clear, or lift, as fog.
နှင်းခဲ, *n.* frost, hoar frost; snow.
နှင်းစင်, *n.* a temporary shed, roofed with *tan* leaves or straw, and used for housing cattle.
နှင်းတိမ်, *n.* a dew cloud.
နှင်းပက်, *v.* to beat in, as fog.
နှင်းဖိတ်, *v.* to be dense, as a mist or fog, နှင်းလည်း။
နှင်းပေါက်, *n.* a dewdrop.
နှင်းရိုက်, *v.* to be sprinkled with dew.
နှင်းဝေ, *v.* to be misty, foggy, နှင်းလည်း။
နှင်းသီး, *n.* a dewdrop suspended from a leaf.
နှင်းသုတ်, *n.* Scotch lawn; နှင်းသုတ်ဖိတ်။
နှင်း, 2, *n.* the tuberose; any land lily.
နှင်း, 3, *v.* to give, deliver over, transfer the ownership of, for a time or forever; *comp.* အပ်, နှီး, and ပေး; ခမည်းတော်သိဂ ရာဇ်မင်းကြီးသည်သားတော်သိဒ္ဓတ္ထမင်းအားထီးနန်းကိုနှင်း၏။
နှင်းဖိတ်, *n.* the double-flowered *Clerodendron.*
နှင်းရူ, *n.* a kind of whitlow, နှင်းရူပေါက်သည်။
နှင်းဆီ (ပင်), *n.* a rose tree: the oil of roses; နှင်းဆီပန်းပင်။

နှင်းရည်, *n.* rose water.
နှစ်, 1 (from နှလုံး, the heart).
နှစ်ခြိုက်, *v.* to relish; *mostly used in an adverbial form,* နှစ်နှစ်ခြိုက်ခြိုက်, relishingly, ယခုကျွန်ုပ်စားလို့အိပ်လို့နှစ်ခြိုက်ပါပြီ။
နှစ်ခွဲသော, *a.* bifurcated.
နှစ်မြိနှစ်မြော, *see* နှမိနှမြော, *adv.* from နှမြော။
နှစ်မြော, *see* နှမြော, *v.* to grudge.
နှစ်မြို့, နှစ်လို, နှစ်လို့, *v.* same as next.
နှစ်သက်, *v.* to like, be pleased with, ကြိုက်သည်; to love, esteem, ချစ်သည်, စုံမက်သည်, မြတ်နိုးသည်, ခင်ဗျားကြံပုံစည်ပုံများကိုကျွန်တော်ကမနှစ်သက်လှပါ။
နှစ်သိမ့်, *v.* to become composed, quiet, easy in mind.
နှစ်သိမ့်စေ, *v.* to quiet, pacify, console.
နှစ်, 2 (from အနှစ်), *n.* a year, နှစ်ကာလတာရှည်။
နှစ်ကူး, *v.* to commence, come in, as a new year, နှစ်သစ်ကူးသည်။
နှစ်ချုပ်ဦးပိုင်မြေကွက်စာရင်း, *n.* annual registry of holdings.
နှစ်ချုပ်စာရင်း, *n.* a yearly statement or account, an annual return.
နှစ်ညို, *v.* to pass a year without bearing, as some trees; *used adjectively,* having past a year, being more than a year old, as grain, oil, wine, etc.; နှစ်ညိုသီးတတ်သည့်သရက်ပင်; နှစ်ညိုစပါးစားမကောင်းပါ, နှစ်ညိုဆီသုံး၍ကောင်းပါသည်။
နှစ်ခြင်းကျ, *v.* to bear young, once a year; a term applied to buffaloes and cows; နှစ်ခြင်းသီး, to bear fruit, within the year it is planted, or raised from seed, as the သင်္ဘောပင်။
နှစ်စည် (*pron.* စဉ်), *adv.* yearly, annually.
နှစ်စည်ထာဝရ, *adv.* year by year, perpetually, နှစ်စည်ထာဝရပွဲတော်။
နှစ်စည်ပွဲ, *n.* an anniversary festival.
နှစ်စာမြေချ, *v.* to work land by the year, paying money to the landlord.
နှစ်ဆန်းတရက်, *n.* New Year's Day.
နှစ်လည်, *v.* to turn a year, be more than a year; to be above a year old, အခါလည်သည်, အကလေးသွားမြင်သည့်မှာ၊နှစ်လည်ပြီ။
နှစ်သစ်တက်, *v.* to commence, as a new year.
နှစ်, 3, *a.* and *n.* two, ၂။
နှစ်ပင်တိုင်သင်္ဘော, *n.* a brig.
နှစ်, 4 (from နစ်, to sink), *v.* to make to sink, to immerse; *comp.* မြှုပ်။
နှစ်ခြင်းမင်္ဂလာ, *n.* the ordinance of baptism.
နှစ်ခြင်းမင်္ဂလာပေး, *v.* to baptize.
နှတ်, 1, *v.* to apply a medicinal, odoriferous substance to the nose

(of another), or to clothes, etc., အဝတ်ပုဆိုးများကိုရေမွှေးနှင့်နှတ်ထားသည်, ဆေးပြင်းလိပ်များကိုဘွက်ခြောက်နှင့်နှတ်ထားသည်။

နှတ်, 2, *n.* the harness or heddles of a loom, ရက်ကန်းမတတ်သည်မိန်းမ နှတ်ကိုချသည်, the woman who cannot weave well, blames the heddles of her loom.

နှန့် (from နန့်), *v.* to shake, to wag (*trans.*), as a dog wags his tail.

နှပ်, 1, *n.* the mucus of the nose, snot; နှပ်တရှုပ်, *adv.* snivelingly.

နှပ်ညှစ်, နှပ်ညှို (*rare in colloq.*), *v.* to blow the nose.

နှပ်ထွက်, *v.* to run or escape, as mucus from the nose.

နှပ်, 2 (from နပ်), *v.* to bring to a proper consistence, as boiled rice, pulse, etc., by pouring off the water and placing by the fire, ထမင်းအိုးနှပ်, ထမင်းအိုးနှပ်သည့်အခါ၊ ဥဖောင်းကွဲလျှင်၊ ချည့်သည်လာတတ်သည်။

နှမ်း, 1, *n.* the sesamum plant, *Sesamum Indicum,* နှမ်းကြီး, နှမ်းနက်, နှမ်းဝိုင်မွှေး, နှမ်းရင်း; မာနအာပွင့်နှမ်းကဲ့သို့ကျင့်ရမည်, one should train one's proud feelings to be like the flowers of the sesamum, *i.e.*, one should be lowly-minded.

နှမ်းစေ့, *n.* the seed of the sesamum plant. The Burmese frequently adduce the sesamum seed as a term of insignificant comparison, ခင်ဗျားကိုနှမ်းစေ့လောက်မျှ ဖြစ်မှားခြင်းမရှိပါဘူး, မင်းလိုလူနှမ်းစေ့လောက်မျှ ပမာဏမပြုပါဘူး။

နှမ်းဆီ, *n.* oil expressed from sesamum seed.

နှမ်းပျစ်, *n.* a kind of cake made of sesamum seed and jaggery.

နှမ်းဖတ် (*freq. pron.* နှဖတ်), *n.* the pulp of the sesamum seed which remains after the oil is expressed, နှမ်းဖတ်ခဲနှင့်ထန်းလျက်စားလို့ဝသည်။

နှမ်းဖတ်ကျောက်, *n.* granite, ကျောက်နှမ်းဖတ်။

နှမ်းဖတ်ချဉ် (*pron.* ချည်), *n.* the sesamum pulp pickled for eating.

နှမ်းလျှင် (*pron.* နှမ်းယင်), *n.* the fi[illegible]samum crop; နှမ်းကြီး, the second crop.

နှမ်း, 2, *v.* to be speckled on a dark ground, as an animal; *chiefly used adjectively,* နွားနှမ်း (*pro*[illegible] နနှမ်း) (in a horse the same is termed လောင်းဝတ်မိမ်း).

နှမ်း, 3, *v.* to be silly, foolish, slightly deranged, brain-sick, စိတ်ပေါ့သည်, သွပ်သည်; *less than* ရူး။

နှမ, *n.* a man's sister, younger than himself; *comp.* အစ်မ; a polite substitute for မိန်းမ, မယား, နှမခင်ပွန်း; in writing, Burmese husbands usually address their wives as နှမ, ကြားရောက်လိုက်ပါသည်နှမဖြစ်သူမမင်းသွယ်။

နှမစုံ, *n.* *a corruption of* နှစ်ပါးစုံ, husband and wife, collectively; နှမစုံ

(*pron.* နှမရို့) ရသည့်သား, the joint offspring of a man and wife, in contradistinction to children by a former husband or wife; နှစ်ပါးနှံ (*pron.* နှပရို့) ပစ္စည်း, property conjointly belonging to husband and wife.

**နှမတော်**, *n.* a cousin, ညီအစ်မတော်။

**နှမြောနှမြော**, *adv.* grudgingly, unwillingly.

**နှမြော**, *v.* to grudge, be unwilling to part with; to regret the loss of, သည်သူ့ဥစ္စာပစ္စည်းအလွန်နှမြောတတ်သည်။

**နှယ်**, *see* နည်း, *n.* a kind, sort, manner; *chiefly combined with pronominal adjectives and used adverbially*, as, ဘယ်နှယ်, how, သည့်နှယ်, thus, သည့်နှယ်အမျှ, သည့်နှယ်လူ။

**နှလုံး** (from အနှစ်, the substantial part of a thing, and အလုံး, round), *n.* the heart, စိတ်, စိတ်နှလုံး; နှလုံးအလို, the desire of the heart.

**နှလုံးကောင်း**, *v.* to be of an amiable disposition, အလွန်စိတ်နှလုံးကောင်းသည့်လူ။

**နှလုံးကျဉ်းမြောင်း** (*pron.* ကျည်း), *v.* to be uneasy in mind, to have a feeling of constraint, နှလုံးဖိုက်, နှလုံးကိုယ်ဖိုက်, နှလုံးငြိုငြင်။

**နှလုံးကြေကွဲ**, *v.* to be melted with sympathy, broken down with grief for others, စိတ်နှလုံးကြေကွဲသည်, ဦးတရုပ်ဖြူ့ဆိုးသည်မှာ၊အလွန်နှလုံးကြေကွဲစရာကောင်းပါသည်။

**နှလုံးခုန်**, *v.* to palpitate, as the heart from weakness, disease, or fear.

**နှလုံးစွဲ**, *v.* to be fixed in the mind; *n.* inclination, desire, cleaving, ငါ့သွီးတော်နှင့်မည်သူသည်သာထိုက်တန်သည်ဟူ၍ငါနှလုံးစွဲဟောင်းလည်းမရှိ။

**နှလုံးတုန်**, *v.* to palpitate, as the heart from fear, ကျွန်တော်နှလုံးတုန်လှုပ်လျက်နေ၏, my heart goes pitapat.

**နှလုံးထား** (*pron.* နှလုံးဒါး), *n.* the attitude of the mind; *v.* to resolve to do, သဘောထားသည်, ဂုဏ်ကျေးဇူးအသင့်အတင့်ဖြစ်အောင်နှလုံးထားသည်၊ သူကသာရန်ငြိုးဖွဲ့ပါသည်။

**နှလုံးထားမြင့်**, **နှလုံးနေမြင့်**, *v.* to be high-minded, proud, စိတ်မြင့်။

**နှလုံးနာ**, *v.* to loathe in the stomach, be sick at the stomach; *fig.*, to abhor, detest, to be wounded in feeling, စိတ်နာ; အသည်းနာ, same as စိတ်နာ, only denoting a more deeply wounded feeling; သည်အစာကိုစားလျှင်နှလုံးနာသည်; သည်သူကိုကျွန်ုပ်မြင်ရလျှင်နှလုံးနာသည်, I feel a loathing when I see this man.

**နှလုံးနောက်**, *v.* to be disturbed in mind; စိတ်နောက်သည်။

**နှလုံးပူ**, *v.* to be distressed in mind, နှလုံးငြိုငြင်, နှလုံးပူပန်။

**နှလုံးရှို**, *v.* to retch, heave, make an effort to vomit, ရှိုသည်, နှလုံးတရှိုရှိုဖြစ်နေသည်။

နှလုံးဖြည့်ဝ, *v.* to be upright, wise, patient; *see* သဘောဖြည့်ဝ; တရားလို ပြုသူငတေးလည်း၊လူလက္ခဏာချင့်ချိန်လျှင်၊မိတ်နှလုံးဖြည့်ဝသူမယုတ်ကြောင်း။
နှလုံးမူ, *v.* to be attentive, heedful, သတိထားသည်။
နှလုံးမွေ့လျော်, *v.* to be pleasing, delectable to the senses.
နှလုံးရည်, *n.* mental faculty, နှလုံးရည်ကောင်းသည်, နှလုံးရည်လိမ္မာရည်ရှိသည်; နှလုံးရည်မြင့်, to be proud-spirited; သည်ဆရာကြီးနှလုံးရည်ရှိသည်, this great teacher has mental ability.
နှလုံးရည်လက်ရုံးရည်, *n.* mental and physical ability.
နှလုံးရှ, *v.* to be slightly irritated, nettled.
နှလုံးလှဆောင်, *v.* to use persuasion in a contest; *comp.* လက်ရုံးလှဆောင်။
နှလုံးသည်းခြွတ်, *n.* the heart and liver collectively.
နှလုံးသန့်, *v.* to have a clean, that is, strong stomach, to be not squeamish or easily nauseated.
နှလုံးသာ, *v.* to be easy in mind.
နှလုံးသွင်း, *v.* to bear in mind, lay to heart.
နှလုံးသွေးပျက်, *v.* to have the nervous system deranged, so as to induce wakefulness or insanity.
နှံ, 1, *n.* a grasshopper, နှံကောင်။
နှံဗေဒင်, *n.* the soothsayer insect or praying mantis. The Burmese believe that if this insect is eaten by cattle, it is very injurious to their health.
နှံမ, *n.* a large kind of grasshopper.
နှံ, 2 (from အနှံ, an ear or spike of grain); တယောက်တနှံစား, a term used by cultivators when they let out their fields for cultivation, and divide the produce with their tenants.
နှံစုတ်, နှံရည်စုတ်, *n.* a kind of bird, the *Phylloscopus*, of which there are many varieties.
နှံဖြည်စုတ်, *n.* the tailor bird; general term applied to warblers, နှံဖြည်စုတ်တလုဝ်စား၊ငရဲတထောင်ငွား။
နှံမတော်, *v.* to commence earing, as grain.
နှံ, 3, *v.* to commit for a time; *rarely used singly*, except to denote the deposit of treasure in the ground, as မြေနှံသည်; *comp.* အပ်, နှင်း, and ပေး. *Der.* အပ်နှံ, and ပေါင်နှံ။
နှံထား, *v.* same (*with a continuative force*), သူတပါးလက်ဝယ်နှံထားသောပစ္စည်း။
†နှံဘဲ, *n.* *Odina* wood; used for making *da* scabbards. The heart-wood of this tree is said to be almost imperishable, and is much prized for making boundary pillars; sometimes called စစ်စည်ပင်။
B. D. 38.

နှံလုံးမှိုင်, *see* နန်းလုံးကြိုင်, *n.* the *Vachellia* tree.

နှံ့, *v.* to pervade, be diffused through or over all the parts, စေ့နှံ့သည်; ခင်ဘျားပန္နည်းများကိုနှံ့အောင်ရှာသော်လည်းမတွေ့နိုင်ပါ။

နှံ့စပ်, နှံ့ပှံ့, *v.* same as နှံ့, အရာရာမှာလိမ္မာနှံ့စပ်သည့်လူ, အလွန်နှံ့စပ်သောသူ, a very well-informed person; also used to designate a much-traveled person.

နှံ့ပြား, *v.* same (*most common*), ကျွန်ုပ်အတိုးချသည့်ငွေ နှံ့ပြားနေလို့၊ ရုတ်တရက်တောင်းလို့မရနိုင်ပါ။

နှာ, *n.* the nose; *seldom used singly*, နှာခေါင်း; any medicinal, odoriferous preparation.

နှာကောင်း, *n.* any medicinal, odoriferous powder or drug, နှာနှတ်။

နှာခေါင်, *n.* the upper part of the inside of the nose.

နှာခေါင်း, *n.* the nose (*more common*), နှာခေါင်းကုပ်သည်, to have a curved or aquiline nose; နှာခေါင်းဖိ (ပြား), to be flat-nosed, snub-nosed; နှာခေါင်းပေါ့, to be keen-scented.

နှာခေါင်းအုပ်, *n.* a snuffbox.

နှာခေါင်းဖိမ့်, *v.* to be flat-nosed.

နှာခေါင်းပေါက်, *n.* a nostril.

နှာစေး, *v.* to have the nose clogged with mucus in consequence of a cold, catarrh; နှာစေးချောင်းဆိုး, to have influenza.

နှာစေးနာ, *n.* catarrh.

နှာစေးဖျား, *n.* a fever occasioned by a cold; a feverish cold, influenza.

နှာဆွဲ, *n.* a jewel for the nose.

နှာတံ, *n.* the ridge of the nose; a pipe in a Burmese bellows, ဖိုနှာတံ, ဖိုနှတ်သီး။

နှာနှတ်, *n.* any medicinal, odoriferous powder or drug, နှာကောင်း; *also used as a verb*, မာလကာရွက်နှင့်သပြေရွက်နှာနှတ်ရအောင်ယူခဲ့။

နှာနှတ်ရည်, *n.* any medicinal, odoriferous liquid.

နှာပေါက်, *n.* the nostril, နှာခေါင်းပေါက်။

နှာပေါ့, *v.* to be keen-scented, as an animal, နှာခေါင်းပေါ့။

နှာဘူး, *n.* a smelling bottle.

နှာမောင်း (from မောင်း, an arm), *n.* the proboscis or trunk of an elephant.

နှာမှုတ်, *v.* to snort.

နှာယောင်, *n.* the bridge of the nose.

နှာရည်, *n.* water from the nose, နှာရည်ယိုခွဲတမ္ပိတွဲ။

နှာရှုံ့, *v.* to be diffident or nervous in speech.

နှာရှုတ်, *v.* to make a heavy breathing noise, when apprehensive of danger, as a buffalo or bullock, ကျွဲနှာရှုတ်ပြီးလန့်သည်။

နှာရှုတ်ချည်, နှာရှုတ်ထည့်, *v.* to constrict, tie up the nose (of an unruly animal).

နှာဝေ, *v.* to have a defluxion from the nose.

နှာသီး, *n.* the end of the nose, နှာခေါင်းဖျား; နှာသီးကအသံ, a nasal sound.

နှိပ်, *v.* to press on or down; to crush; *more actively and less permanently than* ဖိ; to massage, ကျွန်တော်သားကလေးကိုယ်လက်ကိုက်သည်၊ ခင်ဗျားကောင်းကောင်းနှိပ်ပေးစမ်းပါ. *Der.* အနှိပ်သည်။

နှိပ်ကွပ်, *v.* to discipline, punish severely, ကွပ်ညှပ်သည်။

နှိပ်စက်, *v.* to crush, put down, vanquish, keep in subjection; to oppress, bully, torment, ညှဉ်းဆဲသည်, သည်မင်းဆင်းရဲသားကျွန်တော်မျိုးတို့ကိုအလွန်နှိပ်စက်သည်။

နှိပ်စက်ကလူ, *adv.* in a cruel manner; ညှဉ်းဆဲကလူ, နှိပ်နင်းကလူ။

နှိပ်နင်း, *v.* to tread down, keep in subjection.

နှိပ်နယ်, *v.* to press on or down.

နှိပ်ရာ, *n.* a depressed spot.

နှိမ် (from နှိပ်), *v.* to bring down, keep down; to oppress, keep in subjection; *comp.* နှိမ့်; သရက်ကိုင်းကိုနှိမ်ထားလိုက်ပါ၊ အသီးကိုခူးရအောင်. *Mahouts* say နှိမ်နှိမ် to their elephants, when they wish them to kneel down.

နှိမ်ထား, *v.* same as နှိမ်, လူဆိုးများကိုကရုဏာမသက်ဘဲနှိမ်ထားမှတော်မည်။

နှိမ်ယူ, *v.* to deduct, conveying the impression that such deduction is made on account of money advanced at some previous time, မင်းလခထဲကကျွန်ုပ်နှိမ်ယူပါမည်, ခုနှိမ်။

နှိမ့် (from နှိမ်), *v.* to make low; *comp.* နှိမ်; သူတပါးများကိုနှိမ့်မပြောနှင့်, do not depreciate other people; မီးစာကိုနှိမ့်ထားလိုက်ပါ, turn down the light (wick).

နှိမ့်ချ, *v.* to humble, abase, မိမိကိုယ်ကိုနှိမ့်ချလျှင်၊မင်္ဂလာသုတ်တရားနှင့်ညီညွတ်လိမ့်မည်။

နှီး, 1, *n.* a strip of bamboo, made by splitting and dividing flatwise; used in weaving mats, in tying down thatch, in binding bamboo staging and light framework of every description.

နှီးကျော (from ကျော, the back), နှီးခေါက် (from ခေါက်, the bark), *n.* the outer rind or bark of the bamboo used for weaving mats.

နှီးကျောဖျာ, နှီးခေါက်ဖျာ, *n.* a mat made of the said material.

နှီးထိုး, *v.* to push bamboo strips against the blade of a knife, in order to split them; နှီးနွှာ is more elegant, but less frequently used.

နှီးဖါ, *n.* a square or oblong basket, made of woven bamboo strips.
နှီးရက်, *v.* to weave with bamboo strips.
နှီးသတ်, *v.* to whittle bamboo strips.
နှီးသားဖျာ, *n.* a coarse mat, made of the inner part of the bamboo.
နှီး, 2, *v.* to spread out, for the purpose of receiving and supporting, uniting the ideas of ခင်း and ရုံ; to place, put, in order to receive an accumulation, as a capital or stock in trade; *not used singly*, ရင်းသည်; နှီးရင်းစရာငွေမရှိသို့ကုန်မကူးနိုင်ပါ, as I have no capital, I cannot trade.
နှီးရင်း, *see* ရင်းနှီး, *v.* to place or put, for the sake of accumulating.
နှီး, 3, *v.* (*obs.*).
နှီးနှော, *v.* to discuss in conversation; *comp.* ဆွေးနွေး; to be intimately acquainted, as persons of different sexes, ယည်ပါး; ကိုယ်လက်နှီးနှောခြင်းသို့မရောက်သေးပါ။
နှီးနှောဆက်ဆံ, *v.* to be intimately acquainted, as persons of the same or opposite sexes, သူတို့ညီအစ်ကိုနှစ်ဦးအရာရာပင်နှီးနှောဆက်ဆံခြင်းရှိတတ်ကြသည်။
နှီးနှောတိုင်ပင်, *v.* to discuss and consult; *see the parts*; မြို့ပေါ်တွင်ဓါတ်မီးအိမ်များကိုထား၍၊ တော်မည်မတော်မည် ကော်မီတီလူကြီးများ နှီးနှောတိုင်ပင်ကြသည်, the committee of elders discussed and consulted as to whether it be advisable or not, to have gas (or electric) lamps in the town.
နှုတ်, 1, *n.* the opening of the mouth, the lips; the mouth regarded as the organ of speech; *comp.* ခံတွင်း, and ပစပ်; *fig.*, the womb; နှုတ်ကြောင့်သေ၊လက်ကြောင့်ကျော်; နှုတ်တရာစာတလုံး။
နှုတ်ကပတ် (from က, from, and Pali ပတ်, to fall), *n.* divine speech or utterance; the Word, ဓခပါဠိ, ဘုရားနှုတ်ကပတ်တော်။
နှုတ်ကပတ်ကျမ်း, *n.* the written word of Deity.
နှုတ်ကျက်, *adv.* by heart.
နှုတ်ကျက်ဆောင်, နှုတ်ကျက်ရ, *v.* to retain in the memory, have by heart, အရကျက်သည်, အရဆောင်သည်, အာဂုံဆောင်သည်။
နှုတ်ကျူး, နှုတ်လွန်မှု, *n.* an offense of speech.
နှုတ်ကျိုး, *v.* to be habituated to, in speech, *lit.* to be mouth-broken.
နှုတ်ကြမ်း, *v.* to be rough, abusive in speech, အာကြမ်းသည်။
နှုတ်ကြွေးတင်, *v.* to incur the guilt of breaking a promise.
နှုတ်ခမ်း, *n.* a lip; the brim or upper edge of a vessel; hence အထက်နှုတ်ခမ်း, the upper lip, and အောက်နှုတ်ခမ်း, the lower lip.
နှုတ်ခမ်းရှုံ့, *v.* to purse the lips, to pout.
နှုတ်ခမ်းထော်, *v.* to have protruding lips.

နှုတ်ခမ်းနား, *n.* a rim, တီးနားခမ်း။
နှုတ်ခမ်းပါး, *v.* to be thin-lipped.
နှုတ်ခမ်းပွဲ့, *v.* to be harelipped.
နှုတ်ခမ်းမွေး (*pron.* နှခမ်းမွေး), *n.* mustaches.
နှုတ်ချို, *v.* to use sweet language, စကားချိုသည်။
နှုတ်ခွန်းဆက်, *v.* to salute; *see* နှုတ်ဆက်။
နှုတ်ခွန်းတိုက်, *adv.* orally, by word of mouth; *see* နှုတ်တိုက်; နှုတ်ခွန်းတိုက်ဆဲ, နှုတ်ခွန်းတိုက်ပြောသည်, နှုတ်ခွန်းတိုက်သင်ကြားသည်။
နှုတ်ဂတိ, *n.* a verbal promise, or oath.
နှုတ်ငုံ, *n.* an amulet or charm inclosed in the mouth (to ensure success in an undertaking), as a young man when wooing, နှုတ်ငုံဆောင်ရသည့်လက်ဖွဲ့။
နှုတ်ငုံသန္ဓေ, *n.* pregnancy, နှုတ်ငုံသန္ဓေအရင့်အမာရှိသည်။
နှုတ်စောင့်, *v.* to be careful and guarded in speech.
နှုတ်ဆက်, *v.* to salute, make mutual inquiries of civility, နှုတ်ခွန်းဆက်သည်; နှုတ်ဆက်စကား, greetings.
နှုတ်ဆော့, *v.* to be talkative, conveying the impression of irrepressible loquacity.
နှုတ်ဆွံ့, *v.* to have an impediment in the speech, to stammer, stutter.
နှုတ်တက်, *v.* to increase in fluency.
နှုတ်တိုက်, *adv.* orally, by word of mouth.
နှုတ်တိုက်ချ, *v.* to teach, by verbal instruction.
နှုတ်တိုက်ပြော, *v.* to dictate, as to an amanuensis.
နှုတ်တိုက်ရေး, *v.* to write from dictation.
နှုတ်တိုက်သင်, *v.* to teach orally.
နှုတ်တွက်, *n.* computation, without written figures, နှုတ်တွက်ကောင်းသည်, နှုတ်တွက်မြန်သည်။
နှုတ်တွက်တွက်, *v.* to compute mentally.
နှုတ်ထွက်, *n.* speech, spoken words, နှုတ်ထွက်စကား။
နှုတ်ထွက်ကြမ်း, *v.* to be foul-mouthed.
နှုတ်နည်း, *v.* to be of few words, taciturn, သောက်ကြွားသားစကားများလျှင်ဖျင်းသည်၊ နှုတ်နည်းလျှင်ပညာကြီးသည်။
နှုတ်ပိတ်တံမိုး, *n.* a bribe to suppress evidence; hush money.
နှုတ်ပုလ်ကြမ်း, *adv.* violently and severely, both in language and treatment, အင်မတန်ဥာဏ်ထိုင်းသည့်သူငယ်ကလေး နှုတ်ပုလ်ကြမ်းသင်ကြားနိုင်လို့သာတော်လိမ့်မည်, နှောင်းငယ်မယားသို့ပေးကမ်းပြီးလျှင်၊ ကျွန်မကို နှုတ်ပုလ်ကြမ်းညှည်းပန်းနှိပ်စက်ပါသည်, as a woman complaining of the unfaithfulness and cruelty of her husband.

နှုတ်ပေးသွန်သင်, *v.* to instruct privately, inculcate, always in a bad sense, နှုတ်ပေးသွန်သင်ပြသည်။

နှုတ်ပေါ့, *v.* to be glib of speech; to indulge in vain, inconsiderate language, as when aspersing the character of others, in a thoughtless, inconsiderate manner.

နှုတ်ဗိုက်, *n.* pregnancy, နှုတ်ဗိုက်သန္ဓေ, ပဋိသန္ဓေ။

နှုတ်ဗိုက်ရင့်, *v.* to be near delivery, ပဋိသန္ဓေရင့်သည်, နှုတ်ဗိုက်အရင့်အမာရှိသည်။

နှုတ်ဗိုက်ရှိ, *v.* to be pregnant, ကိုယ်ဝန်ဆောင်သည်, ပဋိသန္ဓေစွဲသည်။

နှုတ်ပြစ်, *n.* an offense of speech, နှုတ်လွန်မှု။

နှုတ်ပွ, *v.* to be wide-mouthed, ပစပ်ပွသည်; to be talkative.

နှုတ်ပွား, *v.* to be loud and noisy in speech.

နှုတ်ဖျားရ, *v.* to be able to speak to the point.

နှုတ်မြိန်ဆေး, *n.* medicine to promote appetite, a tonic, ထမင်းမြိန်ဆေး။

နှုတ်မြွက်, *v.* to speak, utter words.

နှုတ်မြွက်သံ, *n.* voice, uttered sound.

နှုတ်မှုပညာအတတ်, *n.* a liberal art or science, in contradistinction to a manual art (လက်မှုပညာအတတ်).

နှုတ်ရဲ, *v.* to be bold of speech.

နှုတ်ရိုင်း, *v.* to be vulgar of speech; to be in bad taste, as language.

နှုတ်နှံ့, *v.* to be nervous or diffident in speaking.

နှုတ်လွတ်, *v.* to be glib of speech; *adv.* by mouth, without the aid of a book or writing; *see* နှုတ်ပေါ့။

နှုတ်လွန်မှု, *n.* an offense of speech; *comp.* လက်ရောက်မှု။

နှုတ်လှံထိုး, *v.* to contradict (a superior) impudently and provokingly, နင်ငါ့ကိုနှုတ်လှံထိုးလို့ပြောပြီလား။

နှုတ်လျှောက်, *v.* to petition a superior verbally.

နှုတ်သားတက်, *v.* to increase in fluency, စာသင်စရှိလျှင်နှုတ်သားတက်မည်, နှုတ်သား ရွသည်။

နှုတ်သီး, *n.* a bird's bill, a beak; the nozzle of a bellows, ဖိုနှုတ်သီး, ဖိုနှာထံ့; the spout of a vessel or pot, နှ; *see* ကျေးနှုတ်သီး။

နှုတ်သီးကောင်း, *v.* to be a scold, အကြောင်းမတန်နှုတ်သီးကောင်းသည့်မိန်းမ။

နှုတ်သီးရှု, *v.* to protrude, thrust out the lips; နှုတ်ခမ်းကိုရှုထားသည်, to pout.

နှုတ်, 2, *see* နုတ်, *v.* to take out, pull out, extract; *comp.* ထုတ်။

နှုန့်, *v. trans. of* နုန့်, to cause to be loose, not firm, unstable; to cause to be weak, infirm.

နှိုင်း, *v.* to compare, နှိုင်းသည်; *comp.* ပြိုင်; သည်လူနှိုင်းဘက်မရှိပါ, this man has no rival. *Der.* အနှိုင်း။

နှိန်းနှိင်း, *v.* same as နှိန်း။

နှူး, *v. trans. of* နူး, to make soft by some process; *fig.*, to mollify, နှူးပြေ့ရသည်။

နှေး, *v.* to be slow, not quick; to move slowly, as a timepiece, နာရီနှေးသည်; မလျင်, မမြန်, ဆေးနှေးသည်, ခင်ဘျားအသွားအလာနှေးသည်, အကြက်ကောင်းလိုချင်လျှင်ပလောင်နှေးစေ, if you wish for good tea, allow the Palaung to be deliberate (in his movements).

နှေးကွေး, *v.* same, လုပ်ပုံကိုင်ပုံနှေးနှေးကွေးကွေးရှိသည်, အလွန်နှေးကွေးသည့်လူ။

နှေးဖြည်း, *v. see the parts*; နှေး and ဖြည်း are rarely used together in composition, and never in colloquial.

နှဲ, 1, *n.* a wind instrument, with holes on the side and a spreading mouth; used at festivals, funerals, and theatrical exhibitions; *comp.* ခရာ။

နှဲခရာ, *n. see the parts.*

နှဲမှုတ်, *v.* to play on such an instrument.

နှဲ, 2, *v.* to rub (the hair) with lime juice, etc., in order to prepare it for washing, or to make it light and soft, ခေါင်းနှဲသည်, ဆံပင်စေးလို့ကြက်ဥကာနှင့်ဖျော်၍နှဲသည်။

နှဲကော (from ခေါ, a basket), *n.* a kind of basket smeared with lime, and used as a trap for birds, ငှက်များကိုနှဲကောနှင့်ထောင်သည်, လူသရေလျှင်ဘေးဒဏ်ထိ၊ငှက်သရေလျှင်နှဲကောမိ။

နှဲတံ, *n.* a stick smeared with gum from the banyan, used to catch birds; *see* ညှောင်တံ။

နှဲ့, *v. trans. of* နဲ့, to loosen, လာမနှဲ့ပါနှင့်၊ ငါ့ကိုနှဲ့လို့မနဲ့ဘူး။

နှော, 1, *v.* to mix, mingle, ရောသည်, ပွမ်းသည်; to add (in arithmetic), ပေါင်းသည်; အထက်သားများလာနှောသည်အတွက်၊တို့ရွာသောင်းကျန်းနေပြီ။

နှောကိန်း, *n.* a number to be added to another.

နှောနှောက်, *v.* to mingle and make turbid.

နှော, 2, *n.* a large kind of boat, made of heavy planking clamped together, without having a hollow log for a basis to build upon.

နှော, 3, *n.* a species of coffeewort.

နှောက် (from နောက်, to be turbid), *v.* to stir up, so as to make turbid, နောက်အောင်မွှေသည်; to agitate, throw together, put into confusion, mingle, ရောအောင်မွှေသည်; to molest, distress (the mind), စိတ်ကိုနှောက်သည်, ခင်ဘျား သည်စကားမျိုးကို ပြောလျှင်၊ ကျွန်တော်စိတ် တမင် လာနှောက်သလိုဘဲ; ဟင်းသီးဟင်းဖတ်ရောမိအောင်နှောက်လိုက်ပါ။

နှောင်, *v.* to tie, bind, make fast by binding, ချည်သည်, ဖွဲ့သည်; *seldom used singly*. *Der.* ချည်နှောင်, တုပ်နှောင်။

နှောင်အိမ်, *n.* a prison, ထောင်; a lockup.
နှောင်ကြိုး, *n.* a rope used for securing anything, as a boat, an animal.
နှောင်ဖွဲ့, *v.* same as နှောင် (*more common*), ကျွန်တော်ကြိုးကြိမ်ထို့ဖြင့်တကြိမ်တခါမျှနှောင်ဖွဲ့ခံရသူးသည်မရှိပါ။
နှောင့်, *v.* to annoy, molest, thwart, ကျွန်ုပ်အလုပ်ပျက်အောင်လာမနှောင့်ပါနှင့်။
နှောင့်နှေး, *v.* to be in suspense, doubt, in regard to purpose or action; to hesitate, to loiter, dilly-dally, သည်စာကိုမနှောင့်မနှေးဘဲပို့လိုက်ပါ; သွားလို့တော်မည်မတော်မည်၊စိတ်နှောင့်နှေးလို့ဆိုင်းနေပါသေးသည်။
နှောင့်ရှက်, *v.* same as နှောင့်; to intrude; နှောင့်ရှက်တားဆီး, to annoy by thwarting; ကျွန်တော်ကြံထိုင်းစည်တိုင်းခင်ဗျားကာ၊နှောင့်ရှက်ဖျက်ဆီးချင်သည့်ဝါသနာရှိသည်; နှောင့်ရှက်ဖျက်ဆီး, to thwart and render abortive.
နှောင်း (from နောင်), *v.* to be after, in time, posterior, later, နောက်ကျသည်, သည်နှစ်သရက်ပင်များ အပွင့်နှောင်းသည်၊ မိုးသည်းနောက်ကျလိမ့်မည်, this year mango trees are very backward in blossoming; the rains will be late; ခင်ဗျားလာသည်မှာနှောင်းသည်, you are behind time in coming, sir; အပြောကောင်းပါ၏။ အလာနှောင်းသည်, in the way of a woman rejecting a suitor after she has accepted some one else. *Der.* အနှောင်း။
နှောင်းတန်ခူး, *n.* the part of the month of Tagu before the သင်္ကြန်, or new year.
နိူက်, 1, *v.* to penetrate, dive into (with the hand or an instrument); *fig.*, to possess the power of penetration into a subject, or into human character or motives; *see* ထုတ်ခတ်; မြန်မာလူမျိုးသူတပါးများသဘောကိုအလွန်နိူက်တတ်သည်, သည်ဆောင်းပါးစာအဓိပ္ပာယ်ကိုနိူက်၍မရနိုင်ပါ။
နိူက်ချွတ်, *v.* to dig into (mysteries).
နိူက်နှဲ, *v.* to search into; commonly applied to mental research.
နိူက်နိူက်ချွတ်ချွတ်, *adv.* pryingly, into every crevice and corner, ခင်ဗျားဥစ္စာပစ္စည်းများကိုမရရအောင်၊နိူက်နိူက်ချွတ်ချွတ်ရှာဖွေပါမည်; သည်စာဇာင်နိူက်နိူက်ချွတ်ချွတ်ကြံတတ်သည်။
နိူက်နိူက်နှဲ့နှဲ့နားလည်, *v.* to understand thoroughly.
နိူက်, 2, *commonly written* နှိ, *noun affix, locative*, in, at, among, တွင်, မှာ, ဝယ်; *sometimes possessive*, of, ၏; အိမ်နှိရှိပါသည်။
နိူင်, *see* နိုင်, *qual. verb. affix, potential*, can, able to.
နိူင်း, *v.* to compare, နှိုန်းသည်, ပြိုင်သည်, ကိုယ်နှင့်နိူင်းလျှင်မနိူင်းဘူး။
နိူင်းနိူင်း, *v.* to liken, compare; *see* နိုင်း, 2; သည်မြင်းအခြားမြင်းနှင့် နိူင်းနိုင်းရန်မရှိ။
နိူင်းချိန်, နိူင်းချင့်, နိူင်းဆ, *v.* to weigh in the mind, estimate on comparing, ပရိသတ်ထဲမှာစကားပြောလျှင်၊ကောင်းစွာနိူင်းဆပြီးပြောပါ။

နှိုင်းနှိုန်း, နှိုင်းပြိုင်, နှိုင်းယှဉ်, *v.* to compare.
နှိုး (from နိုး, to awake), *v.* to awake (*trans.*); to rouse, excite, urge to action; ဆော်သည်; ကျွန်ုပ်ကိုစောစောကြီးလာနှိုးပါ။
နှိုးစက်, *n.* the alarm of a clock.
နှိုးဆော်, *v.* to rouse, excite, urge to action; *comp.* တိုက်တွန်း; နှိုးဆော်ချီးပင့်, ကုသိုလ် ကောင်းမှုကို ပြုရန် နှိုးဆော်သည်, လှေသားများကို ဝီရိယစိုက် အောင်နှိုးဆော်လိုက်ပါ, please urge the boatmen to exert themselves.
နွှင်, *v.* to skin, peel off, နွှာသည်, နွှေးသည် (*infreq.*), သင်သည်။
နွှမ်း, *v. trans. of* နွမ်း, to cause to be dull, faded, wilted.
နွှယ် (from နွယ်), *v.* to stretch along in connection, as a race, lineage, ဆက်နွှယ်သည်; to be descended from, connected by race, သည်သူ ရှမ်းနွှယ်သည်မဟုတ်လား; မင်းစကားကျွန်ုပ်နွှယ်နိုင်သည်, has the same meaning as မင်းစကားနားလည်သည်. *Der.* အနွှယ်။
နွှံ့ (from နွံ့, to be submissive), *v.* to humble, make submissive (*rare in colloq.*); *comp.* နှိမ့်ချ။
နွှာ, *v.* to skin, peel off, နွှင်သည်, နွှေးသည်, သင်သည်, ငှက်ပျောသီးနွှာသလိုလွယ်သည်ထင်သလား, do you think that it is as easy as peeling the skin off a plantain? (said of an underrated difficulty).
နွှေး, 1 (from နွေး, to be warm), *v.* to warm, make warm, as water, food, etc.; *comp.* လှုံ; *fig.*, to resuscitate; ရေနွေးကိုနွှေးပါဦး; ကျွန်တော်အမှုကိုမေ့နေပါနှင့်၊နွှေးပါဦး။
နွှေး, 2, *v.* to skin, peel off; *see* နွှင် and နွှာ; a word used by persons engaged in drawing off the juice of the sugar-palm, ထန်းဖူးနွှေး, ထားနှင့်ထန်းနွှေးသည်။
နွှဲ, 1, *v.* to procrastinate, delay, be dilatory, to be a long time in doing; *not used singly*, ဝင့်သည်. *Der.* ဝင့်နွှဲ, and နွှဲဝင့်။
နွှဲဝင့်, *v.* same, အရေးကိစ္စကြီးသည့်အခါနွှဲဝင့်လို့မနေသာဘူး။
နွှဲ, 2, *v.* to lean sidewise, incline the body, as in some kinds of work, and in oriental dancing; *more than* နွှဲ့; တောမျောက်တို့သည်သစ်ကိုင်းချိုင်းနွှဲ၍ တပင်မှတပင်သို့ ကူးရန်ကြသည်; ချိန်ထုပ်နွှဲ, to swing, as the pendulum of a clock, နာရီချိန်ထုပ်နွှဲတိုင်းခက်ခက်ခက်ခက်မြည်သည်, every time the pendulum swings to and fro, the clock ticks; ကချေသည်များ ကိုယ်ကိုနွှဲကကြသည်, ထင်းပေါက်သည့်အခါ၊ကိုယ်ကိုနွှဲပြီးပေါက်ရသည်။
နွှဲ့, *v. trans. of* နွဲ့, to bend flexibly, သည်မိန်းမလမ်းလျှောက်သည့်အခါ၊ကိုယ်ကိုနွှဲ့ပြီးသွားတတ်သည်။

# ပ

ပ, the twenty-first consonant of the Burmese alphabet, and the first in the class of labials.

ပ, 1, *v.* to shine; *used in combination with* အရောင်, လရောင်ပသည်, the moon shines. *Der.* ကျင်းပ, တည်ပ, တောက်ပ, ထွန်းပ, ပြောပ။

ပထွန်း, *v.* to shine, emit light; *see* ထွန်းပ။

ပလွှား, *v.* to flaunt, flourish; to be ostentatious, vain, ပကြွားသည်, ဝါကြွားသည်, ဝင့်ဝါသည်; အလွန်ပလွှားခြင်းများသည့်လူ, a person of very great ostentation.

ပဝင်း, *v.* to shine brightly; to shine with a yellow light or golden rays, တပြောင်ပြောင်ပဝင်းရွှေလမင်းကဲ့သို့၊သန့်ရှင်းစင်ကြယ်သောမျက်နှာတော်လည်းရှိ၏, his countenance was pure and clear, like the golden moon shining luminously bright.

ပ, 2, *see next.*

ပသ, *v.* to offer, in order to propitiate a demon or evil spirit, နတ်ပသသည်, နက်ဖြန်ပင်လယ်သို့သွားမည်။ မင်းတို့လှေသားများ၊ ဦးရှင်ကြီးကိုပသကြဦး, to-morrow we shall go to sea; you boatmen, make an offering to U Shin Gyi; သည်လှေပွဲမှာ တို့ကနတ်ကို မပသသို့ ရှုံးရသည်, we have been beaten in this regatta, because we did not offer to the *nats.* The *nat* most feared in L.B. is ဦးရှင်ကြီး, while the *nats* most feared in U.B. are ဗဒုံနတ်ကြီးမောင်မင်းကျော်, and ရွှေဖျင်းညီနောင်။

ပ, 3, *v.* to be outside, without (*obs.*); to be disused, abrogated. *Der.* အပ။

ပပျောက်, *v.* to be disused, abrogated; to disappear, be lost, စကားဟောင်းပပျောက်သို့စကားသစ်ပေါ်သည်, the old language disappears, and the new makes its appearance.

ပလပ်, *v.* to be done away, come to nothing, become null and void; to be acquitted of a criminal charge, စွဲချက်ပလပ်စေ။

ပလိုက်, *v.* to quash, as an indictment; to dismiss, as a motion, petition, or indictment in court, ခင်ဗျားအမှုကိုမင်းကြီးကပလိုက်ပြီ, the Commissioner has dismissed your case; to acquit of a criminal charge.

ပ, 4, *a corruption of* အဘယ်, or ဘယ်, as ပသို for ဘယ်သို့, *adv.* how? (*not used in colloq.*).

ပ, 5, *verb. affix,* used in closing a sentence,ပေါ့, of course, ရှိဒါပ, သွားဒါပ, သဘောနှင့်မီးလိုက်ဦးပ (*Colloq.*).

ပအုံးရည်, *n.* vinegar, ပုံးရည်။

ပအုံးရည်ခေါင်း, *n.* mother of vinegar, ပအုံးခေါင်းရည်။

ပက်, 1, *v.* to throw or toss by a scooping motion, as water with the hand or a dipper; to bail water, ရေပက်; to throw up, as a hog, မုဆိုးမောင်ထွန်းဝက်ပက်လို့သေသည်; to come in contact with, suddenly; to beat in, as rain or dew, မိုးသီးပက်သည်, နှင်းပက်သည်; လှေကိုရေပက်လိုက်ပါ, bail out the boat.

ပက်အိမ်, *n.* the space in the centre of a Burmese boat, reserved for bailing out water; ရေပက်ကန့်။

ပက်ကော် (from ကော်, to lift out of place), *n.* a large wooden shovel, for removing dirt.

ပက်ခွံ့, *n.* a scoop for bailing a boat, made of woven bamboo strips.

ပက်စက်, *v.* to be inconsiderate, heedless, careless, wanting in good behavior and regard toward others; somewhat akin to ရိုင်းပြ; ခင်ဘျားအနေအထိုင်ပက်ကပက်စက်ကနှင့်။

ပက်ပင်းပါ, *adv.* face to face, suddenly and unexpectedly; သွားခဲ့ပက်ပင်းပါတွေ့သည်, ကျွန်တော်ဈေးသို့သွားသည့်အခါ၊ ကြွေးရှင် ဦးကျော်ထွန်းနှင့်ပက်ပင်းပါတွေ့လို့ကြောက်လိုက်ထာ, when I went to the bazar and suddenly met U Kyaw Dun my creditor, face to face, I was so frightened!

ပက်ရက်, *v.* to do in a hurried, careless manner, regardless of the feelings of others; *mostly used in an adverbial form,* as ပက်ပက်ရက်ရက်, ဤသူပက်ပက်ရက်ရက်ပြောရက်ဆိုရက်သည်, this person is capable of talking regardless of the feelings of others.

ပက်, 2, *v.* to be shallow, as a dish, မစောက်; ပုကန်ပက်လို့ဟင်းဖိတ်ကုန်သည်၊စောက်လျှင်မဖိတ်ဘူး, as the dish is shallow, the curry is all spilt; if it were deep, it would not spill over.

ပက်လက်, *adv.* placed on the bottom or back, supine; *opposed to* မှောက်ခုံ; ပက်လက်ကုလားထိုင်, a reclining chair; ပက်လက်အိပ်လျှင် အိပ်မက်မက်တတ်သည်, if one sleeps on one's back, one is apt to dream; အလောင်းပက်လက်မျောလာသည်, the corpse came floating down on its back.

ပက်လီးပက်လန်, *adv.* backward, thrown backward, အိမ်ပေါ်ကပက်လီးပက်လန်လိမ့်ကျသည်။

ပကတိ (Pali), *n.* nature, natural state, without modification; *comp.* နဂိုရ်, and သဘော; ပင်ကိုယ်; *used adjectively,* natural, common, ဆွေမျိုးတစုတို့က မှာသောမေတ္တာကြောင့်၊ ပကတိကျန်းမာစွာရှိပါ၏, on account of the good will conveyed to me by all my relatives, I am in sound health; သည်အိမ်ပကတိဆောက်သည့်အနေကမပျက်ဘူး, this house has not deteriorated from the state in which it was origin-

ally built; စကားနည်းသော်လည်း၊ မိတ်ကြီးဝင်လို့မဟုတ်၊ ပကတိသဘောဘဲ, although he is a person of few words, it is not because he is proud, it is his natural disposition.

ပကတိအလို, *n.* appetency, craving.

ပကတိဉာဏ်, *n.* natural talent.

ပကတိပါရင်းဖြစ်, *v.* to be innate, ဝမ်းတွင်းကပါသည်။

ပကတိသဘော, *n.* constitutional propensity.

ပကတူး (*pron.* ပကဒူး) (from ပကတိ, and ဦး), *n.* the beginning or origin (of a thing), မူလ, အရင်း; ရှေ့မဆွကကျွမ်းဦးအစပကတူးကပကာသမခံရေးသည်, မင်းပကတူးပြောသည်စကားမေ့ပြီလား, have you forgotten the words you spoke at the beginning?

ပကာ (*pron.* ပဂါ) (from ပါး, a cheek, and ကာ, to interpose), *n.* an outside slab of timber.

ပကာစောင်း, *n.* same as ပကာ။

ပကာသန (Pali, ထင်လျှားခြင်း), *n.* conspicuousness; "*pakasanam*, illumination, illustrating, explaining, making known, exposition, publication." *Childers.*

ပကာသနတင်, ပကာသနပြ, ပကာသနရှိ, *v.* to exalt; to vaunt one's own praises, to boast, မိမိပကာသနအလွန်တင်တတ်သည့်လူ, a person who is in the habit of vaunting his own praises, very much.

ပကောဋိ, *n.* a sextillion.

ပက္ခ (Pali), *n.* a wing; a side (of the moon), *i.e.*, the waxing (လဆန်းပက္ခ), or the waning (လဆုတ်ပက္ခ); ပက္ခပဏ္ဍုတ်, a man subject to seminal debility during either the waxing or waning of the moon; လဆန်းပက္ခမွေးသည့်သား, လဆုတ်ပက္ခမွေးသည့်သား။

ပက္ခိကဘတ်, *n.* rice given in worship, on the first day of the waxing or the waning of the moon, လဆန်းတရက်နေ့လှူသောဆွမ်း, လဆုတ်တရက်နေ့လှူသောဆွမ်း, အထွက်တရက်နေ့လှူသောဆွမ်း; ပက္ခိကဘတ် is a word used only by *rahans*.

ပခုံး, *n.* the shoulder.

ပခုံးဖျား, *n.* the extremity of the shoulder, ပခုံးဖျားရှိဝပါ။

ပခုံးခွန်, *n.* money paid for the hire of draught animals (*obs.*).

ပခုံးစွန်းပန်းပွား, *n.* an epaulet.

ပခုံးတည့်, *v.* to have square shoulders.

ပခုံးတိုက်, *v.* to thrust with the shoulder.

ပခုံးတွန့်, *v.* to shrug, draw up the shoulders, ပခုံးပင့်၍ပြသည်။

ပခုံးထမ်းခေါင်းရွက်, *n.* a collective term applied to pedlars and bazar sellers generally.

ဗိုလ်ချုပ်၏ ပင်ကိုယ်အကျင့် အတွေးသဘောထားကို ခန့်မှန်းနိုင်ကြလေပြီ။ TH-H5-16

ပခုံးထမ်းမြေ (*pron.* ပခုံးဒမ်းမြေ), *n.* land assigned for cultivation by local authority, without conferring any right or title thereto. Such land was considered to be the property of the State, and was transferable, but could not be held by a female.

ပခုံးလျှော, *v.* to have sloping shoulders.

ပချိုင့် (from ခါ), *n.* a small covered basket, used by snake charmers for confining snakes, မြွေပချိုင့်; ရွှေပချိုင့်, ငွေပချိုင့်, small covered baskets overlaid with gold or silver leaf, formerly used as insignia of rank at the funerals of the great.

ပဂေါ (ပင်), *n.* a species of gingerwort, *Alpinia.*

ပဂေါကြီး, ပဂေါသိမ်, *n.* varieties of the same.

ပင်, 1 (from အပင်, a plant or tree).

ပင်ကိုယ်, *n.* a natural state, without alteration or improvement, ပင်ကိုယ်ချော, ပင်ကိုယ်နှင့်သည်, ပင်ကိုယ်ယည်သည်; ပင်ကိုယ်သံ, one's natural voice; *see* နဂိုရ်; သည့်မိန်းမကလေးဘာမျှမပြင်မဆင်၊ပင်ကိုယ်အနေအလှသာ။

ပင်ချိုပင်ချ, *adv.* taking one and leaving one (in weaving mats), တပင်ချိုတပင်ချရက်။

ပင်စည်, *n.* the stock of a tree.

ပင်စောက်, *n.* an uncommonly tall tree.

ပင်တရော် (တရော်ပင်), *n.* the *Grewia elastica,* a tree attaining to the height of twenty-five or thirty feet, having a thick, wrinkled and knobby bark, which is used in washing the head.

ပင်တံ, *n.* the stem of a plant.

ပင်တိုင် (from တိုင်, a post), *a.* masted; *used with numerals,* as တပင်တိုင်, with one mast; နှစ်ပင်တိုင်, two masted, etc.; *adv.* without change or rotation, constantly, ကျွန်တော်ချည်းပင်တိုင်ခံလုပ်ရသည်။

ပင်ထောင်, *a.* upright, as ပင်ထောင်သစ်, standing timber.

ပင်ပေါက်, *a.* sprouted, ဝဲပင်ပေါက်, ဝါစေ့ပင်ပေါက်။

ပင်ဗွား, *n.* a kind of large sago.

ပင်မ, *n.* the stock of a tree, ပင်စည်; the main branch in the centre of the other branches; the principal plant in a cluster or clump (အစု); the bole of a tree.

ပင်မြွာ, *n.* two or more plants springing from the same seed or root, အောက်ကပင်မြွာကလေးပေါက်သည်။

ပင်ရည်, *n.* sap.

ပင်ရည်တက်, *v.* to ascend, as sap in trees.

ပင်လုံး, *n.* the bole of a tree.

ပင်သည်, *n.* a seller of fruit from the tree; one who keeps a regular supply of goods for sale; *opposed to* ထောက်သည်။

ပင်, 2, *v.* to be tired, fatigued, harassed in body or mind; *more than* မော; *not used singly.*

ပင်ပန်း, *v.* same (*common*); to be tiresome, လှေထိုးခြင်းပင်ပန်းသည်, poling a boat is wearisome; hence တပင်တပန်း, *adv.* laboriously, fatiguingly, implying unnecessary labor; to be in great distress or pain; ဝေးလံစွာခရီးကအခဲအဆဲတလျှင် ပြေးလာရသောကြောင့်၊ အလွန်ပင်ပန်းသည်; ကျွန်တော်မကောင်းသောသတင်းကိုကြားရသည့် အတွက်၊ စိတ်အလွန်ပင်ပန်းသည်ခင်ဗျား, on account of my having heard bad news, I am very much distressed in mind, sir; သူနာအလွန်ပင်ပန်းသည်၊ရှင်မည်မထင်ပါ။

ပင်, 3, *adv.* even; *slightly emphatic*, သူ့ကိုပင်ပေးသည်။

ပင်စင် (Eng.), *n.* a pension, အငြိမ်းစားငွေ; ပင်စင်စား, to enjoy a pension.

ပင်စိမ်း, *n.* a species of mint, ပင်စိမ်းကြီး, ပင်စိမ်းယည် (*pron.* ယည်း), ပင်စိမ်းရိုင်း, ကသည်းပင်စိမ်း, တောပင်စိမ်း, different varieties of the same. Brahmins are said to regard the ပင်စိမ်းညို and ပင်စိမ်းနက် as sacred.

ပင်လယ်, *n.* the sea, ocean, သမုဒ္ဒရာ။

ပင်လယ်အုန်း, *n.* the sea cocoanut.

ပင်လယ်အူနာ, *n.* a severe kind of diarrhœa.

ပင်လယ်ကစွန်း, *n.* the goat-footed *Ipomæa.*

ပင်လယ်ကနစိုး (ပင်), *n.* the *Heritiera minor*; the wood is hard, tough and durable; common in Tavoy and Mergui.

ပင်လယ်ကမ်းခြေ, ပင်လယ်ကမ်းနား, *n.* the seaside.

ပင်လယ်ကသစ်, *n.* a kind of celestial tree; the sea-coral tree, a species of *Erythrina*; the *Shorea robusta.*

ပင်လယ်ကျူး, *v.* to castrate (a horse), ဆိုးမ, ကွပ်, သင်း။

ပင်လယ်ကျော, ပင်လယ်ခေါင်း, *n.* the surface or back of the sea.

ပင်လယ်ကျောက်ပွင့်, *n.* seaweed, ပင်လယ်မိုက်ပင်။

ပင်လယ်ကြက်တက်, *n.* a kind of plant (Pali ယောမိ).

ပင်လယ်ကြက်တူရွေး, *n.* a gull, မြစ်တွေး။

ပင်လယ်ဂဏန်း, *n.* the king crab; *comp.* ကမ်း။

ပင်လယ်ဂရက်, *n.* the surf of the sea.

ပင်လယ်ဂရက်သံ, *n.* the sound of the surf beating on the seashore.

ပင်လယ်ငါးပြေမ, *n.* the umber, sometimes called the sea perch.

ပင်လယ်စုန်း, *n.* a meteor; a fireball seen at sea.

ပင်လယ်စောင့်, *n.* the guardian *nat* of the sea, a sea god.

ပင်လယ်ဆား, *n.* baysalt.

ပင်လယ်ဆိပ်, *n.* a seaport.
ပင်လယ်ဆီး, *n.* a species of *Ximenia.*
ပင်လယ်ထန်း, *n.* the *Scævola toccada.*
ပင်လယ်ထားပြ, *n.* a corsair, pirate, rover.
ပင်လယ်ပုံ, *n.* a chart.
ပင်လယ်ပေါက်ငှက်, *n.* the scissorsbill.
ပင်လယ်မှိုး, *n.* the sea slug, သဲပလုတ်, ဆင်မျှော့။
ပင်လယ်ဖွဲ့ဘွား, *n.* the edible nest maker, the Peale swiftlet; *comp.* ဇီဝနိုး။
ပင်လယ်ဖုတ်, *n.* the Tavoy name for ebony, တောဖုတ်။
ပင်လယ်ဗွေ, *n.* the midst of the sea, ပင်လယ်အလယ်ချက်မ။
ပင်လယ်ရေမြှုပ်, *n.* a kind of shellfish.
ပင်လယ်လေဗွေ, *n.* a cyclone, ပင်လယ်လေဗိုင်း။
ပင်လယ်ဝ, *n.* offing, ပင်လယ်ပြင်။
ပင်လယ်ဝေ, *v.* to rise unusually high, as a tide which causes an influx of salt water into low-lying tracts of country; usually the result of cyclonic action.
ပင်လယ်သစ်ကောင်, *n.* the *Gyrocarpus Jacquini*, a leaf-shedding tree frequently found on the seacoast, attaining to the height of sixty or eighty feet; the nut is bony, and is provided with two erect wings about two and one half inches long.
ပင်လယ်သား, *n.* a dweller by the sea.
ပင်လယ်ဟိန်း, *v.* to rumble, as distant thunder, *lit.* the sea roars.
ပင်ဝန်း, *n.* a fresh-water mussel.
ပင့်, 1, *v.* to raise, lift up, ကြွသည်, မြှင့်သည်, မြှောက်သည်; to exalt, promote, ချီးသည်, မြှင့်သည်; to take in breath, inspire, ပင့်သက်ရှူသည်; ကုလားကာကိုပင့်သည်, he lifts up the curtain, သည်ဝန်ထုပ်ကိုတဆိတ်ပင့်ပေးပါ, give me a lift with this pack; to turn up the legs of trousers, ပေါင်းဘီပင့်။
ပင့်, 2, *v.* to invite; *more respectful than* ဖိတ်။
ပင့်ဆောင်, *v.* to convey an image of Buddha from one place to another.
ပင့်ဖိတ်, *v.* to invite; *see* ဖိတ်; ထို့ရွာကလေးမှာဘုန်းကြီးမရှိ။ဝါမဝင်မှီတပါးပါးကိုပင့်ဖိတ်မှတော်မည်, there is no *pongyi* in our little village, it would be advisable to invite one before Lent commences, အရပ်လူကြီးများကိုပင့်ဖိတ်၍ပေးပါ, please invite the village elders.
ပင့်ကူ, *n.* a spider.
ပင့်ကူအိမ်, *n.* a spider's web, a cobweb.
ပင့်ကူမြှေး, *n.* a membrane; a spider's web.
ပင်း, 1, *v.* to join, or combine with, take part with; generally im-

plying partiality or unfairness; *see* ထင်းရည်းလိုက်; သည်သူတဘက် သပ်ပင်းစကားပြောတတ်သည်, this person is in the habit of being one-sided and partial when he speaks. *Der.* အသင်းအပင်း။

ပင်း, 2, *v.* to impede, obstruct, as a stream of water; to drive in a wedge, in order to close a hole or make tight, သပ်ပင်းသည်. *Der.* အပင်း, နားပင်း, and ဓိတ်ပင်း။

ပင်းတကား, *n.* a kind of poke formerly put on men in disgrace, ပင်းတကားလည်ကွတပ်သည်, ပင်းတကားလည်ထောက်တပ်သည်။

ပင်းဓိတ်, *a.* solid, not hollow; *see* နားပင်းဓိတ်။

ပစ် (*pron.* ပြစ်), *v.* to throw, cast; to throw away, reject, စွန့်သည်; to throw at; to shoot; ယိုင်ခွေးကိုခဲနှင့်ပစ်လိုက်ပါ။

ပစ်ခတ်, *v.* to throw at; to shoot; မောင်ထုံးသေနတ်နှင့်ပစ်ခတ်လို့သေသည်။

ပစ်စင်, *n.* *commonly written* ပစ္စင်, a scaffold or terrace on the inside of a fortification, whence missive weapons are discharged.

ပစ်စလက်ခတ်, *adv.* neglectfully, carelessly, without regard, စာအုပ်များပစ်စလက်ခတ်မထားပါနှင့်၊ စုတ်ပြတ်ကုန်လိမ့်မည်။

ပစ်ထား, *v.* to throw aside (for a time); to forsake, abandon, မောင်ထွန်းမိန်းမပစ်ထားသည်မှာကြာလှပြီ။

ပစ်လိုက်, *v.* to throw, cast; to throw away, reject.

ပစင်းကြီး, *n.* the Tavoy name for ဗိန်ညင်းကြီး, the large kingfisher.

ပစပ်, *n.* the mouth, ခံတွင်း; *comp.* နှုတ်။

ပစပ်ကြမ်း, *v.* to be rough, abusive in speech (*inelegant*).

ပစပ်ပွား, *v.* to be loquacious, garrulous; *see* နှုတ်ပွား; သည်လူပစပ်ပွားသည်။

ပစု, *n.* the Tavoy name for ကြစု, the chebula tree.

ပစ္စုပ္ပန် (Pali), *n.* the present, မျက်မှောက်, ပစ္စုပ္ပန်ထဝ, ပစ္စုပ္ပန်အကျိုးပေးသည်, ပစ္စုပ္ပန်ဘဝအကျိုးပေးသည်။

ပစ္စင် (from ပစ်, to shoot, and စင်, a frame), *n.* a scaffold or terrace on the inside of a fortification whence missive weapons are discharged; a barbacan, ပစ်စင်, sometimes ပြစ်စင်; ပစ္စင်ရင်တား။

ပစ္စည်း (Pali ပစ္စယော), *n.* a cause, အကြောင်း; a thing, အရာ; property, goods, ဥစ္စာ, ဝတ္ထု; *in Pali Gram., the inflected termination of a verbal affix*, ပဌာန်းပါဠိတော်နှစ်ဆယ်လေးပစ္စည်း။

ပစ္စည်းစကား, *n.* an affix.

ပစ္စည်းပစ်ထိ, *n.* property, goods.

ပစ္စည်းပြု, *v.* to be connected together, ဆက်ရှက်သည်; to secure an equilibrium or maintain mutual support, အညီမညီပစ္စည်းပြုသည်။

ပစ္စည်းဖြုန်း, *v.* to squander, waste one's substance.

ပစ္စည်းလေးပါးဒါယကာ, *n.* a layman who provides a *kyaung*, and a *ra-*

*han's* robes, food, and medicine, ပစ္စည်းလေးရပ်တကာ, ပစ္စည်းလေးပါး တကာ, ဘုရားတပည့်တော်ပစ္စည်းလေးပါးဒါယကာမှတ်တော်မူ၍၊ အလိုရှိသည့် ပစ္စည်းများကိုတောင်းတော်မူပါ, regard me as the furnisher of the four kinds of property; ask of me anything you may wish, my lord (as in addressing a *pongyi*).

ပစ္စန္တရစ် (*pron.* ပြစ်စန်ဒရစ်), *n.* petty villages on the outskirts of a country, ပစ္စန္တရစ်သား; ပစ္စန္တရစ်တိုင်း is a term applied to all countries outlying the မဇ္ဈိမဒေသ. It is said that the Buddhs never visited these countries, မြတ်စွာဘုရားတို့မည်သည်ပစ္စန္တရစ်တိုင်းသို့ဒေသစာ ရီကြွတော်မမူဘူး; ပစ္စန္တရစ်ရွာသူရွာသားတို့လည်း၊ အိမ်ရှေ့မင်းမှန်းကိုသိလျှင်၊ ခစားကျိုးနွံကြလေ၏, the inhabitants of outlying villages, when aware of the fact that he was the heir apparent, paid him respect, and were submissive.

ပစ္စယာ (Pali), *n.* an encircling gradation or story of a pagoda, ပစ္စယာဆင့်; *comp.* အလင်္ကာ; ပဌမပစ္စယာ, ဒုတိယပစ္စယာ, တတိယပစ္စယာ, ကျွန် တော်တည်သည့်ဘုရားပဌမပစ္စယာရှိပါသေးသည်။

ပစ္စယုပ္ပန် (Pali ပစ္စယော, a cause, and ဥပ္ပန္န, to be, to proceed), *n.* a consequence, result, အကျိုး, ပစ္စယုပ္ပန်အကျိုးကိုခံစားရသည်။

ပစ္စုန်, *see* ပဇ္ဇုန် (Pali), *n.* rain.

ပစ္စုပ္ပန် (Pali), *n.* the present time; *comp.* အတိတ် and အနာဂတ်; ပစ္စုပ္ပန် ကာလ, ပစ္စုပ္ပန်ဘဝ, ပစ္စုပ္ပန်သံသရာနှစ်ပြားသောအကျိုးစီးပွါးကိုတောင့်တသော သူတို့လှူပေးခြင်းကိုပြုကြသည်, people who long for the two kinds of benefits, of this and the future world, make offerings.

ပစ္စေကဗုဒ္ဓ (Pali ပစ္စေက, distinct, and ဗုဒ္ဓ, a Buddh), *n.* a semi-Buddh, one who occasionally appears in the interval between real Buddhs (90).

ပစ္ဆိမ (Pali), *a.* the last, နောက်ဆုံးသော, ပစ္ဆိမကာလ, the last time or era; ပစ္ဆိမဘဝ, the final state of existence preceding *neibban*; အဆုံးစွန်သောဘဝ; ကျွန်တော်တို့ပစ္ဆိမအရွယ်ကိုရောက်ကြပြီ။ ဘုရားတရားကို သာအာရုံပြုနေစရာကောင်းတော့သည်, we have arrrived at the last stage of our existence; it is now well to let our thoughts dwell solely upon Buddha and the Law.

ပဆစ်, *n.* a kind of backgammon.

ပဆစ်ပစ်, *v.* to play at backgammon, ပဆစ်အိမ်, ပဆစ်ကွက်, ပဆစ်သွားတတ်။

ပဆုပ်, *n.* a malignant ulcer on the back; *see* အနာပဆုပ်။

ပဆုပ်ပျား, *n.* a small kind of bee, also called ပထိုးမနို, ဆွတ်ပျား။

ပဇ္ဇုန် (Pali), *n.* rain, တပေါင်းတန်ခူးမိုးသည်းသားကျူး၊ တန်ခူးလည်းကုန်လက ဆုန်၊ပဇ္ဇုန်ရိုက်မည်ချုန်းချုန်းတည်း။

ပဇ္ဇုန်နတ်, *n.* the god of rain, မိုဃ်းနတ်။

ပဉ္စ (Pali, five), *n.* the five parts, as the root, bark, leaf, blossom, and fruit of a tree; ပဉ္စငါးပါး, a word much used by Burmese doctors, ရွေးအောင်းလျှင်လိပ်ဆင်ရွဲ ပဉ္စငါးပါး ကျိုအောင်းလည် ချောင်းနာ လျှင်နိုပါးဆေးပဉ္စငါးပါးကျိုသောက်။

ပဉ္စကလျာဏ, *n.* the five good bodily qualities, as goodness of flesh, bones, skin, hair and age; ငါးဖြာလက္ခဏာ; မံသ, အသားၐ်ကောင်းခြင်း; အဋ္ဌိ, အရိုးၐ်ကောင်းခြင်း; ဆဝိ, အရေၐ်ကောင်းခြင်း; ကေသ, ဆံၐ်ကောင်းခြင်း; ဝယ, အရွယ်ၐ်ကောင်းခြင်း (91).

ပဉ္စကာနိသီး, *n.* nutgall.

ပဉ္စရူ, *n.* a kind of medicinal root.

ပဉ္စင်း (*pron.* ပဇင်း) (Pali ပဉ္စ, five, and အင်္ဂ, a part), *n.* a Buddhist priest who is proficient in the five requisite qualifications, မထေရ်, ရဟန်း။

ပဉ္စင်းခံ, *v.* to receive ordination, as a priest who is proficient in the five requisite qualifications, ပဉ္စင်းပြု။

ပဉ္စင်းတက်, *v.* to rise from being a novitiate, to the position of a priest who is proficient in the five qualifications, ခင်ဗျားပဉ္စင်းတက် ဦးမည်လား, as novitiates asking each other; မောင်ရှင်ကလေးပဉ္စင်း တက်ဦးမည်လား, as a layman asking a novitiate.

ပဉ္စင်းတကာ, *n.* a layman who provides the eight requisities for a priest, as the robes, alms bowl, etc.; သင်းပိုင်, ကိုယ်ဝတ်, ဒုကုဋ်, ဒါးပန်း, အတွင်းလေးပါး; ခါးပန်း, အပ်, ရေစစ်, သပိတ်, အပြင်လေးပါး။

ပဉ္စမ (Pali ပဉ္စ), *a.* the fifth, ငါးခုမြောက်။

ပဉ္စမဘုတ်, *n.* space, အာကာသဓါတ်; *see* မဟာဘုတ်။

ပဉ္စမသင်္ဂါယနာတင်, *n.* Convener of the fifth Buddhist Synod, a title assumed by King Mindon, and much prized by him, ပဉ္စမသင်္ဂါ ယနာတင်မင်းတရားကြီးဘုရား။

ပဉ္စသီလ, *by abbrev.* ပဉ္စသီ (Pali ပဉ္စ, five, and သီလ, a religious duty), *n.* the five duties binding on all creatures, according to the five great commands, *viz.*, ပါဏာတိပါတာဝေရမဏီ, သူ့အသက်ကိုမသတ်နှင့်, kill not; အဒိန္နာဒါနာဝေရမဏီ, သူ့ဥစ္စာကိုမခိုးနှင့်, steal not; ကာမေသုမိစ္ဆာ စာရာဝေရမဏီ, သူ့မယားကိုမပြစ်မှားနှင့်, commit not adultery; မုသာဝါဒါ ဝေရမဏီ, မုသာစကားကိုမပြောနှင့်, lie not; သုရာမေရယမဇ္ဇပမာဒဋ္ဌာနာ ဝေရမဏီ, သေရည်သေရက်ကို မသောက်နှင့်, drink no intoxicants. "The first five of these obligations are called the *pancha sil*. They are repeated by some persons every day at the *pansal* (*kyaung*), especially by women." M.B.

ပဉ္စာနန္တရိယကံ (Pali ပဉ္စ, and အနန္တရိယကံ), *n.* the five greatest sins which bring immediate retribution, အပါယ်လေးပါးလတ်တလောရောက်သည်; killing a father, အဘကိုသတ်သောသူ, ပိတုဃာတကကံ; killing a mother, အမိကိုသတ်သောသူ, မာတုဃာတကကံ; killing a *rahanda*, ရဟန္တာကိုသတ်သောသူ, အရဟန္တဃာတကကံ; raising a blood blister on a Buddh (the life of a Buddh cannot be taken), ဘုရားသခင်အားသွေးမိမ်းတည်အောင်ပြုသောသူ, လောဟိတုပ္ပါဒကကံ; and making a schism among the disciples of a Buddh, သင်္ဃာသင်းကွဲအောင်ပြုသောသူ, သံဃာဘေဒကကံ။

ပညတ် (Pali ပညတ္တိ), *v.* to prohibit or command; to name, give a name, distinguish by name, မှည့်သည်, သမုတ်သည်; *n.* a prohibition or command; a name, အမည်, နာမ; သည်ရေကန်၌မည်သူမျှရေမချိုးခြင်းခပ်ခြင်းမရှိစေရဟု၊အမိုးရမင်းကပညတ်ထားသည်။

ပညတ်ဥပဒေ, *n.* an ordinance.

ပညာ (Pali), *n.* wisdom; ပညာဝန်ကြီး, the Director of Public Instruction; ပညာဝန်, an inspector of schools; ပညာထောက်, a deputy inspector of schools; ပညာလိုလျှင်မပျင်းရ။ဥစ္စာလိုလျှင်မငြင်းရ။

ပညာကြီး, *v.* to be possessed of great wisdom.

ပညာတိုး, *v.* to increase, as wisdom, knowledge.

ပညာရှာ, *v.* to search for wisdom, knowledge.

ပညာရှာမှီး, *v.* to search and store up wisdom, knowledge.

ပညာရှိ (*freq. pron.* ရှိ), *n.* a wise man, သုခမိန်, ကဝိ။

ပညာသင်, *v.* to receive instruction; ပညာတော်သင်, a term applied to young men who were sent to foreign countries by order of King Mindon, to learn foreign arts and sciences; "*pragnyawa* (ပညာ), wisdom, that which dispels ignorance, revealing what is good and what is not good, like the burning lamp that brings to view the figures that would otherwise be hid by the darkness; its opposite is *awidya* (အဝိဇ္ဇာ), ignorance." M.B.

ပညာသတိ, *n.* prudence, discretion; knowledge and prudence; *comp.* သမ္ပသတိ။

ပညောင်, *n.* a species of banyan, the *Ficus Bengalensis.*

ပဋိဃာတ် (Pali ပဋိဃာတ္တ), *n.* enmity; anger, hatred.

ပဋိဃာတ်ပြု, *v.* to make a quarrel, ရန်ရှာသည်, ကျွန်တော်ကကောင်းအောင်သဘောထားသော်လည်း၊သူကပဋိဃာတ်ပြုလှသည်။

ပဋိဃာတ်ဖြစ်, *v.* to have a quarrel, ရန်တွေ့သည်, ရန်ငြိုးဖွဲ့သည်, လူချင်းပဋိဃာတ်ဖြစ်သည်မှာကြာလှပြီ။

ပဋိညာဉ် (*pron.* ပတိန်ညင်) (Pali ပဋိညာဏ်), *n.* assent, engagement, ဝန်ခံခြင်း; a vow.

ပဋိညာဉ်ခံ, ပဋိညာဉ်ထား, ပဋိညာဉ်ပြု, ပဋိညာဉ်ဖွဲ့, *v.* to make a covenant, a mutual engagement.

ပဋိညာဉ်ခံဥပဒေ, *n.* the Contract Act.

ပဋိညာဉ်ခံဝန်ချက်, *n.* a bond, promise.

ပဋိညာဉ်ခံဝန်ထောက်, *n.* a convenanted assistant commissioner.

ပဋိညာဉ်စာချုပ်, *n.* a written convenant or agreement.

ပဋိညာဉ်ဓမ္မသေတ္တာ, *n.* the Ark of the Covenant.

ပဋိပက္ခ (Pali), *n.* variance, မသင့်မတင့်ဖြစ်ခြင်း; ကြောင်နှင့်ကြွက်ပဋိပက္ခ, ကျားနှင့်ဆင်ပဋိပက္ခ; သီပေါ်ရှင်ဘုရင်နှင့် ရှမ်းစော်ဘွားများ ပဋိပက္ခကြီးဖြစ်ကြသည်, King Thibaw and the Shan Sawbwas were greatly at variance.

ပဋိပတ် (Pali ပဋိပတ္တိ), *n.* a duty, ကျင့်စရာအကျင့်, ပဋိပတ်ကျင့်စဉ်ကျမ်း, ပဋိပတ်ကောင်းသည့်ဘုန်းကြီး။

ပဋိပါဋိ (Pali), *n.* drift, course, order, succession, အစဉ်; in colloquial the Burmese say, ရှေ့နောက်စကားပဋိပါဋိစဉ်ညီအောင်ပြောသည်။

ပဋိဘာန် (Pali ပဋိဘာန), *n.* wisdom, knowledge, ပညာ, သည်သူပဋိဘာန်အလွန်နည်းသည်, this person has very little intelligence; "understanding, intelligence, wisdom; readiness or confidence of speech, promptitude, wit." *Childers.*

ပဋိရူပ (Pali), *n.* comeliness, suitableness, agreeableness, တင့်တယ်လျောက်ပတ်ခြင်း။

ပဋိလုံ, *adv. see next.*

ပဋိလောမ (Pali), *adv.* in reversed order, as when repeating backward, ပဋိလောမပြန်ရွတ်သည်; *comp.* အနုလောမ။

ပဋိသန္ထာရ (Pali), *n.* interchange of conversation; friendly greeting, welcome, kindness, friendliness, စကားချေစပ်ခြင်း, နှုတ်ဆက်ခြင်း, စေတမုဆိုးစကားကိုကြားလျှင်၊ ဇူဇကာပုဏ္ဏားသည်၊ အလွန်နှစ်သက်ဝမ်းမြောက်ခြင်းဖြင့်၊ပဋိသန္ထာရစကားဟော၍, when he heard the words of Zeta the hunter, Zusaga (Jujaka) the Brahmin, with much approval and joy, spoke in reciprocal language (as follows).

ပဋိသန္ဓေ (*freq. pron.* ပဋိတ်သဒေ) (Pali ပဋိ, again, and သန္ဓေ, to connect), *n.* the connection between a former and subsequent state of existence, that is, the transit of mind from one body into another, of which there are four kinds, *viz.*, အဏ္ဍဇ, ဇလာဗုဇ, သံသေဒဇ, and ဥပပါတ်; conception, pregnancy, နှုတ်ပိုက် (92); "entering the womb in a new existence, conception, transmigration, re-birth." *Childers.*

ပဋိသန္ဓေနှဲ, ပဋိသန္ဓေဆောင်, ပဋိသန္ဓေရှိ, *v.* to conceive, be pregnant, နှုတ်ဗိုက်ရှိသည်, ကိုယ်ဝန်ဆောင်သည်။

ပဋိသန္ဓေတည်, ပဋိသန္ဓေနေ, ပဋိသန္ဓေယူ, *v.* to be conceived; but these terms and the above are sometimes interchanged and applied either to the mother or the child, ထိုအခါန္တကား၊ ထိုအရှင်ဇာနက္ကမင်း၏မိဘုရားကြီးဝမ်းတွင်၊ဘုရားလောင်းပဋိသန္ဓေယူ၍၊ကိုယ်ဝန်အရင့်အမာရှိသတည်း။

ပဋိသန္ဓေရင့်, *v.* to be near delivery, နှုတ်ဗိုက်ရင့်သည်, ပဋိသန္ဓေအရင့်အမာရှိသည်။

ပဋိသမ္ဘိဒါ (Pali), *n.* intuitive knowledge, ဉာဏ်ပြင့်ထိခြင်း, တိဿအမည်ရှိသောသူနာသည်မြတ်စွာဘုရားတရားတော်ကိုကြားနာရလျှင်၊ ပဋိသမ္ဘိဒါလေးပါးနှင့်တကွရဟန္တာအဖြစ်သို့ရောက်သည်, the sick man, whose name was Teittha, when he heard and listened to the law of the excellent Buddh, arrived at the state of a *rahanda*, possessed of the four kinds of intuitive knowledge.

ပဋိသာဝ၊ဒုက္ကဋ်အာပတ်သင့်, *v.* to incur the guilt of making a definite promise (ဝန်ခံခြင်း), as a *rahan*.

ပဋိသိတ် (Pali ပဋိသေဓေါ), *n.* interruption, prevention, prohibition, မြစ်တားခြင်း။

ပဌနာ (Pali), *n.* the act of praying or asking favor of a divine or celestial being; a prayer, ဆုတောင်းသောစကား။

ပဌနာပြု, *v.* to pray, ဆုတောင်းသည်, ဆုတောင်းပဌနာပြုသည်, မဟောသထာကဲ့သို့ ဉာဏ်ပညာကြီးသော သူဖြစ်ပါလို၏ဟု နေ့တိုင်းဆုတောင်း ပဌနာပြုသော်လည်း၊ အလွန်ဖြစ်ခဲသည်ခင်ဗျား, although I pray every day that I may become a person of great intellect, like Mahawthata, it is very difficult of attainment, sir.

ပဌမ (Pali), *a.* the first.

ပဌမကျော်, *v.* to be distinguished for having excelled in Buddhist literature, at a competitive examination held by royal order at the Burmese capital; *n.* a man thus distinguished (93).

ပဌမပြန် (*pron.* ပြန်), *v.* to recite, at such an examination, what one has been studying; *n.* a man who has passed such an examination.

ပဓာန (Pali), *n.* an original cause, important matter, အကြောင်းရင်း; ကြီးသည်၊ငယ်သည်မဟုတ်ပါ၊ တတ်သည်သာလျှင်ပဓာန, မင်းခြောက်တန်ဆာငါးပါးတို့တွင်ထီးဖြူသာပဓာန။ salutation (Divide & state) paṇāma

ပဏာမ (Pali), *n.* an act of homage or worship, ရှိခိုးခြင်း; ပဏာမဂါထာ, ပဏာမရှိ, ပဏာမပြုသည်။

ပဏ္ဍိတ (Pali), *n.* a wise man, a pundit, ကဝိ, ပညာရှိ, သုခမိန်, ပဏ္ဍိတပုဂ္ဂိုလ်ပဏ္ဍိတအဆင့်ခါနှင့်ညီညွတ်သည်။

ပဏ္ဍုကမ္ဗလာ (*pron.* ပန္ဍုကန္ဗလာ), *n.* the throne of Sekra (သိကြားမင်း). When anything requiring Sekra's assistance takes place in the world of men, or when his exalted office is in danger, this throne, according to the Singhalese, becomes warm, and according to the Burmese, hard and uncomfortable.

ပဏ္ဍုက် (Pali ပဏ္ဍကော), *n.* a man subject to seminal debility, ပန်းရုတ်။

ပဏ္ဏာ (Pali), *n.* a gift, present, လက်ဆောင်။

ပဏ္ဏာကာရ, *n.* same as ပဏ္ဏာ။

ပဏ္ဏာသံမိုး, *n.* a bribe, illegal gratification, ပဏ္ဏာလက်ဆောင်များကိုဆက်သလာသည်။

ပတ်, 1, *n.* a small cylindrical drum fixed in a circular frame.

ပတ်စာ, *n.* any glutinous substance attached to the centre of the drum head, to improve its sound, ပတ်စာထည့်သည်။

ပတ်ဆိုင်း, *n.* a circular frame in which several drums are fixed and played on by a person standing, or sitting, in the centre, ဆိုင်းဝိုင်း; *comp.* ကြေးဝိုင်း။

ပတ်တီး, *v.* to play on such drums.

ပတ်ပုံ, *n.* same as ပတ်။

ပတ်ရှိုး, *v.* to try the sound of the drums preparatory to playing; *n.* a kind of song, ပတ်ရှိုးတေးချင်း။

ပတ်မ, *n.* a large cylindrical drum.

ပတ်ဝိုင်း, *n.* *see* ပတ်ဆိုင်း။

ပတ်သာ, *n.* a small cylindrical drum, fixed in a circular frame, ခွက်ထွင်းပတ်သာ။

ပတ်, 2, *v.* to wind around, encircle, ရစ်သည်; to encompass, go around, လည်သည်, ဈည့်သည်, ဝန်းသည်, ဝိုင်းသည်; *n.* an upper washboard of a boat, made of matting and placed above the main washboard (စပ်); ခုနစ်ရက်တပတ်, once a week; အကလေးကိုအဝတ်နှင့်ပတ်ထား; သစ်ပင်ကိုနွယ်ပတ်သည်, the creeper twines around the tree. *Der.* အပတ်။

ပတ်ကုတ်, *v.* to struggle with a difficulty, to endeavor to accomplish in the midst of difficulties. *Der.* အပတ်အကုတ်။

ပတ်စည်း, *v.* to bind about, တော အရပ်ထွင်လူတယောက်ကိုသမ်း၍၊ လူဆိုးတို့သည်ကြိမ်ဖြင့်ပတ်စည်းထားသည်။

ပတ်ရစ်, *v.* to wind around, စပါးကြီးမြွေတို့သည်ကြီးသော ခွန်အားရှိသော ကြောင့်၊သမင်၊ ဆိုင်၊ ဆတ်ကိုအငွေဖြင့်ပတ်ရစ်၍သတ်ကုန်၏, boa constrictors, being very powerful, entwine their folds around the browantlered rusa, the wild ox, the sambur, and kill them.

ပတ်လည်, ပတ်ဝန်းကျင်, *n.* the environs or circuit of a thing, ဝန်းကျင်;

*comp.* ထက်ဝန်းကျင်; *freq. used adverbially,* ပတ်ပတ်လည်; ထိုအကွေ့ပတ်လည်၌ရှိသောမြောင်းရှင်းစရာလိုသည်, the ditch around that curve requires clearing; ရုံးပတ်လည်မှာ ရှိသည်ပေါင်းမျာ ကိုရှင်းလိုက်ပါ, please cut and clear the weeds (undergrowth) around the court-house.

ပတ်လုံး, *n.* the whole circuit or duration; commonly applied to words of time, ပန်လုံး, တသက်ပန်, တသက်ပန်လုံး, တသက်ပတ်လုံး, တလပတ်လုံး, ရှိသမျှကာလပတ်လုံး, နေသမျှကာလပတ်လုံး။

ပတ်ဝိုက်, *v.* to encircle, make a circuit.

ပတ်သက်, *v.* to be connected with or bear relation to, to be implicated in (an offense, crime).

ပတတ်, 1, *adv.* on the hind legs, rampant.

ပတတ်ရပ်, *v.* to stand upright on its hind legs, as an animal, to rear, မြင်းပတတ်ရပ်၍ရုန်သည်, ခွေးပတတ်ရပ်၍ကိုက်သည်, ပတတ်ထ။

ပတတ်, 2, *n.* a species of palm.

ပတိ (Pali), *n.* master; lord, chief, ruler; owner; husband.

ပတူ, *see* ပျားတူ (*pron.* ပဒူ), *n.* a hornet.

ပတောက်ပယာင် (from တောက်, and ယာင်), *adv.* confusedly, irrationally, as if intoxicated; applied to language, စိတ်မနှံ့သူပတောက်ပယာင်ပြော သည်; ခင်ဗျားပတောက်ပယာင်ပြောသည်။ တာကိုစားမိသလဲ; in this sense it conveys an inference that the person addressed has eaten *Datura fastuosa* seeds (ပဒိုင်းနီ), and hence is not accountable for his action.

ပတောင့်ပတေ, *adv.* or *int.* strange, extraordinary.

ပတ္တမြား (*pron.* ဗဒ္ဒမြား), *n.* a ruby; a carbuncle; ကျောက်နီ။

ပတ္တမြားကျောက်တွင်း, *n.* a ruby mine.

ပတ္တမြားနီ, *n.* same as ပတ္တမြား။

ပတ္တမြားနှလုံးတော်ရှိ, *v.* to be *enceinte*, as a female member of the royal family, ပတ္တမြားနှလုံးတော်အရင့်အမောရှိသည်; also applied to the mothers of Buddhs.

ပတ္တမြားပြောက်, *n.* a spotted ruby.

ပတ္တရသချိုး, *n.* a certain tubercle or excrescence growing on the leaves of trees; the oak apple; ကတ္တရသချိုး။

ပတ္တရာ, *n.* said to be a ceremony performed to counteract the effects of ယတြာ (certain magical contrivances).

ပတ္တလား, *n.* a kind of musical instrument composed of twelve pieces of iron, or bamboo, suspended in the form of an inverted arc, in a wooden case.

ပတ္တလားတီး, *v.* to play on such an instrument.

ပဌ္ဌာ, 1, *n.* a hinge; ပဌ္ဌာနှက်သည်, ပဌ္ဌာထည့်သည်, to put on a hinge; a cartridge box, ယမ်းတောင့်ထည့်သောပဌ္ဌာ။

ပဌ္ဌာ, 2 (Beng.), *n.* a permit obtained from government, to build, cultivate, carry firearms, etc.; ဥယျာဉ်ပဌ္ဌာ, လယ်ပဌ္ဌာ, သေနတ်ပဌ္ဌာ။

ပဌ္ဌာခံ, *v.* to make an application for a ပဌ္ဌာ, or license to carry arms, သေနတ်ပဌ္ဌာခံသည်။

ပဌ္ဌာတိုင်း, *v.* to survey a piece of land for the use of which a ပဌ္ဌာ is granted.

ပဌ္ဌူ, *n.* a kind of shaggy, woolen cloth.

ပထဝီ (Pali), *n.* the earth, မြေကြီး; နှစ်သိန်းလေးသောင်းအထုရှိသောမဟာ ပထဝီမြေကြီး။

ပထဝီဓါတ်, *n.* a term applied to the parts of the body which are formed of this element (ပထဝီ). "They are twenty in number, *viz.*, the hair of the head, the hair of the body, the nails, the teeth, the skin, the flesh, the veins, the bones, the marrow, the kidneys, the heart, the liver, the abdomen, the spleen, the lungs, the intestines, the lower intestines, the stomach, the fæces, and the brain." M.B.

ပထဝီဓါတ်ပျက်, *v.* to suffer disorder, as such element (ပထဝီဓါတ်).

ပဒပူရဏ် (Pali ပဒ, a poetic line, and ပူရဏ, completion), *n.* the completion of a line in poetry, its being complete, full.

ပဒါး, *see* ပြဒါး, *n.* quicksilver.

ပဒုမာ (Pali), *n.* a kind of water lily; *comp.* ကြာ; ပဒုမာဇိတ်, a kind of cotton cloth; ပွင့်သစ်သောပဒုမာကြာကဲ့သို့ရွှင်လန်းသောရှုမြွေရှိတော်မူ သည်, his (*i.e.*, the Buddha's) joyous tranquillity was like unto a newly-opened ပဒုမာ။

ပဒေသရာဇ် (Pali ဒေသ, a country, and ရာဇာ, a king), *n.* a sovereign of a division of one of the four grand islands, တဝန်းတလျားအစိုးရ သောမင်း, ပဒေသရာဇ်မင်း; *comp.* ဧကရာဇ်, a sovereign of one of the four grand islands, and စကြဝတေးမင်း, a universal monarch.

ပဒေသာ(ပင်), *n.* a tree peculiar to the north island (ဥတ္တရကုရု), said to produce whatever an applicant may desire; an artificial tree laden with religious offerings; hence, ဖိးပဒေသာ, မှန်ပဒေသာ, a chandelier; ဥာဏ်ပဒေသာ, a person of versatile intellect; ပဒေသာဆွတ်ယူရသလိုရှိ သည်, an expression applied to a person who is fortunate.

ပဒေသာလှူ, *v.* to make an offering of a ပဒေသာပင်။

ပဒဲကျောက်, *n.* the common garnet, ပဒဲဂေါကျောက်။

ပဒိုင်း(ပင်), *n.* the *Crinum*. The root of this plant, ground into a

powder and mixed with salt, is said to be an excellent remedy for boils; မှန်ပဒိုင်း or မှန်ပဒိုင်းပွင့်, a glass candle shade.

ပဒိုင်းကြက်သွန်, *n.* the Indian squill, *Scilla Indica.*

ပဒိုင်းကြီး, ရေပဒိုင်း, *n.* varieties of the *Crinum.*

ပဒိုင်းခတ္တာ, *n.* a kind of shrub of medicinal properties; *see* ပဒိုင်းဖြူ။

ပဒိုင်းနီ, *n.* the purple-flowered thorn-apple, *Datura fastuosa.*

ပဒိုင်းဖြူ, *n.* the white thorn-apple, *Datura alba.*

ပန့်, 1, *v.* to adorn, adorn with flowers, jewelry, etc., ပန်းပန်သည်, နားကပ်ပန်သည်, နားတောင်းပန်သည်။

ပန်ဆင်, *v.* same as ပန်; to be in charge of a royal order in favor of one's self, အမိန့်တော်ကိုနာခံပန်ဆင်ရသည်အတိုင်း၊ဦးထိပ်ရွက်ပန်ဆင်ပါဘုရား။

ပန်, 2, *v.* to ask leave respectfully, to beg, petition, အခွင့်တောင်းသည်, အခွင့်ပန်သည်; *comp.* တိုင်; မင်းဘုန်းကြီးထံအခွင့်ပန်ပြီးလာခဲ့ပါ, please come, after having asked permission of the *pongyi.*

ပန်ကြား, *v.* same (*more common*), အမိုးရမင်းထံအခွင့်ပန်ကြားပြီးပြီလား, have you asked permission of the authorities?

ပန်ထွာ, *v.* to petition, pray; *see also* သစ္စာပန်နက်; ပဌနာဆုတောင်းပန်ထွာတောင်းသည်။ အလောင်းတကာဖြစ်ကုန်ရာသား, they prayed (the Buddha) for a suitable blessing, and all became embryos, *i.e.*, embryo Pase Buddhs.

ပနက်, *n.* a short stake driven in the ground, to mark the site of a building; a peg used to secure anything stretched out or apart.

ပနက်တိုင်, ပနက်သဲ, *n.* same, ဘုရားပနက်သဲချသည်, ကျောင်းပနက်သဲချသည်။

ပနက်သဲစိုက်, *v.* to plant such pegs; ပနက်သဲရိုက်သည်; ပနက်သဲ is often used to denote stability, permanence, ခင်ဘျားပြောသည်စကားပနက်သဲရိုက်ထားသလိုဘဲရှိသည်, သည်မိန်းမကိုပနက်သဲဘဲအောက်မေ့ပါသည်; also applied to persons of substance and influence, လူပနက်သဲကြီးဘဲ (94).

ပနံစား, *v.* to be on friendly terms, သင့်သည်, သင့်တင့်သည်, လူချင်းပနံစားကြလျှင်၊အကြံပြည့်စုံရန်ရှိသည်, if they are on friendly terms with one another, there is a chance of the scheme being consummated; အိမ်နီးချင်းပေဒယ်လို့လူချင်းပနံမစားကြဘူး (*colloq.*), though neighbors, they do not agree with each other.

ပန္နရသမ (Pali), *a.* the fifteenth, ဆယ့်ငါးခုမြောက်။

ပန်လုံး, *see* ပတ်လုံး, *n.* the whole circuit or duration, တသက်ပန်လုံး။

ပန်း, 1, *n.* a flower, blossom, အပွင့်, ပန်းပွင့်; a leaf or twig used as a decoration; *sometimes used expletively, in composition with other words*, ကွမ်းပန်း, ဆွမ်းပန်း, etc.; *an abbrev. of* ဆူးပန်း, the safflower; ပန်းပုဆိုး, a red waistcloth; the male genitals (*polite*). The dif-

ference between အပွင့် and ပန်း is said to be, that the former is applied to the flowers and blossoms of trees or plants which have edible fruit and leaves, while the latter is applied to those which do not have edible fruit and leaves.

ပန်းအိ, *n.* the *Lagerstrœmia Indica.*

ပန်းအုံထု, ပန်းကြွထု, ပန်းငွေထု, *v.* to carve embossed figures in wood.

ပန်းအိုး, *n.* a flowerpot.

ပန်းဥဖြူ, *n.* the white-flowered *Kœmpfera.*

ပန်းဦး, *n.* the state of maidenhood, virginity.

ပန်းဦးချူး, ပန်းဦးဆွတ်, ပန်းဦးပန်, *v.* to deflower, deprive of virginity.

ပန်းဦးရစ်, *n.* an honorary chaplet.

ပန်းကလပ်, *see* ကလပ်, *n.* a low stand with a concave surface, a salver.

ပန်းကုံး (*pron.* ပန်းဂုံး), *n.* a garland, wreath of flowers, ပန်းကုံးစွပ်ပွဲ, a ceremony wherein a maiden places a garland (of flowers) around the neck of the young man of her choice.

ပန်းကွင်း, *n.* the hoop of a finger ring.

ပန်းခက် (*pron.* ပန်းဂက်), *n.* a branch of leaves and flowers, ပန်းခိုင်။

ပန်းခတ်, *v.* to suck juice from flowers, as bees, ပျားပန်းခတ်သည်။

ပန်းခုံ (*pron.* ပန်းဂုံ), *n.* a stand for flowers.

ပန်းချူး, *v.* to pluck a flower.

ပန်းခိုင် (*pron.* ပန်းဂိုင်), *n.* a branch of leaves and flowers; a bouquet, nosegay.

ပန်းချီ (*pron.* ပဂျီ), *n.* a painter, limner, ပန်းချီဆရာ။

ပန်းချီရေး, *v.* to paint, limn.

ပန်းချုံ, *n.* an arbor, ပန်းအုံ။

ပန်းခြံ (*pron.* ပန်းဂြံ), *n.* a flower garden.

ပန်းငုံ, *n.* a flower bud.

ပန်းစက္ကူ, *n.* red paper.

ပန်းစည်းကြိုး, *n.* the red string with which a girl's hair is tied.

ပန်းနံ, *a.* variegated with flowers, ပန်းနံပုဆိုး။

ပန်းနံ့ဆီ, *n.* perfumed oil, the essence of various flowers.

ပန်းနံ့ဘူး, *n.* a kaleidoscope.

ပန်းဆိုင်း, *n.* a suspended bunch of flowers.

ပန်းဆိုး, *v.* to dye red.

ပန်းဆိုးသမား, *n.* one who dyes red.

ပန်းဆွတ်ရေကျအရှုံး, *v. a boat-racing term,* meaning that if the man in the extreme bow of the boat, while seizing the ပန်း (really a rattan), falls into the water, his boat loses the race.

ပန်းဆွဲ (*pron.* ပန်းဆွဲ), *n.* artificial flowers suspended for ornament; an ornamental border to a roof, ပန်းဆွဲဆွဲသည်, ပန်းဆွဲတပ်သည်။
ပန်းတည်း (*pron.* ပဒည်း), *n.* a brazier or coppersmith.
ပန်းတံ, *n.* a rattan passed through a hollow bamboo and projecting somewhat beyond each end of it. The bamboo is horizontally placed on supports in a small boat; the boat's crew which succeeds in drawing out the rattan wins the race. This constitutes the winning-post in a boat race. It is said that formerly a flower was attached to each end of the rattan, ပန်းတံဆွတ်သည်, ပန်းတံဆွဲသည်; hence ပန်းတံ; also called ပန်းတိုင်။
ပန်းတာ, *n.* a starting-post.
ပန်းတုံး, ပန်းတုံးတိုင်, ပန်းတုံးမှတ်တိုင်, *n.* a pole surmounted with a bunch of grass or leaves, and set up by authority; ပန်းတုံး, the pole in front of a broker's residence.
ပန်းတော်မြက်နီ, ပန်းတော်မြက်ဖြူ, *n.* two kinds of grass which furnish excellent fodder for horses.
ပန်းတောင်းလည်, *n.* ornamental hangings, fringes, drapery, etc., ပန်းတောင်းလည်ကြာယပ်, အတောင်းလည်း။
ပန်းတိုင်, *n.* a winning-post or goal.
ပန်းထည်, *n.* red cloth, ရှားပန်းထည်။
ပန်းထိမ် (*pron.* ပဒိမ်), *n.* a goldsmith or silversmith.
ပန်းထိမ်ငို, *n.* the orange-flowered *Globba.* The Burmese say that owing to its being so exquisitely formed, goldsmiths weep in despair, because they are unable to imitate it.
ပန်းထိမ်ဖို, *n.* a goldsmith's forge.
ပန်းထု, *see* ပန်းပြောက်ထု, *v.* to carve in wood.
ပန်းထိုး, *see* ပန်းပြောက်ထိုး, *v.* to embroider.
ပန်းထိုးသမား, *n.* an embroiderer.
ပန်းနံ့သာ, *n.* the *Laurus.*
ပန်းနု, 1, *n.* a pale red color; *comp.* ပန်းရောင်။
ပန်းနု, 2, *n.* a kind of plant or tree (Pali ကောဓ).
ပန်းနှံနက်, *n.* a kind of arum.
ပန်းပင်, *n.* a flower plant, or tree, နှင်းဆီပန်းပင်။
ပန်းပင်နွယ်, *n.* a scandent, evergreen shrub, bearing pale lilac, or rose colored flowers, and fruit provided with thick, longitudinal wings, the *Ancistrocladus Griffithii.*
ပန်းပု (*pron.* ပဗု), *n.* a carver in wood or stone.
ပန်းပုဗ်ထား, *v.* to declare a race void; ထားပုဗ်ထား, to declare a heat void.

ပန်းပေး, *v.* to give the victory to an antagonist; to yield, to give up, as in guessing. This expression is frequently used in connection with boat races, horse races, etc.; probably an *abbrev. of* အောင်ပန်းပေး။

ပန်းပဲ (*pron.* ပဘဲ), *n.* a blacksmith; ပန်းပဲဆရာ, a master blacksmith.

ပန်းပေါင်း, *n.* a kind of paste made of fragrant flowers, offered to powerful *nats*, and to pagodas which are much venerated.

ပန်းပြား, *n.* the flag, a water plant. The Burmese often compare weak, irresolute characters to this plant, မင်းပန်းပြားပင်လိုဘဲ၊ လေယူရာယိမ်းတတ်သည်။

ပန်းပြေးပွဲ (*pron.* ပန်းဗြေးပွဲ), *n.* a foot race in which the competitors are backed to run for money.

ပန်းပြောတ်, *n.* ornamental flower work.

ပန်းပြောက်ထု, *v.* to carve in wood.

ပန်းပြောက်ထိုး, *v.* to embroider.

ပန်းပြေ့, *v.* to be enfeebled in the male genital organs, ပန်းမသန်; to be of a pale color, ပန်းနုပြေ့, ပန်းစိမ်းပြေ့။

ပန်းပွင့်, 1, *n.* a flower which has expanded.

ပန်းပွင့်, 2, *v.* to menstruate, ရာသီပန်းပွင့်။

ပန်းပွင့်စုတ်, *see* ပန်းရည်စုတ်, *n.* the humming bird and other sunbirds.

ပန်းပွတ် (*pron.* ပဘွတ်), *n.* a turner, ပွတ်သမား။

ပန်းပွား (*pron.* ပဘွား), *n.* a tuft, tassel; ပခုံးစွန်းပန်းပွား, an epaulet.

ပန်းဖူး, *n.* Burman borage, the *Plectranthus aromaticus.*

ပန်းဖျားတော, *n.* sedge, တောကြက်ထီးဖြီး။

ပန်းမန်, *an expletive,* ဥယျာဉ်ပန်းမန်, သနပ်ခါးပန်းမန်။

ပန်းမှုတ်ကျွန်း, *n.* a pagoda slave, one who gathers up flowers and the refuse of offerings, ကျွန်သိုးတော်, ဘုရားကျွန်။

ပန်းမှုတ်စွန်, or ပန်းစွန်, *n.* same.

ပန်းယွန်း, *n.* one who works in lacquer; ဓာတ်ယွန်း, figures in lacquer work; ပန်းယွန်း, lacquer work without figures; ယွန်းပြောက်ထု, ယွန်းပြောက်ထိုး။

ပန်းရက်, *n.* the essence or juice of flowers, ပန်းဝတ်ရက်။

ပန်းရက်မြက်, *n.* a kind of grass.

ပန်းရင့်, *n.* a deep red color; *comp.* ပန်းနု။

ပန်းရင်း, *n.* kuskus grass.

ပန်းရည်, *n.* the juice of flowers; liquor in which the safflower (ဆူးပန်း) has been steeped, producing a deep red color (ပန်းရင့်), or a pale red, violet (ပန်းနု).

ပန်းရည်ကျောက်, *n.* a balas ruby (a variety of spinel ruby of a pale, rose red, or inclining to orange).
ပန်းရည်စုတ် (*pron.* ပန်းရည်ဇုတ်), *n.* the humming bird and other sun-birds, ပန်းရည်စုတ်ငှက်။
ပန်းရန် (*pron.* ပရန်), *n.* a mason, ပန်းရန်သမား; ပန်းရန်ဆရာ, a master mason.
ပန်းရန်နဝါ (*pron.* ပရန်နဝါ), *n.* a kind of weed running close to the ground, with cordate leaves one or two inches long. The flower, which is very minute, is of a delicate shade of light purple.
ပန်းရနံ့, *n.* the perfume of flowers, ထိုတောအထုံးသည်မွှေးကြိုင်သောရနံ့ဖြင့်တမွှံမွှံထိုင်ကုန်၏။
ပန်းရောင်, *n.* a pink color.
ပန်းရှင်, *n.* the common balsam; *see* ဒန့်ဒလက်။
ပန်းရှူ, *v.* to smell a flower.
ပန်းရှင်, *v.* to be possessed of active virility.
ပန်းဝတ်ရက်, *see* ပန်းရက်, *n.* the essence or juice of flowers.
ပန်းသစ်ရာ, *n.* a timber tree, the *Vateria.*
ပန်းသည်, *n.* a florist.
ပန်းသေ, *v.* to lose the principle of active virility, သည်သူရောဂါများလို့ပန်းသေရှာသည်။
ပန်းသေး, *n.* a Panthay, တရုပ်ပန်းသေး။
ပန်း, 2, *v.* to be tired, fatigued, harassed in body or mind, ပင်ပန်း; *more than* မော; ကျွန်တော်အလွန်ခရီးပန်းသည်၊ သည်နေရာတွင် စားခန်းချကြစို့, I am exceedingly fatigued with travel, let us encamp in this place. *Der.* အပန်း။
ပန်းနာ, *n.* the asthma, ပန်းနာထသည်, ကျွန်ုပ်ပန်းနာအလွန်ထသည်။
ပန်းနာသည်, *n.* a chronic sufferer from asthma.
ပန်းမော, *v.* same as ပန်း။
ပန်းဟိုက်, *v.* to pant; *see* ဟိုက်; to gasp; ထင်းရှဲသည်အဖြစ်ကိုပြန်အောက်မေ့လျှင်၊ပန်းဟိုက်ပူပင်၊စိတ်မရွှင်နိုင်အောင်ဖြစ်ပါသည်ခင်ဘျား။
ပန်း, 3, *v.* to spurt, gush out; *occasionally used transitively*; သည်သူထားခုတ်ခံရလို့၊သွေးအလွန်ပန်းထွက်သည်, ရေစက်ကရေဖြာဖြာပန်းထွက်သည်။
ပန်း, 4 (from ပတ်, to encircle), *v.* to go round the end of a thing, as the end of a mountain or a shoal; to outflank, as troops. *Der.* ခါးပန်း။
ပန်းရန်း, *v.* same as ပန်း။
ပန်း, 5, *n.* the Tavoy name of the arnotto tree, သိတင်း။
ပန်းစုတ်, *see* ပဏ္ဍုတ်, *n.* a man subject to seminal debility.
ပန်းစွတ်, *n.* the hermit-crab, ဝင်ကစွတ်။

ပပ်, *v.* to be a crevice, to chap, crack open; *less than* အက်; ပုကန်အပူထည့်သို့ပပ်ကုန်ပြီ; to be chapped, as the face, lips, or hands. *Der.* အပပ်။

ပပ်ကြား, *n.* a crack, crevice, cleft; usually applied to cracks in the ground, မြေကြီးအက်ကွဲမည်သို့ပပ်နေပြီ။

ပပ်သေး, *n.* a slight crack; used with reference to cracks in timber, ထေးကြောင်းပပ်သေး။

ပမာ, *an abbrev. of* ဥပမာ, ပမာအားဖြင့်ပြောပါရစေခင်ဗျား, let me speak, sir, by means of an example.

ပမာပမည်း, *an abbrev. of* ဥပမာဥပမည်း။

ပမာဏ (Pali), *n.* measurement, size, အတိုင်းအထွာ, အတိုင်းအရှည်; ထိုအိမ်ပမာဏအားဖြင့်၊အတိုင်းအထွာဘယ်လောက်ရှိပါသလဲ, what are the dimensions of that house, by measurement? တမြန်နှစ်ကပေါ်သည့်ကြယ်တံခွန်မျက်စိနှင့်ကြည့်ကာလထန်းပင်ခန့်ပမာဏရှိသည်, the comet which appeared the year before last, when looked at with the naked eye, seemed about the size of a ထန်း tree.

ပမာဏပြု, *v.* to make account of, regard, အမှုထားသည်; သည်အမှုပမာဏပြုလောက်သည်မဟုတ်ပါ, this business is not important enough to notice.

ပယ်, 1, *n.* a square measure of ground containing twelve hundred cubits, equivalent to one and three quarters English acres; *see* အပယ်, 2. In some parts of Burma the area covered by five baskets of seed-paddy scattered (ငါးတင်းကြဲ), is considered equivalent to a *pe* (ပယ်).

ပယ်နယ်, *see* နယ်, *n.* the component parts of a territory or jurisdiction, collectively taken, whether principal or subordinate.

ပယ်, 2, *v.* to put aside, or away, to reject, to except; *comp.* ဖယ်; *n.* tare or tret, ဖိုတွက်ပယ်သည်, ချင့်တွက်ပယ်သည်။

ပယ်ပစ်, *v.* to reject and cast aside.

ပယ်ထား, *v.* to reject; to set at naught.

ပယ်ဖျက်, *v.* to reject and destroy.

ပယ်ရှင်း, *v.* to clear away, သုတ်သင်သည်။

ပယ်ရှား, *v.* same as ပယ်။

ပယင်း, *n.* amber.

ပယတ္တ (Pali), *n.* indefatigable diligence, one of the six glories of a Buddh; *see under* ဘုန်းတော်ခြောက်ပါး။

ပယောဂ (Pali), *n.* possession by some kind of evil spirit, ပယောဂကပ်သည်, ပယောဂမှီသည်, ပယောဂယှဉ်သည်; *see under* ဆေးဝါး.

*In common parlance* ပယောဂ means encouragement in a good sense, as to deeds of merit, etc.; or instigation to evil; according to Childers, '*payogo*' (ပယောဂ) means practice, use, usage, means, instrumentality, motive, occasion, object; ကုသိုလ်ကောင်းမှုကိုမှားစွာအားထုတ်စေခြင်းငှာ၊ပယောဂကူတရားဟောသည်; သည်အမှုသူ့ပယောဂနှင့်မကင်း, this affair is not exempt from his evil influence.

ပရိစ်, *n.* a cricket; a bolt to fasten a door, at the top or bottom, ပရိစ်တံလျှည့်, ပရိစ်ဖြီးလျှည့်သည်. The Burmese liken the appearance of the bud of the *sal* tree (*Pentacme Siamensis*) to a cricket, အင်ကြင်းပရိစ်ဖူးထွက်ခဲ့ပြီ။ ပွင့်တော့မည်, or မိုးသီးရွာတော့မည်။

ပရဆေး, *see* ဘယဆေး, *n.* mineral and vegetable drugs.

ပရဋ္ဌွေးတော်, *see* ဋ္ဌွေးတော်, *n.* a junction of two letters in orthography; a union or co-operation of two persons.

ပရက္ကမ (Pali), *n.* indefatigable diligence, ပယတ္တ။

ပရနိမ္မိတဝသဝတ္တီ, *n.* the sixth stage of the world of *nats*; *see under* နတ်ပြည်။

ပရပတ်, *n.* calking material.

ပရပတ်သမား, *n.* a calker.

ပရိဗိုက်, 1, *n.* a kind of heretical priest, ပရိဗိုက်ရဟန်း; false teachers in the time of Gautama, who taught that there is no future world, and that the whole man, at death, is resolved into four elements (ဓာတ်လေးပါး), the aqueous particles returning to water, the fiery particles to fire, etc.

ပရိဗိုက်, 2, *see* ပုရပိုက်, *n.* a flat thin substance, whether of paper, cloth or metal, folded backward and forward; used as a slate.

ပရဘုတ်, *v.* to eat (*clerical*) (*obs.*), ဘုန်းပေးသည်။

ပရမတ် (Pali ပရမတ္ထ, excellent), *n.* an excellent system of belief or worship, ပရမတ်ဖြန့်သည်။

ပရမတ်တရားလေးပါး, *n.* the four principles, *viz.*, စိတ်, စေတသိက်, ရုပ်, နိဗ္ဗာန်။

ပရမတ်သင်္ဂြိုဟ်, *n.* a system of metaphysics explaining the said principles, the substance of the အဘိဓမ္မာခုနစ်ကျမ်း; ontology.

ပရမ်းပတာ (*pron.* ဗယမ်းဗဒါ), *adv.* in a confused, disorderly manner, ကစဉ့်ကလျား, ဖရိုဖရဲ, အကွပ်မရှိသည့်ကြမ်းကဲ့သို့၊ လူချင်းအစေးမကပ်သောကြောင့်၊ ပရမ်းပတာနေသည်, ကိုယ်တွင်ဝတ်သောပုဆိုးအဝတ်ကိုမျှ ကျွတ်မှန်းစုတ်ပြတ်မှန်းမသိ၊မျက်စိမိုက်မိရာသို့သာဦးစွပ်ပရမ်းပတာပြေးကြလေကုန်၏။

ပရမ်းတီးတာ (*pron.* ဗရမ်းဒီးဒါ), *adv.* same; applicable to language.

ပရမ်းတီးတာပြော, *v.* to babble, သည်သူမထုတ်ကထုတ်ကပရမ်းတီးတာအလွှန်ပြောတတ်သည်။

ပရမာဏုမြူ (Pali ပရမာဏု, an invisible atom, and မြူ, a grain of dust), *n.* the smallest conceivable atom, invisible to sight; *see* အဏုမြူ, which is thirty-six times larger; ပရမာဏုမြူခန့်မျှလောက်ဖြစ်မှားခြင်းမရှိ, ပရမာဏုမြူမျှလောက်အမှုမထား။

ပရဝါ, *n.* a timber tree, the largest species of the genus *Garcinia*, the *Garcinia Speciosa*.

ပရဝုဏ် (Pali ပရိဝေဏံ, to appropriate), *n.* a fence forming the inclosure of a sacred place, ကျောင်းပရဝုဏ်, စေတီပရဝုဏ်; a boundary or border.

ပရဟိတ (Pali), *n.* the profit of others; *comp.* အတ္တဟိတ; ပရဟိတတရား နှစ်ပါး။

ပရံပရဘဝ, *n.* successive, repeated existences, ဘဝအဆက်ဆက်။

ပရိက်, *n.* *see next*.

ပရိက္ခရာ (Pali), *n.* an implement, utensil, article of furniture, appendage, etc.; ပရိဘောဂ, အသုံးအဆောင်; အိမ်ထောင်ပရိက္ခရာ, articles used in families, household furniture; ပရိက္ခရာရှစ်ပါး, the eight utensils of a priest, ဒုကုဋ်, ကိုယ်ဝတ်, သင်းပိုင်, သင်္ကန်း(?), ခါးပန်း, ဓားငယ်, အပ်, ရေစစ်။

ပရိက္ခရာရောင်း, *v.* to sell such utensils, or others of a similar kind, for the use of priests.

ပရိစ္ဆေဒ (Pali), *n.* distinction, ပိုင်းခြားခြင်း, နှစ်ပရိစ္ဆေဒကန့်သတ်၍ငွေချေးသည်, စကားပရိစ္ဆေဒပိုင်းခြားပြောသည်။

ပရိတ် (Pali ပရိတ္တံ, ကွယ်ကာစောင့်ရှောက်ခြင်း), *n.* a kind of prayer, used to ward off evil, being extracts from the သုတ္တံပိဋကတ်။

ပရိတ်နာ, *v.* to listen to the said prayers.

ပရိတ်ပန်း, *n.* charmed flowers placed in the ပရိတ်အိုး။

ပရိတ်မွန်း, *v.* to pronounce a benediction after reciting the ပရိတ်။

ပရိတ်ရေ, *n.* charmed or holy water. This water is sometimes sprinkled on persons, sometimes drunk, and sometimes thrown on the ground around houses; it is also thrown against the four corner posts of a house.

ပရိတ်ရွတ်, *v.* to repeat the ပရိတ်, ကာလရောဂါဖြစ်လျှင်၊ ဘုန်းကြီးများကိုပင့်၍ပရိတ်ရွတ်စေသည်. These prayers are usually repeated in times of sickness, also when first taking up one's abode in a newly-built house.

ပရိဒေဝမီး, *n.* the fire of grief and woe. *Childers.*

ပရိနိဗ္ဗာန်, *n.* annihilation; *see* နိဗ္ဗာန်။

ပရိနိဗ္ဗာန်စံ, ပရိနိဗ္ဗာန်ယူ, *v.* to attain annihilation, ရှင်ဂေါတမပရိနိဗ္ဗာန်ယူတော်မူသည့်နှစ်။
ပရိပ်ချည်, *n.* charmed thread.
ပရိဘောဂ, *n.* an implement, utensil, article of furniture; ပရိက္ခရာ is a clerical term; ပရိဘောဂ can be applied to articles pertaining to a priest or a layman, လူတို့ပစ္စည်းပရိဘောဂအသွန်များသည်။ရတနာ်းပစ္စည်းပရိဘောဂနည်းသည်။
ပရိယတ် (Pali ပရိယတ္တိ), *n.* learning, study, application to books, သင်ခြင်း, စာပေပရိယတ်; when good actions are the result of ပရိယတ် (by study of religious books), such actions are termed ပဋိပတ်. The Burmese say of a priest, သည်ဘုန်းကြီးပရိယတ်သာရှိသည်။ပဋိပတ်မရှိပါ, this *pongyi* applies himself to books, but does not observe the precepts; ပဋိပတ် is not necessarily inseparable from ပရိယတ်, as instances frequently occur in which a person who becomes a priest late in life, and who has no love for study, can nevertheless possess ပဋိပတ်။
ပရိယာယ် (Pali ပရိယာယော), *n.* a means, expedient, device; affectation; ဥပါယ်, ဝေဝုစ်; an artifice, မာယာ; သည်သူပရိယာယ်များသည်, this person's deceits are many.
ပရိယာယ်ဆင်, ပရိယာယ်လုပ်, *v.* to plan, concoct, employ expedients, artifices, အမှန်မထုတ်ဘဲလျက်ပရိယာယ်ဆင်လုပ်သည့်အမှု, a case concocted without being true.
ပရိသတ် (Pali ပရိသာ), *n.* an assembly convened for religious instruction and worship, a religious audience; any assembly of persons.
ပရုတ်, *n.* crude camphor.
ပရုတ်ဆီ, *n.* camphorated oil.
†ပရုတ်ပရက် (*pron.* ဗယုတ်ဗယက်), *adv.* in a flurry.
ပရုန်းပရင်း (*pron.* ဗယုန်းဗယင်း), *adv.* in a tumultuous manner; *see* ရုန်းရင်း; *a.* unruly, tumultuous, disorderly, ကာလပရုန်းပရင်းဖြစ်သည်, the times are disorderly; မင်းပြောင်းမင်းလဲ နိုင်ငံပရုန်းပရင်းဖြစ်သည်, on the exchange of rulers, the kingdom becomes tumultuous; ပရုန်းပရင်းနိုင်သည်။
ပရုန်းပရင်းပြု, *v.* to be tumultuous; *see* ရုန်းရင်းခတ်ပြု။
ပရုန်းသုန်းကား (ဖြစ်), *adv.* in a tumultuous, unruly, disorderly manner.
ပရောက်ပရက် (*pron.* ဗယောက်ဗယက်), *adv.* in a bustling, hurried manner, ပရောက်ပရက်ခတ်သည်, ပရောက်ပရက်နိုင်သည်, ပရောက်ပရက်သွင်ရှားသည်။
ပရောပရည်, *adv.* in the way of joking with too much freedom and familiarity; *see* ပရက်ပရယ်; ပရောပရည် is in more general use than

ပရက်ပရယ်; လူချင်းပရောပရည်မလုပ်နှင့်၊အရှိအသေပျက်တတ်သည်, do not be too familiar with each other; respect is apt to be destroyed.
ပရောဟိတ်, *see* ပုရောဟိတ် (Pali ပရောဟိတ), *n.* a Brahmin invested with certain sacerdotal functions.
ပ ရွက်, *n.* an ant.
ပ ရွက်အုံ, *n*, the nest of earth made by ants on the side of a tree or post, တိုင်မှာပ ရွက်အုံလုပ်သည်, သစ်ပင်မှာပ ရွက်အုံတွယ်သည်။
ပ ရွက်ကြောင်း, *n.* twills in cloth; *see* လဲလုံးကြောက်, ဖျာပရွက်ကြောင်းရက်သည်။
ပ ရွက်ဆိတ်, *n.* an ant (*more common*).
ပ ရွက်ပျံ, *n.* a winged ant.
ပလင်း, *n.* a bottle, ပလင်းပစ်မှု။
ပလာ (*pron.* ဗလာ) (Pali ပလာသော), *a.* or *adv.* open, naked, bare, ဟင်းလင်း; vacant, empty, blank, ပလာစက္ကူတချပ်, a sheet of blank paper; ပလာကျင်းပြ, to exhibit a marionette show after removing the stage curtain; ပလာအိပ်, or ပလာကျင်းအိပ်, to sleep divested of clothes; ပလာချိုး, or ပလာကျင်းချိုး, to bathe divested of bathing garments; a blank ticket in a lottery.
ပလာစစ်ထိုး, *v.* to engage in battle in the open field.
ပလာစာရေး, *n.* a writer or clerk who receives no remuneration or salary.
ပလာစီး, *v.* to ride bareback.
ပလာထား, *v.* to make bare, to expose, ဟင်းလင်းထား။
ပလာထိပ်, *n.* a blank ticket in a lottery or raffle.
†ပလာချာ, *a.* or *adv.* wholly, ပလာချာစုတ်သည်, to be torn to tatters; အိမ်မိုးပလာချာပေါက်သည်, the roof of the house is full of holes; သည်သူပလာချာရူးသည်, this individual is stark mad.
ပလီ, *v.* to be false, deceitful, ဆန်းပြားသည်; *in a child*, to put on the airs of wisdom beyond its years, to be winningly precocious, ချက်ချာလိမ္မာသည်; မင်းအလွန်ပလီသည့်လူဖြစ်သည်, you are a very deceitful man.
ပလီအိုး, *n.* a flattering, deceitful fellow, တာတာအိုး, ပလီအိုးမကလေး, a sly little puss; တာတာအိုးကလေးပြောတတ်ပေသည်။
ပလီပလာ, ပလီစီးပလီစာ, ပလီစီးပလာစာ, *adv. from* ပလီ, ပလီစီးပလာစာပြော။
ပလုတ်, *n.* the teredo borer; a small basket.
ပလုတ်တုတ်, *n.* a small drum, beaten with two sticks, at ရှင်ပြု and other religious festivals, before the ဗြော is struck, ပလုတ်တုတ်ခေါက်သည်, ပလုတ်တုတ်တီး; the sound of this drum is said to resemble the fruit of the ဇမ္ဗူသပြေ falling into water, ဇမ္ဗူသပြေသီးကြွေသံကဲ့သို့ပလုတ်တုတ်ကိုခေါက်သည်။

ပလုံး, *n.* a small basket with a handle, used in catching fish; one kind of ပုံး, ပလုံးထမ်းသည်, ပလုံးလွယ်သည်။
ပလူ, *n.* a white ant in the winged state, ပလူကောင်။
ပလွတ်, *see* ပတွတ်, *n.* a tubule, sucker, made of a reed, quill, etc.
ပလောကတ်, *n.* a handkerchief, of silk or cotton, having large checks.
ပလှဲပတင် (*pron.* ဗလှဲဗဒင်), *adv.* backward and forward, interchangeably, turn about, အပြန်အလှန်မြင်းပလှဲပတင်စီနှင်ကြသည်, တခွန်းစီပလှဲပတင်ဆဲကြလို့ကြေပြီ။
ပလိုင်း, *n.* a large basket, used in catching fish and carrying burdens. ပလိုင်းပိုးသည်, ပလိုင်းလွယ်သည်; လူပလိုင်းကိုင်, a person used as an instrument by others; a term of reproach.
ပလ္လင် (*pron.* ပလင်) (Pali ပလ္လင်္ကော), *n.* an elevated seat; hence ရာဇာပလ္လင်, a throne; တရားဟောပလ္လင်, a pulpit; အပရာဇိတပလ္လင်, the throne of a Buddh; ဒိဗ္ဗပလ္လင်, the throne of a *nat*; သင်ပုတ်ပလ္လင်, a pedestal on which offerings are presented before a pagoda; ပလ္လင်တို, the short piece of writing on the first two and the last two pages of a palm-leaf book.
ပလ္လင်ခံ, ပလ္လင်တိုခံ, *v.* to arrange the said pages; စကားပလ္လင်ခံပြောသည်, to preface a subject, with introductory remarks.
ပလ္လင်ပေါက်, *n.* the holes through which the pins or strings of a palm-leaf book pass, in order to keep the leaves in place.
ပဝတ္တိ (Pali), *n.* being, ဖြစ်ခြင်း; the state of being substituted for another, not real and permanent, only temporary; not genuine, spurious, counterfeit; *opposed to* ဇာတိ, မအူပင်သားဇာတိလား၊ ပဝတ္တိလား, are you a permanent, or temporary resident of Maubin? အမာရွတ်ဇာတိလားပဝတ္တိလား, is it a permanent or a temporary scar?
ပဝတ္တိဖြစ်, *v.* to be counterfeit.
ပဝယ် (*pron.* ဗဝယ်), *n.* the cuttlefish.
ပဝါ, *n.* a handkerchief, towel, ပဝါခြုံသည်, ပဝါပေါင်းသည်။
ပဝါရဏာ (Pali), *n.* a confession of priests to one another, ရဟန်းတို့၏အပြစ်တောင်းပြတောင်းပန်ခြင်း; ဥပုသ်ပဝါရဏာပွဲ (95).
ပဝေသနီ, *n.* ancient time, ရှေးပဝေသနီက, long, long ago, ရှေးပဝေသနီအစဉ်အဆက်ကြီးမိုးခဲ့သည်, as in speaking of hereditary officeholders; ရှေးပဝေသနီအဆန့်ပရံပရတဝက, from ancient times, through successive existences.
ပသာဒ (Pali), *n.* the making visible, sensible, ထင်ရှားစေခြင်း, ပသာဒကောင်းသည်, ပသာဒလှသည်; မျက်စိပသာဒ, delight or gratification of the eye.

ပသာဒရုပ်, *n.* matter which perceives, that is, an organ of sense; *comp.* ဝိသယရုပ်; ပသာဒရုပ်ပျက်သည်။

ပဿာဝမဂ် (Pali ပဿာဝ, urine, and မဂ္ဂ, an aperture), *n.* the external aperture of the urethra.

ပသိ, *n.* a Mohammedan, Mussulman, ပသိကုလား။

ပသိကျောင်း, *n.* a Mohammedan mosque, ဗလီတိုက်။

ပသိကျောင်းမျှော်စင်, *n.* a minaret.

ပသိဆရာ, *n.* a *moolah.*

ပသိဘာသာ, *n.* the Mohammedan religion.

ပဿာသ (Pali), *n.* breath inspired, ဝင်သက်; *comp.* အဿာသ။

ပသျှူး (*pron.* ဗရှူး), *n.* a Malay; ပသျှူးထား, ပသျှူးကတ်ကျေး, အင်္ကျီပသျှူးချုပ်. The Burmese style Malays "အဗန်," when addressing them.

ပဟာန် (*pron.* ဗဟာန်) (Pali ပဟာနေ), *n.* a putting away, ပယ်ခြင်း။

ပဟာန်သုံးပါး, *n.* the three kinds of putting away of sin, *viz.* တဒင်္ဂပဟာန်, putting it away for a moment; ဝိက္ခမ္ဘနပဟာန်, putting it away for a considerable period; သမုစ္ဆေဒပဟာန်, putting it away entirely and for ever.

ပဟိုရ်ခေါင်းလောင်း, *n.* the great bell of the palace, struck simultaneously with the great drum.

ပဟိုရ်စင်, *n.* the frame on which the ပဟိုရ်စည် was placed.

ပဟိုရ်စည်, *n.* the great drum of the palace at Mandalay, formerly beaten every third hour.

ပံခတတ်, *n.* sago, သာဂူ, တောက်တာ။

ပံသုကူ (Pali ပံသု, dirt, and ကူလော, a kind), *n.* food or clothing discarded, for any person to take; the flesh of dead animals, particularly fowls.

ပံ့, *v.* to help, aid, assist; *not used singly.* *Der.* အပံ့, ကူပံ့, ထောက်ပံ့, ချောက်ပံ့။

ပံ့ပိုး, *v.* to make presents in order to win the affections of another, generally one of the opposite sex; to assist another in worse circumstances than one's self, အဝတ်ပုဆိုးများကိုပံ့ပိုးနေရသည်; to assist in any way, ကျွန်တော်အိမ်ထိုင်ထူရာမှာခင်ဗျားအိမ်ကလူများနှင့်ပံ့ပိုးလှည့်ပါ။

ပါ, 1, *v.* to be with, come or go with, accompany, အပါခေါ်ခဲ့ပါ; ဆေးလိပ်ပါသလား, have you a cheroot with you? သည်ထမ်းကိုသွားရသော်လည်းကိုယ်သာပါသည်၊မိတ်မပါဘူး, မင်းမျက်စိမပါဘူးလား။

ပါကျ, *v.* to lose property, influence, power, etc., ဦးတရုပ်ဖြူခြေကထောက်မချမ်းသာပါ၊ပါကျနေပြီ။

ပါရှိ, *v. see the next, and the parts*; လောကနိမိတ်တွင်ပါရှိသည့်အဓိပ္ပာယ်များ

ကိုအကုန်မှတ်မိပါ၏, I remember, perfectly, the meaning (of the maxims) contained in the လောကနီတိ။

ပါလာ, *v.* to be comprised in a writing; to be carried or brought with; ကျွန်တော်နောက်ပါလာသည်, ခွေးထလေးကိုတမင်ယူခဲ့သည်မဟုတ်၊သတိမေ့လို့ပါလာသည်။

ပါဝင်, *v.* to be contained in, implicated or involved in, ငွေသည်ခိုးမှုတွင်မကာ၊ထားခြင်းမှုတောင်ပါဝင်သည်။

ပါသွား, *v.* to be carried or taken away with, ကျွန့်ပ်ထက်ကိုင်ပတ်ါသည်ရထားပေါ်မှာပါသွားပြီ; *fig.*, to be led away by another.

ပါ, 2, *verb. affix, euphonic, conciliatory, polite, respectful,* မပြောပါနှင့်၊ကျွန်တော်မသိလို့ပါ, ကျွန်တော်မသိလို့မေးပါသည်, နာမည်တယ်သူပါလဲ။ ကျွန်မနာမည်မယ်တင်ပါ, နာမည်ငမောင်ပါဘုရား; ပါ *is often pron.* ပ, as ခြင်ပါ့, ရှိပါ့, သိပါ့; *sometimes* ပါ *is placed between two verbs in a sentence,* ထွက်ပြေးပါရသည်, မေးပါရသည်; *sometimes it is reduplicated and placed between the verb and* ဘူး, *the past indefinite affix,* မထင်ပါဘူးပါ, မမြင်ပါဘူးပါ. The use of the polite affix is absolutely essential from inferiors to superiors; it is a mark of good breeding among equals, a pleasing mark of affable and considerate condescension when employed by a superior to an inferior, and is far too frequently omitted by Europeans in conversation.

ပါရိမောက် (ကျမ်း), *n.* the Manual of Buddhist Priests, being an abridgment of the ဝိနည်း, ဝိနည်းငါးကျမ်းအဓိပ္ပာယ်ကိုအကျဉ်းချုံးပြီးရေးသည်။

ပါဠိ (Pali ပါဠော), *n.* an original text or reading.

ပါဠိတန်း, *n.* a line of an original text, ခင်ဘျားစကားပြောမည်ကြိုလျှင်ပါဠိတန်းထက်ဘနှင့်ရွတ်ပြောတတ်သည်။

ပါဠိပါဠိ, *n.* the whole, collectively, ပါဠိပါဠိအခုဂိုဆောင်သည်။

ပါဒ် (Pali ပါဒ), *n.* a measure of time equal to sixteen *bizanas* (ဗိဇနာ).

ပါဒ (Pali), *n.* a foot, ခြေ; a poetical foot, ပုဒ်; ရှစ်လုံးတပါဒ၊လေးပါဒတဂါထာ။

ပါဒရက် (Pali ပါဒ, the foot), *n.* the cause of a certain class of diseases; so called because supposed to ascend from the feet, ပါဒရက်မှက်ခမ်း (or မှက်ခမ်းစပ်).

ပါဒရက်တက်, *v.* to ascend from the feet, to be subject to the said diseases, တူလာပါဒရက်၊ ခြေကတက်။

ပါဒရက်ရောဂါ, *n.* the aforesaid diseases.

ပါပ (Pali), *n.* demerit, မကောင်းမှု, မကောင်းမှုပါပကိုကြည်ရှောင်ခြင်း။

ပါပကာရီ (Pali), *n.* one who habitually commits evil, သည်သူပါပကာရီသဘောအလွန်အားကြီးသည်။

ပါရမီ (Pali), *n.* an accomplishment or virtue, ပြည့်စုံခြင်း. There are ten primary virtues called *paramitas* (ပါရမီ) that are continually exercised by the Bodhisats; and as each virtue is divided into three degrees, ordinary, superior, and pre-eminent (အယုတ်၊အလတ်၊အမြတ်) there are thirty *paramitas, e.g.*, ဒါနပါရမီ, ဒါနဥပပါရမီ, ဒါနပရမတ္ထပါရမီ, etc.

ပါရမီဆယ်ပါး, *n.* the ten cardinal virtues, *viz.*, ဒါန, သီလ, နိက္ခမ, ပညာ, ဝီရိယ, ခန္တီ, သစ္စာ, အဓိဋ္ဌာန, မေတ္တာ, ဥပေက္ခာ; ပါရမီတဆယ်ပါး ပြဒ်းလိုက်လျှင်သုံးဆယ်။

ပါရမီနု, *v.* to be immature in the exercise of the *paramitas*, *e.g.*, a Bodhisat (ဗောဓိသတ်) who has accomplished the partial fulfilment of some of the *paramitas*.

ပါရမီပြည့်, *v.* to fulfil the ten *paramitas*.

ပါရမီရင့်, *v.* to be mature in the exercise of the *paramitas*, as a Bodhisat on the eve of becoming a Buddh; to be replete with virtue.

ပါရသီ, *n.* a Parsi.

ပါရာဇိက (Pali), *n.* an unpardonable sin committed by a priest; they are four in number, murder, theft, sexual intercourse, false profession of the attainment of *rahatship*; ပါရာဇိကသိက္ခာပုဒ်လွန်ကျူးသည်။

ပါလကီ, *n.* a palanquin, ထမ်းစင်။

ပါလာရှုတ္တာ, *n.* green vitriol, copperas, sulphate of iron, ရှုတ္တာစိမ်း။

ပါလီနတ်စာ, *n.* an offering made to the guardian *nat* of a town or village; ပါလီနတ်စာပွဲသည်, ပါလီနတ်စာလုပ်သည်, terms applied to official parasites who fleece litigants, on the pretence that they are able to influence their patrons in deciding cases; အလိမ္မာ။

ပါဠိ (Pali), *n.* an original word or language, opposed to the vernacular; the Magada language, မာဂဓပါဠိ, ပါဠိအဋ္ဌကထာ, ပါဠိနိဿယ။

ပါး, 1, *n.* a cheek, a side of the face, ပါးကိုနမ်း။

ပါးဆို့, *n.* the protuberance of the cheek.

ပါးဖို့, *n.* a fat cheek, ပါးစုန်း။

ပါးကန့်, *n.* the thwart of a boat, လှေကန့်။

ပါးကပ် (*pron.* ပဂပ်), *n.* a piece of timber with a mortise and tenon, fastened to the side of a post, instead of being placed on the top.

ပါးကာ, *n.* a guard for the cheeks.

ပါးကာနားကာ, *n.* same as ပါးကာ။

ပါးကွက်, *v.* to tattoo a circle on the cheeks; *n.* a person thus tattooed, an outlawed executioner, ပါးကွက်ဆေးထိုး, အာဏာသား, လက်မထောက်, လက်မရှိ။

ပါးချ, *v.* to strike the cheek with the open hand.
ပါးချုပ် (*pron.* ပချုပ်), *n.* a headstall used in tethering an animal, မြင်းကိုပါးချုပ်တပ်၍လံထားသည်; မြင်းပါးချုပ်။
ပါးချုပ်ထိုး, *v.* to make a headstall.
ပါးမြှုတ် (*pron.* ပမြှုတ်), *n.* the end of the lower jaw, ပါးမြှုတ်ရောင်။
ပါးမြှုတ်ရိုး, *n.* the lower jawbone.
ပါးစနားစ, *n.* the contour of the side of a horse's head.
ပါးစုန့်, *n.* the protuberance of a fat cheek, ပါးအို့, ပါးစုန့်ထွက်, အာကလေးဝလိုက်သည်မှာ၊ပါးစုန့်ကြီးများထွက်နေသည်။
ပါးစေ့ (*pron.* ပစိ), *n.* the parotid gland, the salivary gland nearest the ear, which pours its secretion into the mouth during mastication.
ပါးစေ့ရောင်, *v.* to have the mumps.
ပါးစောင်, *n.* the inside of the cheek.
ပါးတေ့နားတေ့ (*pron.* ပဒွေ့နဒွေ့), *adv.* in close proximity, closely, ပါးတေ့နားတေ့လိုက်, to pursue or follow closely; *tete-a-tete*, တီးတိုး; ပါးတေ့နားတေ့ပြောခြင်း။
ပါးထပ်နားထပ် (*pron.* ပထပ်နထပ်), *adv.* same as ပါးတေ့နားတေ့။
ပါးပုတ်, *v.* to hew the sides of a piece of timber.
ပါးပေါက်, *n.* a dimple.
ပါးပျည်း (*pron.* ပဗျည်း), *n.* the pendulous flesh of a cheek; the gills of a fish; the hood of a cobra; the ridges of the stock of a tree, descending into the roots; ပါးပျည်းထောင်, to extend its hood, as a cobra, ပါးပျည်းထ။
ပါးပြနားပြ, *adv.* conspicuously, as in full view of another.
ပါးသိုးနားသိုး, *n.* the fine paid by a woman convicted of cohabiting with another woman's husband; ပါးသိုးနားသိုးလျှော်သည်, formerly, a fine paid when convicted of assault.
ပါးမုန်း (မွေး), *n.* the hair of the cheek, the whiskers.
ပါးမျိုင်း (မွေး), *n.* the same.
ပါးယွဲ့, *v.* to be drawn to one side, to be distorted, as the mouth.
ပါးရင်းနားရင်းစပ် (*pron.* ပရင်းနရင်း), *v.* to burn, as at the roots of the cheeks and ears, after having eaten something hot and pungent, ငရုတ်သီးစားလျှင်၊ပါးရင်းနားရင်းစပ်သည်။
ပါးရေတွန့်, *v.* to be wrinkled, as the skin of the cheeks.
ပါးရဲထိုး, *v.* to tattoo the face in the manner of Chin women.
ပါးရိုက်, *v.* to strike the cheek with the open hand; *see* ပါးချ။
ပါးရိုး, *n.* the cheek bone; the upper jaw.
ပါးလိမ်း, *v.* to caress, fondle, ပါးလူးသည်။

ပါးလိမ်းပါးကျံ (*pron.* ဗလိမ်းဗကျန်), *adv.* subtilly, craftily, in a tricky manner, မင်းတို့နှစ်ယောက်ပါးလိမ်းပါးကျံတယ်လုပ်တတ်သည် (*Colloq.*).
ပါးလုပ် (from လုပ်, to feed one's self), *n.* the cheek stuffed out with food, ပါးလုပ်ပြည့်အောင်စားသည်, ပါးလုပ်ပါးပြည့်စားသည်။
ပါးလုပ်ပါးလောင်း, *adv.* with the mouth stuffed with food (*infreq.*).
ပါးလုပ်ရေမှုတ်, *v.* to eject water from the mouth, as on the axletree of a cart, or on a basket or mat when weaving.
ပါးလုပ်သံ, *n.* the tone of voice when the mouth is stuffed with food, စကားပါးလုပ်သံနှင့်ပြောသည်။
ပါးလူး, *v.* to caress, fondle, ပါးလိမ်းသည်; usually used in a bad sense, ပါးလူးပါးလဲလုပ်သည်။
ပါးလူးနားလူး (*pron.* ပလူးနလူး), ပါးလူးပါးလဲ (ပလူးပလဲ), *adv.* *from above*, ပါးလူးနားလူးလုပ်သည်, ပါးလူးပါးလဲလုပ်သည်။
ပါးလျက်နားလျက် (*pron.* ပယက်နယက်), *adv.* slobberingly, as a dog.
ပါးသက်ပေါက်, *n.* to have the corners of the mouth crack open, in consequence of some disease.
ပါးသွယ် (*pron.* ပသွယ်), *n.* the lower part of the cheek, the jowl.
ပါးသွယ်ရိုး, *n.* the lower jaw; *see* ပါးချိတ်ရိုး။
ပါးဟက် (*pron.* ဗဟက်), *n.* the gills of fish.
ပါး, 2, *v.* to send (by the hand of some person), လူကြုံဖြင့်ပါးလိုက်ပါမည်။
ပါးလိုက်, *v.* same (*more common*); *comp.* ပေးထိုက်; ရန်ကုန်မြို့သို့သွားလျှင်၊ကျွန်တော်မိတ်ဆွေမောင်ချို့သို့၊လက်ဆောင်ပါးလိုက်ပါရစေ။
ပါး, 3, *v.* to be thin, မထူ; to be acute of perception; to be wide apart, sparse, set thinly, ကျဲသည်, မစိပ်, မထူ; to be not crowded, to be thin in attendance, as an assembly; to be sparse, နည်းသည်; *seldom used singly*, ပါးလျားသည်, ခေါင်းပါးသည်; သည်ပွဲမှာလူတယ်ပါးသည်, this *pwe* is very sparsely attended; to be scarce, ရှားသည်။
ပါးချပ်, *v.* to be thin and flat; *used adverbially*, ပါးပါးချပ်ချပ်, or ပါးချပ်ချပ်, သည်လူတယ်ပိန်သည်၊ပါးချပ်ချပ်ကလေး, ငွေတောင်စက္ကူပါးချပ်ချပ်ကလေး, ခါအုပ်ပါးချပ်ချပ်ကလေးရှာလိုက်စမ်းပါ။
ပါးရား, *v.* to be wide apart, set sparsely, not close; to be sparse.
ပါးလျ, *v.* to be flimsy; to be slender, delicately formed; *used adverbially*; လျပါးသည်, ပုဆိုးအသားပါးပါးလျလျကလေး၊အဝတ်မခံနိုင်, the *puhso* is of very thin texture, it will not stand wear.
ပါးလျား, *v.* to be wide apart, set sparsely, not close; to be sparse.
ပါးသွား, *v.* *see the parts.*
ပါး, 4, *v.* to go to leeward; to go aside, out of the direct way, in an oblique direction, ပါးသွားသည်. *Der.* တိမ်းပါး, and ထိမ်းပါး။

ဗိ, *v.* to be pressed, flattened, crushed, အလွန်မောင်းသည့်လှည်းဘီးကြောင့်ဗိ သွားစေရမည်. *Der.* ဖိ။

ဗိချပ်, ဗိပြား, *v. see the parts*; *mostly used adverbially*; သေနတ်မမှန်ရ အောင်၊မြေကြီးပေါ်တွင်ဗိဗိပြားပြားဝပ်နေကြ, that you may not be shot, lie flat on the ground; တိုင်းပြည်ဗိပြား၊ပြပ်ဝပ်၊သာယာရှိသည်, a term frequently used to express the tranquil and peaceful state of a country; usually implying that such a state has succeeded one of anarchy and disorder.

ဗိဗိရိရိ, *adv. from above*; snugly, in small compass, ဗိဗိရိရိခေါက်ထား လျှင်မှုပ်အား ခွာဆုံ့နိုင်သည်။

†ဗိစပ် (ပင်), *n.* a kind of tree; a plant of two varieties, တုန်းဗိစပ်, and ပင်လယ်ဗိစပ်, both of which are sometimes eaten.

ဗိစပ်ပုံ, *n.* an elliptical, ထုဗိကာ; *comp.* ဘဲဥရပ်ပုံ။

ဗိဋကတ် (Pali ပိဋကော, a basket), *n.* the Buddhist Scriptures.

ဗိဋကတ်တိုက်, *n.* a repository for the Buddhist Scriptures.

ဗိဋကတ်တိုက်အုပ်, *n.* the Curator of the Government Book Depot.

ဗိဋကတ်သမိုင်း, *n.* a work which gives the clearest possible account of all that refers to the history of the Buddhist Scriptures.

ဗိဋကတ်သုံးပုံ, *n.* the three grand divisions of the Buddhist Scriptures, *viz.*, ဝိနည်း, သုတ္တန် and အဘိဓမ္မ. "The incidents of his (Gautama's) life are to be found in the sacred books of the Buddhists, which are called in Pali—the language in which they are written—Pitakattayan, from *pitakan*, a basket or chest, and *tayo*, three, the text being divided into three great classes. The instructions contained in the first class, called Winaya (ဝိနည်း), were addressed to priests; those in the second class Sutra (သုတ်), to the laity; and those in the third class Abhidharmma (အဘိဓမ္မ), to the *dewas* (ဒေဝါ) and *brahmas* (ဗြဟ္မာ) of the celestial worlds. There is a commentary called the Atthakatha (အဋ္ဌကထာ), which until recently, was regarded as of equal authority with the text." E.M.

ဗိဏ္ဍပါတ်, *n.* food received daily in the alms-bowl of a Buddhist monk, ဗိဏ္ဍပါတ်ဆွမ်း။

ဗိတ်, 1, *n.* cotton cloth.

ဗိတ်အုပ်, *n.* a bale of cotton cloth.

ဗိတ်ဖြူကျွတ်, *n.* bleached cotton cloth.

ဗိတ်စိမ်း, *n.* unbleached cotton cloth.

ဗိတ်ရာဇာ, *n.* jaconet.

ဗိတ်, 2, *n.* mucus from the intestines, ဗိတ်နီ, ဗိတ်ဖြူ။

ဒိတ်ကိုက်, *v.* to have a dysenteric affection of the bowels, ဒိတ်ကျသည်, ဒိတ်ဖြစ်သည်။

ဒိတ်နာ, *n.* a bloody flux.

ဒိတ်, 3, *v.* to shut up; to close; to stop up, ဆို့သည်; (*intrans.*) to be shut, closed; မိုးဆီးချုပ်ပြီ၊တံခါးများကိုဒိတ်ထားလိုက်ပါ, ပလင်းအပေါက်ဝဒိတ်နေလို့ဆေးမထွက်နိုင်ပါ, သူခိုးထားဖြတ်လွှန်းလို့၊လမ်းဒိတ်နေသည်။

ဒိတ်ကာ, *v.* to shut, close, စေ့ထား။

ဒိတ်တုံး (*pron.* ဗိတ်တုံး), *n.* a grossly ignorant man, a know-nothing, သူဒိတ်တုံး, လူမိုက်ကြီး။

ဒိတ်ပင်း, *v.* to hinder, obstruct, prevent, ဆီးတားသည်, ကျွန်ုပ်ကသူတပါးများကိုပေးမည်ကြံလျှင်၊ခင်ဗျားဒိတ်ပင်းတတ်သည်။

ဒိတ်ပေါင်း, *n.* a dense wood.

ဒိတ်သားထိုး, *v.* to darn, ပုဆိုးဒိုးလောင်ပေါက်ကိုဒိတ်သားထိုးသည်။

† ဒိတ်ချင်း, *n.* the cubeb, *Piper cubeba.*

ဒိတ်ရွယ်, *n.* a kind of grass which grows to the height of seven or eight feet, ဒိတ်ရွယ်တော။

ဒိတ်တောစ, *v.* to die, come to an end, be destroyed; colloquial among children and theatrical performers. It has sometimes a derisive, sometimes a jocular, meaning, တခါတည်းဒိတ်တောစပေရော့, တခါတည်းဒိတ်တောစအောင်သတ်ပစ်လိုက်မည်။

ဒိတ်မှန်, *see* ဗိမာန်, *n.* a house, mansion, temple, a building devoted to worship.

ဒိတာ (Pali), *n.* a father, အဘ။

ဒိတာန် (*pron.* ပဒါန်) (Pali ဝိတာနံ), *n.* a canopy, anything stretched overhead, မျက်နှာကြက်, ဒိတာန်မျက်နှာကြက်လျှသည်။

ဒိတိ (Pali), *n.* joy, ဝမ်းမြောက်ခြင်း, ခုဒ္ဒကာဒိတိ, ခဏိကာဒိတိ, ဖရဏာဒိတိ, ဥဗ္ဗေဂကာဒိတိ။

ဒိတိဖြဲ, *v.* to be thrilled with joy, gladness.

ဒိတုန်း (*pron.* ပဒုန်း), *n.* a species of bumblebee; the carpenter bee.

ဒိတုန်းချေးလိုက်, *v.* to be soft and incohesive, as tainted meat, အမည်းသားနာကိုချက်ဒိသောကြောင့်၊ဒိတုန်းချေးလိုက်ကုန်ပြီ။

ဒိတုန်းဒိတ်, *n.* a bamboo band around a house, or the eaves of a roof; *comp.* ခါးဝန်း။

ဒိတုန်းပျံ့ဲ, *adv.* hither and thither, as the bee flies; a term applied to the manner in which the rocket called ဒိတုန်း darts to-and-fro.

ဒိတောက် (ပင်) (*pron.* ပဒေါက်), *n.* the *Pterocarpus Indicus*; the gum-kino tree; ဒိတောက်သုံးခါပွင့်လျှင်မိုးရွာတတ်သည်, when the *pidauk* has blossomed three times, it usually rains.

ဗိန်, *v.* to be lean, thin ကြုံသည်, မဝ, ဗိန်တာတာကလေး; occasionally used to denote scarcity of food, သည်နှစ်စပါးဆန်ရေဗိန်သည့်နှစ်ပါတဲ့။
ဗိန်ကပ်, *v.* to be very lean, so that the skin adheres to the bones, သည်သူငယ်ကလေးဗိန်ကပ်ကပ်ရှိသည်, ဗိန်ချပ်ချပ်။
ဗိန်ကြုံ, *v.* to be lean, thin.
ဗိန်ချုံး, *v.* to waste away from illness or mental distress; *see* ချုံး။
ဗိန်ချွဲ, *v.* to be wasted and infirm.
ဗိန်ခြောက်, *v.* to become withered; *see the parts.*
ဗိန်စောက်, *v.* to be thin and lank, as a human being, လူပုံဗိန်စောက်စောက်။
ဗိန်ညောင် (*pron.* ညှောင်), ဗိန်လိမ်, *v.* to be lean, thin, လူဗိန်ဗိန်ညောင်ညောင်ကလေး; *see* ဗိန်။
ဗိန်ထို, *v. see the parts.*
ဗိန်သွား, *v.* to grow thin; to collapse.
†ဗိန်ညှင်း (*pron.* ဗိန်ညင်း), *n.* the kingfisher.
ဗိန်း, 1, *n.* a kind of potato plant, the *Arum.*
ဗိန်းဖုံ, ဗိန်းကြီး, ဗိန်းကြောင်ချေး, ဗိန်းပေါက်ထွန်း, ဗိန်းလျှော, ကောင်းကင်ဗိန်း, ဝက်ကျောက်ဗိန်း, *n.* varieties of the *Arum.*
ဗိန်းဥ, ဗိန်းခေါင်း, *n.* the bulbous root of the above.
ဗိန်းကြက်ဥ, ဗိန်းကြီးခွာ, ဗိန်းငှက်, ဗိန်းစည့်ဖိုး, ဗိန်းပေါင်းထောင်, ဗိန်းလက်ရှည်, *n.* different kinds of *Arum,* the bulbous roots of which are esculent.
ဗိန်းချည်, ဗိန်းပဏ္ဏင်ဆင့်, ဗိန်းဗိလော, ဗိန်းရှိင်း, and ဆမိမ်းစားဗိန်း, *n.* varieties of the above, the root (of most) not esculent.
ဗိန်းမယောင်ရာ, *n.* the fragrant *Arum.*
ဗိန်းယည် (*pron.* ယည်), *n.* the most common potato plant; the root is esculent.
ဗိန်း, 2, *v.* to be compacted in one mass; to be close, continuous, without an opening or interstice, တဗိန်းတည်းဖြစ်သည်, တဗိန်းတည်းနေသည်, သည်ထွေတပေါက်မျှရေမယိုဘူး၊ တဗိန်းတည်းတဲ့။
ဗိန်းကော (*pron.* ဗိန်ဂေါ), *n.* a flat-bottomed boat, with sides constructed of timbers placed lengthwise; *comp.* နံထပ်; ဗိန်းကောထွေသူကြီး။
ဗိန်းတန်းဘိနပ်, *n.* a sandal covered with cloth, which derives its name from a locality near Amarapura, called ဗိန်းတန်းရပ်; ဗိန်းဘိနပ် (*more common*).
ဗိန္ဒဲ, *n.* the jack fruit, *Artocarpus integrifolia.*
ဗိန္ဒဲတိုင်, *n.* the central pillar of a pagoda.
ဗိဗိရိရိ, *adv.* snugly.
ဗိမ်, 1, *v.* to be indented, slightly concave, ဓလားကိုတုတ်ဖြင့်ရိုက်ဗိထိုဗိမ်သွားသည်. *Der.* ဆဗိမ်။

ပိမ့်, 2, *verb. affix, compounded of* ပေ, *and* အံ့, *which see*; chiefly used in poetry.
ပိလောပိနံ့ပုဇွန်ခြောက်, *n.* dried Penang prawns.
ပိလောပိနံ့မျောက်, *n.* the tapioca plant.
ပိလောပိနံ့ဝါး, *n.* the Penang or Chinese bamboo.
ပိသုဏဝါစာ (*pron.* ပိန်းသုဏဝါစာ) (Pali), *n.* language calculated to provoke a quarrel, ချောပစ်သောစကား, ကုန်းချောသောစကား။
ပိဿာ, *n.* a viss, a weight equal to one hundred *kyats* or ticals (အကျပ်), or $3\frac{65}{100}$ pounds avoirdupois, one hundred and forty British Indian tolas; ပိဿာလေး, ပိဿာဝင်အိုး။ ; 100 rupees
ပိဿုကာ (Pali), *see* ဗိသုကာ, *n.* a master workman, chief artist, architect.
ပိလာသ, *adv.* (not) at all, အလျှင်း, ပီးပီး (*Colloq.*).
ပိလား (*pron.* ဗိလား), *n.* a kind of tortoise, ပင်လယ်ပိလား; a covering for the head and back made of woven work, and used to shed the rain, ပိလားမိုးကာ; a ship's log.
ပိလားကြိုး, *n.* a log line, ရေတိုင်းကြိုး။
ပိလားမှိန်, *n.* a plumb rule.
ပိလားမ, *n.* a kind of cicada over three inches in length, which inhabits muddy places.
ပိလားသားနု (*pron.* ဗိလားသနု), *n.* the triangular prominence growing in the middle of the sole of a horse's foot, the frog, မြင်းပိလား။
ပိလော, *n.* a kind of annual the leaves of which have a ropy consistency when cooked; ပိလောပင်ပတ်ကျွတ်တက်သလို, like a ပတ်ကျွ ascending the *pilaw* plant, an expression applied to closefisted persons, or to those who are excessively smooth of speech.
ပိးပိး, *adv.* (not) at all, အလျှင်း, ပိလာသ; သည်အကလေးမိဘစကားကိုပိးပိး နားမထောင် (*Colloq.*).
ပိလုံး (*pron.* ဗိလုံး), *n.* a species of thrush, ပိလုံးငှက်ငယ်; according to Oates, the skylark (96).
ပု, 1, *an abbrev. of* ပုဗ္ဗေနိဝါသဉာဏ (Pali), *n.* wisdom which is able to discern the past; *comp.* ဗိ, and အဓ; the acquirement of this wisdom by a Buddh precedes that of the ဒိဗ္ဗစက္ခု, and အာသဝက္ခယဉာဏ်။
ပု, 2, *v.* to be dwarfish, disproportionately short in stature, in comparison with persons or things of the same species, လူပု, ဆင်ပု, မြင်းပု, သရက်ငပု။
ပုဖိုင့်, *v.* to be fat and short; to be podgy.
ပုကွ, ပုတက်, ပုတို, ပုသို, *v. see the parts*; လူကလေးပုတက်တက်ကလေး၊ အလွန်ချစ်စရာကောင်းသည်။

ပုလုကြွေးလျှေး, *adv.* with many little children or creatures, အကလေး မွေးထားလိုက်သည်မှာ၊ပုလုကြွေးလျှေးနှင့်၊ တယ်သင်းအကြီး၊ တယ်သင်းအငယ် မှန်းမသိနိုင်အောင်ရှိတော့သည်။

†ပုကန် (*pron.* ပကန်), *n.* a glazed earthen dish, bowl, etc.; ပုကန် is said to be derived from the Tamil word *pyingnan*. The Tamils introduced such dishes into Burma.

ပုကန်ခွက်ယောက်, *n.* eating and cooking utensils generally, ပုကန်ခွက် ယောက်အပြည့်အစုံနှင့်လာခဲ့ပါ, ဗုကန်ခွက်ယောက်များကိုဆေးလိုက်ပါ, ဆင်း ရဲလိုက်သည်မှာပုကန်ခွက်ယောက်မျှထည့်စားစရာတောင်မရှိပါ။

ပုကန်ပြား, *n.* a glazed dish, plate, saucer, etc.

ပုကန်လုံး, *n.* a glazed bowl, cup, etc.; ခွက်ရည်ပုကန်လုံး, a tea cup.

ပုကန်လျှား, *n.* a long or oval dish.

ပုခက် (*pron.* ပခက်), *n.* a swinging cradle; hence လှုပ်ပုခက်, a rocking cradle; ပုခက်ဇီး, ပုခက်တွဲသည်; ပုခက်တင်မင်္ဂလာပြုသည်, the ceremony of placing a child in the cradle; a term formerly applied to the royal family, and high personages.

ပုဂ္ဂလိက (ပစ္စည်း), *n.* property offered, or belonging to, an individual Buddhist monk.

ပုဂ္ဂိုလ် (*pron.* ပုတ်ဂိုလ်) (Pali ပုဂ္ဂလ), *n.* a rational being, သတ္တဝါ; a Buddhist priest who has the control of a *kyaung* or monastery, an abbot, ကျောင်းနေပုဂ္ဂိုလ်, ကျောင်းထိုင်ပုဂ္ဂိုလ်; often used in contradistinction to ဦးပဉ္ဇင်း; an individual or person, as opposed to a multitude or class; an unmarried man devoted to the instruction of others,လူပုဂ္ဂိုလ်,ပုဂ္ဂိုလ်ကြီးထုပ်ပြီးသော်လည်းအကလေးစကားကိုပြောသည်။

ပုစဉ်း (*pron.* ပဇဉ်း), *n.* a kind of locust; a devil's darning-needle, dragonfly

ပုစဉ်းထိုး, *n.* a kind of bird, the green bee-eater, said to make its nest in the ground.

ပုစဉ်းရင်ကွဲ. *n.* the cicada; the male makes a shrill sound by peculiar organs in the under side of the abdomen, consisting of a pair of stretched membranes, acted upon by powerful muscles. The Burmans believe that the making of this sound eventually kills the cicada by causing it to be riven asunder.

ပုစ္ဆာ (*pron.* ပုတ်ဆာ) (Pali), *n.* a question, အမေး, အမေးပုစ္ဆာ။

ပုစ္ဆာတင်, *v.* to put a question.

ပုဇွန် (*pron.* ပဇွန်), *n.* all fish of the *Cancer* genus, including crabs, lobsters, shrimps, etc.; လယ်ပုဇွန်, a fresh-water crab, လယ်ဂဏန်း; ရွှေပုဇွန်ဆီ, and ငွေပုဇွန်ဆီ, kinds of gold and silver lace; ပုဇွန်နှိုက် သည့်ဘုန်းကြီးသည်၊ငါးမှားသည့်ကိုယ်ရှင်တပည့်ကိုဆုံးမသကဲ့သို့။

ပုစွန်ကင်, *n.* broiled prawns.
ပုစွန်ကျစ်စာ, *n.* the small, conical mounds of earth thrown up by fresh-water crabs, a crab cast.
ပုစွန်ကျော့, *n.* a large species of shrimp.
ပုစွန်ချဉ် (*pron.* ပဇွန်ချဉ်), *n.* pickled shrimps.
ပုစွန်ခြောက်, *n.* dried prawns or shrimps.
ပုစွန်ဆိတ်, *n.* a shrimp; the smallest kind, most common, လူနာသွေးပုစွန်ဆိတ်ခုန်သလိုဘဲ, the sick man's pulse is like the jumping of a shrimp.
ပုစွန်ဆီ, *n.* prawn or shrimp oil.
ပုစွန်တုပ်, *n.* a prawn or a lobster; ပုစွန်တုပ်သား, to be cross-grained, as timber, a term used in reference to the timber used in building boats; often in contradistinction to အသားစင်း, to be straight-grained; လှေမှာပုစွန်တုပ်သားကောင်းပါသည်၊အသားစင်းမကောင်းပါ။
ပုစွန်ထောင်, *v.* to catch prawns, etc., with a trap; ပုစွန်သွဲ့, to catch prawns with a ယက်သွဲ့။
ပုစွန်ရေချို, *n.* a small fresh-water shrimp, common in mountain streams.
ပုစွန်လုံး, *n.* a crab, ဂဏန်း။
ပုဆစ်, *n.* a knee, ဒူးဆစ်; *but used in the next only.*
ပုဆစ်ချ, ပုဆစ်တုပ်, *v.* to kneel, sitting on the legs; *comp.* ဒူးထောက်; ကောင်းကောင်းထိုင်၊ဒူးပုဆစ်ချထိုင်။
ပုဆိန် (*pron.* ပေါက်ဆိန်), *n.* an ax, ပုဆိန်ရေစိမ်ထိုပွလျှင်၊မင်းကိုကြိုက်ပါမည်, if the ax should swell by being steeped in water, I will love you, *i.e.*, never; equivalent to ညောင်ပွင့်လျှင်ကြိုက်ပါမည်။
ပုဆိန်ရိုး, *n.* a helve, the handle of an ax or hatchet.
ပုဆိုး, *n.* a waistcloth, the garment worn around the waist by Burmese men; ပုဆိုးထည်လဲမရှိ, he has no change of raiment.
ပုဆိုးကြမ်း, *n.* the inner coat of the stomach or maw; *comp.* ဆောင်းထပ်။
ပုဆိုးခြမ်း (from ခြမ်း, to divide), *n.* a part of a waistcloth, a piece of old cloth, a rag.
ပုဆိုးဆီး, *v.* to put on a *puhso.*
ပုဆိုးတန်းတင်, *n.* a clothesline, ပုဆိုးတန်းတင်ပေးစားသောမယား, ပုဆိုးတန်းတင်ယူသည့်မိန်းမ, *i.e.*, a lawfully married wife.
ပုဆိုးလက်နား, *n.* a waistcloth, regarded as an ornamental article of wearing apparel.
ပုဏ္ဏင်ရွာ, *n.* a plant of the genus *Thea.*
ပုညဗလ, *n.* the force or efficacy of merit acquired in one's previous existences. T.K.

ပုညာ (*pron.* ပုံညာ) (Pali), *n.* merit, ကုသိုလ်, ကောင်းမှု; *also written* ပုညံ; ရှေးပုညာကုသိုလ်စဖယုန်ကြောင့်။

ပုဏ္ဍရိက် (*pron.* ပုဏ္ဍရိတ်) (Pali ပုဏ္ဍရိကော), *n.* a kind of water lily, ကြာပုဏ္ဍရိက်။

ပုဏ္ဏား (Pali), *n.* a Brahmin, ကြေးပုဏ္ဏား, ပုဏ္ဏားညို, ပုဏ္ဏားဖြူ။

ပုဏ္ဏားတောင်းတောင်း, *v.* to ask for anything without any compunction or sense of delicacy.

ပုဏ္ဏားမ, ပုဏ္ဏေး, ပုဏ္ဏေးမ, *n.* a Brahminess, Brahmini.

ပုဏ္ဏားဘာသာ, *n.* Brahminism, ပုဏ္ဏားတို့ဘာသာဝါဒ။

ပုတ်, 1, *n.* a large wicker basket, four cornered at the bottom and round at the top; *comp.* ပိုံ, which is smaller; ဆေးပုတ်, စပါးပုတ်။

ပုတ်စင်, *n.* the framework upon which such a basket is placed for the storing of paddy.

ပုတ်, 2, *v.* to slap, rap; to strike, beat (with the hand); to cuff; *comp.* ရိုက်။

ပုတ်ခတ်, *v.* to oppose bitterly; *see the parts*; ပုတ်ခတ်ပြော, to vilify, calumniate, traduce; အကလေးများကိုပုတ်လိုက်ခတ်လိုက်မလုပ်ပါနှင့်, do not cuff and strike the children; *in familiar parlance,* do not knock the children about; သည်သူ၊သူတပါးများကိုပုတ်ခတ်ပြောထွေ့ရှိသည်, this person has a habit of calumniating others.

ပုတ်, 3, *n.* a bulbul; *see* ဖွတ်။

ပုတတ် (*pron.* ပဒတ်), *n.* a kind of lizard or chameleon which burrows in the ground; when horses age, and gray hairs appear in their coats, the Burmese say of such an appearance, ပုတတ်ပြောက်လိုက်သည်, also တောက်တဲ့ပြောက်ထိုးသည်, မြင်းအသက်ကြီး၍ပုတတ်ပြောက်လိုက်သည်။

ပုတတ်စာ, *n.* a bulbous herb, a species of gingerwort, bearing beautiful white flowers three inches in length, just above the surface of the ground; the flowers, after being boiled, are eaten with curry; the bulb (ပုတတ်စာဥ) is given to children with jaggery, as an anthelmintic remedy.

ပုတီး (*pron.* ပဒီး), *n.* a bead or a string of beads, a necklace, ပုတီးစေ့, ပုတီးစေ့ရေမည်မျှ, how many beads in the necklace?

ပုတီးစိပ်, *v.* to tell beads.

ပုတီးဆွဲ, *v.* to wear a necklace.

ပုတီးပင်, *n.* the Indian shot; *comp.* ဗုဒ္ဓသရဏာ။

ပုတ်ပြတ်, *adv.* all together, by the job; in the lump, without counting or specifying; *comp.* သောင်းပြောင်း; ပုတ်ပြတ်ရောင်းသည်, ပုတ်ပြတ်လုပ်သည်။

ပုတ်ပြတ်ခံသောသူ, *n.* a contractor, ကံတရိုက် (Eng.).
ပုတ်သင်, *n.* a kind of chameleon, ပုတ်သင်ညို။
ပုတ်သင်ခြောက်, *n.* a diminutive species of the same.
ပုတ်သင်ပျံ, *n.* the flying chameleon, *Draco lineatus.*
ပုထုဇဉ် (*pron.* ဇဉ်) (Pali ပုထုဇ္ဇနော), *n.* one who has not attained to the state of an *ariya* (အရိယာ), ပုထုဇဉ်သား, ပုထုဇဉ်သားအမှားမရှိဘဲနေမှုံးလား (*Colloq.*).
ပုထိုး (*pron.* ပထိုး), *n.* a hollow pagoda; *comp.* စေတီ; pagodas are sometimes styled ပုထိုး, in lieu of စေတီ, ပုထိုးတော်ကြီး, ပုထိုးတော်ကလေး; မုတ်ထွန့်မုတ်ကတ်မရှိလျှင်စေတီ၊ရှိလျှင်ပုထိုး။
ပုဒ်, *see* အပုဒ်, *n.* a line of verse consisting of a certain number of syllables, commonly four or eight; a sentence in prose, or a short paragraph.
ပုဒ်ကြီး, ပုဒ်မ, *n.* a paragraph; a section of a code, criminal or civil, ပုဒ်မ၊၃၂၃ အရ, under section 323; the mark "။" at the end of a sentence; ပိုဒ်သေး, ပိုဒ်မ are considered more elegant than ပုဒ်သေး, ပုဒ်မ။
ပုဒ်စုံ, *n.* a couplet.
ပုန်, *v.* (*obs.*). *Der.* သူပုန်, and ပုန်ကန်။
ပုန်ကန် (*pron.* ပုန်ဝန်) (from ကန်, to kick), *v.* to rebel; to mutiny; ပုန်ကန်မှု, an act of rebellion, treason; တော်လှန်ပုန်စား; အိမ်ရှေ့မင်းခမည်းတော်ကိုပုန်ကန်သည်, the heir apparent rebels against his royal father; သင်္ဘောသားများကပ္ပိတန်ကိုပုန်ကန်သည်, the sailors mutinied against the captain.
ပုန်စား, *v.* same, ပုန်စားပုန်ကန် (97).
ပုန်း, *v.* to conceal one's self, to hide (*intrans.*).
ပုန်းအောင်း, *v. see the parts*, ထိုအိမ်ကိုထားပြီးအောင်းရာဖြစ်စေကြပြီတကား။
ပုန်းကြံ, *for* ပုန်း၍ကြံ, *v.* to devise in secret, လူစွမ်းကောင်းလျှင်၊ထင်ထင်ရှားရှားကြံပါ၊တိတ်တိတ်ပုန်းကြံ၍မလုပ်ပါနှင့်, if you are a man of ability, form your plans openly; do not scheme in secret.
ပုန်းကွယ်, *v.* to be completely concealed, ပုန်းမှိုးကွယ်မှိုးလုပ်သည်, ပုန်းအောင်းဆိတ်ကွယ်ရာအရပ်။
ပုန်းကွယ်ရာထူးခေါင်း, *n.* a den for concealment.
ပုန်းတမ်းကစား (*pron.* ပုန်းခမ်းဂစား), *v.* to play at hide and seek, or to play bo-peep.
ပုန်းတလုတ်ကစား, *v.* to play blind man's buff.
ပုန်းရှောင်, *v.* to avoid by keeping out of sight; to abscond, တိမ်းရှောင်, သူသည်အပြစ်ရှိသို့၊ပုန်းရှောင်သည့်လက္ခဏာရှိပါသည်။ဝါရန်းခြေနှင့်တူသည်,

there are indications that he is keeping out of the way because he is guilty; he is like an outlaw.

ပုန်းလျှိုး, *v.* to hide by stooping.

†ပုန်းညက်, *n.* the fragrant *Calophyllum.*

ပုန်းမဲဇာ, *n.* an evergreen tree, sometimes growing to the height of one hundred and twenty feet, the *Albizzia stipulata*; *comp.* ကုဝတ်ကို။

ပုန်းတာဝ, ပုန်းတော (Pali ပုရိသော, a male, and ဘာဝ, the private parts), *n.* the male private parts, ပုလ္လိင်, ယောက်ျားအင်္ဂါဇာတ်။

ပုပ်, 1, *v.* to be putrid, rotten; to be spoiled in making; to be discreditable in report, သိတင်းပုပ်သည်; သည်အမည်းသားကိုဘာချက်လို့ရမည်လဲ၊ပုပ်ကုန်ပါပြီ; သည်သူသိတင်းပုပ်လွန်းလို့၊သည်အရပ်တွင်မနေဝံ့ဘူး; သည်အလားကိုပန်းပုပ်ထားကြစို့, let us declare this heat void (*racing phrase*); အခမပေးဘဲ လပုပ်ထားသည်; မင်းပါသည့်အတွက် လပ်ပုပ်သည်။ တို့နှစ်ယောက်ချည်းတည်းသွားတုန်းက၊ အမည်းကို နေ့တိုင်းရသည်, it was because you accompanied us, that we were unlucky; when we went entirely by ourselves, we got game every day.

ပုပ်စပ်, *v.* to be putrid, rotten.

ပုပ်စော်နံ, *v.* to have an offensive, putrid smell.

ပုပ်ညှီ, *v.* to have a putrid, rank smell; *see the parts.*

ပုပ်ဟောင်, *v.* to have a stale, putrid smell, အနံ့ပုပ်ဟောင်စော်နံသည်။

ပုပ်, 2, *v.* to be dark, gloomy in appearance, မျက်နှာပုပ်သည်။

ပုဗ္ဗေနိဝါသ (ဉာဏ်), *n.* a kind of wisdom peculiar to a Buddh, by which he is enabled to take a retrospective view of deeds, etc., during past ages of existence, ရှေးဌနေဘူးသောခန္ဓာအစည်ကိုအောက်မေ့နိုင်သည်။

ပုဗ္ဗ (Pali), *n.* the past, ရှေး, အတိတ်။

ပုဗ္ဗကမ္မ, *n.* past deeds.

ပုဗ္ဗနိမိတ်, *n. fig.*, a sign of something future, an omen, prognostic, portent, ပုဗ္ဗနိမိတ်ထင်သည်, ပုဗ္ဗနိမိတ်ပြသည်။

ပုရပိုက် (*pron.* ပရပိုက်), *n.* a flat, thin substance, whether of paper, cloth, or metal, folded backward and forward, and used as a slate, ကောက်ရိုးပုရပိုက်, ရှမ်းပုရပိုက်။

ပုရပိုက်ခေါက်ချေ, *n.* a roll of beaten gold.

ပုရပိုက်လွှာ, *n.* a sheet of the material of which the ပုရပိုက် is made.

ပုရပိုက်သားကျ, *v.* to be jet-black, a term applied to elephants, ပုရပိုက်သားကျအောင်နက်သည့်ဆင်; it is also applied to thickly woven textile fabrics, ပုဆိုးအကျီအသားကောင်းလို့၊ပုရပိုက်သားကျသည်။

ပုရိသလိင်, *n. see* ပုလ္လိင်။

ပုရောဟိတ် (Pali ပုရောဟိတ), *n.* a Brahmin invested with certain sacerdotal functions, ပုရောဟိတ်ပုဏ္ဏား; the ပုရောဟိတ် was in ancient times a king's domestic chaplain.

ပုလိပ် (Eng.), *n.* police, ပုလိပ်အမှုထမ်း, a member of the police force; ခြေကျင်ပုလိပ်, a foot policeman; မြင်းစီးပုလိပ်, a mounted police constable; ပုလိပ်အရာရှိ, a police officer; စစ်ပုလိပ်ဝန်, a military police commandant; ဒုတိယစစ်ပုလိပ်ဝန်, an assistant military police commandant.

ပုလိပ်ဌာန, *n.* a police station, ဂါတ်တဲ။

ပုလဲ, *n.* a pearl; ဖိပုလဲ, an imitation pearl.

ပုလဲစေ့, *n.* same as ပုလဲ။

ပုလဲနားကပ်, *n.* an ornament studded with pearls, worn in the ear.

ပုလဲပုတီး, *n.* a pearl necklace.

ပုလဲမအေ, *n.* the pearl oyster.

ပုလဲလုံး, *n.* a pearl.

ပုလွေ, *see* ပွေ, *n.* a pipe, flute.

ပုလ္လိင် (*pron.* ပုန်းလိင်) (Pali ပုရိသော, a male, and လိင်္ဂ, the private parts), *n.* the male private parts; the masculine gender.

ပုလ္လိင်အရေဖျား, *n.* the foreskin.

ပုံ, 1, *n.* form, သဏ္ဌာန်; a mold, model; a printer's type; a pattern, example, ပုံသက်သေ; a rule, နည်း, ဥပဒေ; a figure, similitude, comparison, ဥပမာ; a plan, a design, အိမ်ပုံ, တံတားပုံ။

ပုံကပ်, *v.* to use a figure of speech, စကားအရာ၌ပုံကပ်အောင်ပြောသည်။

ပုံကိုင်, *v.* to make preparation to do something, လုပ်မည့်ပုံကိုင်ထား။

ပုံခိုင်း, *v.* to liken, compare, အယုတ္တအနတ္တပုံခိုင်းတတ်သည်, ပုံပန်းပုံပြင်ထင်ရှားအောင်တင်၍ပြောတတ်သည်။

ပုံစကား, *n.* a proverb, sentiment, conveyed in figurative language; a story, unwritten tale; an apologue; *comp.* ဒဏ္ဍာရီ။

ပုံစကားပြော, *v.* to tell stories.

ပုံစံ, *n.* a pattern, precedent, way, manner, model, ပုံသက်သေ, ထုံးနည်း။

ပုံစီ, *v.* to compose type, စာပုံစီ။

ပုံဆောင်, ပုံတင်, *v.* to use a figure of speech, ပုံကပ်။

ပုံထုတ်, *v.* to sketch, to plot.

ပုံနှိပ်, *v.* to print. ပုံနှိပ်တိုက် = စာပုံနှိပ်တိုက် publishing house

ပုံပန်း, *n.* form; appearance; a model, ပုံပန်းမလှ, ပုံပန်းကောင်း။

ပုံပြ, *v.* to show by a figure.

ပုံပြင်, *n.* shape, form; example; a rule; ပုံပန်းပုံပြင်။

ပုံပြု, *v.* to follow, as an example, ပုံပြု၍ကျင့်သည်; to make an archi-

tectural plan, ဘုရားကိုမတည်မှီ၊ရှေးဦးစွာပုံပြုရမည်, before erecting a pagoda one must first make a plan.

ပုံဘမ်း, ပုံယူ, *v.* to take the form, shape, etc., from observation; to identify; *see also* ပုံပြုသည်; လူချင်းကွဲနေကြသည်မှာကြာသဖြင့်၊ရုတ်တရက်ပုံဘမ်း၍ မရနိုင်ပါ, owing to the persons having been separated from one another for a long time, they were unable to identify each other immediately.

ပုံရင်း, *n.* an archetype.

ပုံရေးတန်ဆာ, *n.* a drawing instrument.

ပုံလုပ်, *v.* to form, fashion.

ပုံသက်သေ, *n.* a pattern, example, precedent; a paradigm.

ပုံသဏ္ဌာန် (*pron.* သန္ဒါန်), *n.* shape, form.

ပုံသေ, *v.* to be definite, settled, သေချာသည်; *a.* definite, settled, သေချာသော; certain, မုချ။

ပုံသွင်, *n.* form, appearance; figurative speech used in conversation.

ပုံ, 2, *v.* to heap up, collect in a heap, amass; to stack; သည်နေရာမှာ မြေကြီးကိုပုံထားလိုက်ပါ; ကျွန်တော်ငွေဘယ်လောက်ပင်ပုံစုသော်လည်း၊ ကျွန်တော်သားကစားသည့်အမှုနှင့်ခဏခဏကုန်သွားသည်, however much money I may amass, every little while it is consumed by my son's gambling transactions. *Der.* အပုံ။

ပုံငွေ, *n.* a fund.

ပုံစု, *v.* to gather into a heap or mass, စုပုံ။

ပုံထား, *v.* to cumulate, heap up; *see* ပုံစု။

ပုံပေါလဘော (*pron.* ဗိုးဗေါလဘော) (*said to be a corruption of two Pali words*, ဗဟု, many, much, and လာဘော, gain), *adv.* lavishly, unsparingly.

ပုံ, 3, *n.* a kind of drum; *see* ပတ်ပုံ။

ပုံတောင် (*pron.* ဘုံဒေါင်), ပုံတို, ပုံရှည်, ပုံသာ, *n.* various kinds of drums.

ပုံတောင်း (*pron.* ပဒေါင်း), *n.* the box of a wheel in which the axletree turns, ပုံတောင်းခြမ်း, ပုံတောင်းငွေ, ပုံတောင်းသပ်, ပုံတောင်းခတ်သည်။

ပုံတောင်းအိမ်, *n.* the nave of a European wheel.

ပုံပါသက (*pron.* ဗိုဗာသက) (from အပုံ, and ပိုလ်ပါ), *a.* or *adv.* given or done by the joint efforts of many; belonging to the public, open to the common use of all; *comp.* သင်္ဃိက; ပုံပါသကသွားသည့်လာသည့်လမ်း, ပုံပါသကတည်းခိုရန်ဆောက်သည့်စရပ်, ပုံပါသကစားသောက်ရန်စတုဒိသာကျွေးသည်။

ပွံ့, *v.* to plump up, swell up into a heap, စုနှံ့သည်, သည်မိန်းမမျက်နှာပွံ့ပွံ့ကလေးလှသည်, this woman's face is pretty in its diminutive plumpness.

ပွိုကြွ, *v.* same as ပွိုး။
ပွိုယှ, *see the parts; used adverbially.*
ပိုး, 1, *n.* a kind of basket, cylindrical in shape, and smeared with pitch. *Der.* နောက်လွယ်ပိုး, ဖိုးပိုး, ရေပိုး, သံဖြူပိုး, ထမ်းပိုး, ဆွမ်းပိုး။
ပိုး, 2, *n.* the Brazilian gooseberry.
ပိုးရည်, *n.* vinegar; *see* ပဒိုးရည်; ဖဲပိုးရည်, ဆန်ပိုးရည်, တိလပ်ပိုးရည်။
ပူ, 1, *n.* a round basket with a cover.
ပူ, 2, *v.* to bulge in the middle.
ပူကယ်ကယ်, *adv.* with a swollen belly, as a diseased child.
ပူ, 3, *v.* to be hot; *more than* နွေး; to be troubled in body or mind, distressed or harassed; same as ပူပန်, ကျွန်မသားကလေးမနေ့ကတည်းကပျောက်သွားသို့အလွန်စိတ်ပူသည်; တို့ရွာမှာသူခိုးအလွန်ပူသည်, in our village thieves are very troublesome.
ပူအိုက်, *v.* to be oppressively warm, တံခါးများပိတ်နေသောကြောင့်အလွန်ပူအိုက်သည်။
ပူစပ်ပူလောင်, *adv.* scorchingly, in a scorching manner, ပူစပ်ပူလောင်အိုသည်။
ပူစာ (*pron.* ပူဇာ), *v.* to tease, importune, annoy by importunity, as အကလေးပူစာလွန်းသို့ကိတ်မုန့်ဝယ်ပေးရသည်, the child teased me so, I was obliged to buy cake and give to him.
ပူဆာ, *v.* to feel hot or uncomfortable in the stomach or bowels; *also used fig.*, အကလေးပူပူဆာဆာရှိသည်။
ပူဆွေး, *v.* to be in distress from continued grief, ပူဆွေးဒုက္ခရောက်နေသည်။
ပူနွေး, *v.* same as ပူ; applied to food, ထမင်းပူနွေးနွေး၊ဟင်းလည်းပူနွေးနွေး။
ပူပင်, ပူပန် (*most common*), *v.* to be troubled, distressed.
ပူပြင်း, *v.* to be very hot, as the sun or fire; *in a figurative sense*, to be grievous to be borne; သည်ကနေ့နေအလွန်ပူပြင်းသည်၊ မိုးထစ်ရွာချင်သည်, to-day the sun is very hot, it is likely to rain. *Der.* အပူအပြင်း။
ပူလောင်, *v.* to be inflamed, as the passions, ရာဂပူလောင်; to be scalding hot, ထမင်းရည်ပူလောင်သည်; to be scorchingly hot, as the sun, နေပူလောင်သည်။
ပူပူလောလော, *adv.* hastily while the food is hot; *fig.*, အမှုဖြစ်သို့ပူပူလောလောရှိသေးသည်၊ဆင်ခြင်ဦးမှတော်မည်။
ပူ, 4, *v.* to be urgent, as a matter of business, ထွန်ရေးပူမှည့နေထွန်သည်။
ပူဇော် (Pali ပူဇ), *v.* to make an offering in token of homage or worship; to buy a sacred thing; ဘုရားတပည့်တော်မာလျှင်၊ဆီမီးသက်စေ့ပူဇော်ပါမည်, if I get well, I will make an offering of oil lamps equal in number to the years of my life; မန္တလေးမြို့ကတင်ဖျည်ခွေကိုယ်တော်တ

ဆုကိုပူဇော်ခဲ့ပါ, buy and bring me a cross-legged image of a Buddh, from Mandalay.

ပူဇော်သက္ကာ, ပူဇော်သက္ကာရ, *n.* a religious offering; followed by ပြုသည်, ဆရာသမားများကိုပူဇော်သက္ကာရပြုသည်။

ပူပူ, *adv.* tootingly.

ပူပူမှုတ်, *v.* to toot; ပူပူမှုတ်ကြမ်းမို။

ပူး, 1, *n.* a Guinea pig, ပူးကောင်။

ပူး, 2, *v.* to join, unite, put together; *less than* စပ်; to possess, as a spirit or witch, အပမှီသည်, အစိမ်းပူးသည်, စုန်းပူးသည်, တစ္ဆေပူးသည်, နတ်ပူးသည်, သားရဲပူးသည်။

ပူးကပ်, *v.* to join by putting together flatwise; *also used fig.*, to snuggle, တိုးဝှေ၍ဝပ်နေသည်; သည်သူနှစ်ယောက်ပူးပူးကပ်ကပ်ပေါင်းသည်။

ပူးကပ်ရောနှော, *v.* to inosculate.

ပူးစပ်, *v.* to join by putting together edgewise; *used fig.*, ပူးစပ်ကုန်ရောင်းသည်။

ပူးတွဲ, *v.* to connect by lashing alongside, or by coupling together; to file, as papers, သည်စာများကိုပူးတွဲထားလိုက်ပါ, please file these papers; မင်းတို့နှစ်ယောက်ညည့်အချိန်မဲ့အခါပူးတွဲပူးတွဲနှင့်ဘာကိုအကြံပြုနေကြသလဲ, what scheme are you two conjointly concocting, at an unseasonable time of the night?

ပူးပေါင်း, *v.* to unite, as by tying together; to associate, as persons, သူဆိုးများနှင့်ပူးပေါင်းသည်၊သိတင်းရသည်; သူတို့ပူးပေါင်းလိမ်ကြသည့်အမှုပါဘဲ။

ပူးရှက်, *v.* to join by intersecting; to have sexual intercourse.

ပူးလိမ်, *v.* to intertwine; ပူးလိမ်၍ရစ်ပတ်သည်, to encircle, as with a garland; to intertwist; to unite by intertwining of parts.

ပေ, 1, *n.* the palmyra palm tree or leaf; the *corypha* palm; စာပေ (*pron.* စာဗေ), writings, books; ရွှေပေ, ရွှေပေလွှာ, ငွေပေလွှာ, a thin gold or silver plate for inscription (98).

ပေစာ, *n.* writing on palm leaf.

ပေ, 2, *n.* a foot in measure; a foot-rule; သုံးပေ, three feet.

ပေကြိုး, *n.* a measuring tape.

ပေတရာလမ်း, *n.* a road a hundred feet broad,

ပေတံ, *n.* a foot measure; a staff.

ပေ, 3 *n.* an anvil (99).

ပေ, 4, *v.* to have the edge or point turned, လိပ်သည်; to turn back (the ears), as a horse, မြင်းနားရွက်ကိုပေသည်; to be dull, blunted in feelings, ပေနေသည်; သည်ထားအသွားပေသည် ခုတ်ထိုမပြတ်ဘူး; သည်သူအလွန်ဉာဏ်ပေသည်၊ စာတပုဒ်မျှရအောင်မကျက်နိုင်ဘူး, this person is

very dull of intellect, he is unable to memorize even a single paragraph.

ပေမြေး, *v.* to be dull, as the eyes; to have blinking eyes, သည်သူပေမြေးသည့်မျက်စိရှိသည်။

ပေ, 5, *v.* to be dirty, filthy, တေသည်; to be vile, ဆိုးညစ်သည်; to be vicious; သည်မျက်နှာသုတ်ပဝါညစ်လိုက်ထာပေလို့, တယ်ပေသည်လူပြောလို့ဆိုလို့မရပါ (*Colloq.*).

ပေ, 6, *verb. affix, euphonic,* ကြည့်ပါပေသည်, ပြုပါပေသည်, မှန်ပါပေသည်; *used in the negative,* မဆိုပေဘူး, မပြောပေဘူး; *also used in the negative imperative,* မဆိုပေနှင့်, မပြောပေနှင့်, မလုပ်ပေနှင့်; *except in the negative imperative,* ပေ appears to have the same meaning as the English words "indeed," "forsooth;" ပေ *when following a verb with a final* သတ်, *is pronounced* ပေ့, ကောင်းပေ, ခက်ပေ; *as a sequent to other verbs, it is pronounced* ဗေ့, ဆိုးပေ; ပေ *also has an intensive force in colloq., e.g.,* မိုက်ပေဆိုသည့်လူနှင့်ပေါင်းသည်၊ ချောပေဆိုသည့်မြင်းမှာဝယ်သည်; *it is then pronounced* ပေ့, or ဗေ့; also implies admission or approval, မနေ့ကကြားသောသိတင်းမှန်ပေလိမ့်မည်။

ပေလာသယ (Pali), *adv.* entirely; chiefly used in connection with words of rejection, renunciation, etc., ပေလာသယကန်သည်, or ပေလာသယပယ်သည်, မင်းအကြောင်းကိုဘယ်သောအခါမှမပြောဘူး၊ပေလာသယကန်ထားပြီ။

ပေး, *v.* to give, ကမ်းသည်; to present for acceptance, to offer; ပေး is frequently used as an auxiliary verb, when a person wishes another to do something on his behalf, ပြောပေးပါ, speak, please, on my behalf; သွားပေးပါ, go, please, on my behalf; ကျွန်ုပ်ကိုဝယ်ပေးသည်, he purchased, on my behalf.

ပေးကမ်း, *v.* same as ပေး။

ပေးစား, *v.* to give in marriage (*inelegant*); *comp.* ထိမ်းမြားး

ပေးလိုက်, *v.* to send (a thing); *comp.* ပါးလိုက်။

ပဲ, 1, *n.* a weight equal to six or eight seeds of the *Abrus precatorius* (ချင်ရွေး).

ပဲ, 2, *n.* a leguminous plant, one that bears seeds in a pod, of which there are many varieties, as ကုလားပဲ, gram, ပဲကြီး, ပဲခွေးသီး, ပဲငပြောက်, ပဲစဉ်းငုံ,* ပဲတီစ, စားတော်ပဲ, ပဲစောင်းလျား, ပဲတာလက် (*pron.* ပဲဒလက်), ပဲတီ (*pron.* ပဲဒီ), ပဲတောင့်ပြား, ပဲတောင့်ရှည်, ပဲနီသာ, ပဲနောက်, နှမ်းပဲ, ပဲဗိစပ် (*pron.* ဗိဇပ်), ပဲပုစွန်, ပဲပုပ်, ပဲမင်းစားယောင်, ပဲရင်း, ပဲလက်ညှိုး, ပဲလိပ်ပြာ, ပဲလွန်း, ပဲကျား, ပဲဆေးလုံး, ပဲနတ်တော်, ပဲနီ, ပဲရှောင်း

ပဲခွေး, *n.* a bitch that litters in the bean season, ပဲကြီးခွေး။

ပဲစေ့, ပဲဆန်, *n.* the seed of pulse, peas, beans.

*/pe: zin:(h)ŋoun:/

ပဲစုန်းကြွး, or ပဲစုန်းပြွး, *n.* boiled beans, peas, etc., which remain hard and uncooked after the others are done.
ပဲတောင့်, *n.* the pod, ပဲသီးတောင့်။
ပဲနောင်နီ, *n.* the sword bean.
ပဲမြစ်, ပဲဆောင်ဝါ, *n.* the Goa bean.
ပဲလင်းမြွေ, *n.* the snake gourd.
ပဲသံတာ, *n.* the wild French bean.
ပဲသီတာ, *n.* a cutaneous, pustular eruption to which children are subject; so called from a fancied resemblance to the seed of the ပဲသီတာ, ပဲသီတာအနာမှလာ၊ရေကျူးလို့လာ။
ပဲသီး, *n.* a pod and its contents.
†ပဲကွင်ကျင်, *n.* a scallop shell.
ဓဲခွပ်, *n.* a short-handle adz; *see* ပရိက္ခရာရှစ်ပါး။
ပဲထွေး, *n.* a kind of bird; a kind of plant, ခြေပဲထွေး, ရေပဲထွေး။
ပဲလဝါ, *n.* a mask, မျက်နှာဖုံး, အရုပ်မျက်နှာကိုပဲလဝါနှင့်ဖုံးထားသည်။
ပဲ့, 1, *n.* the stern of a boat or ship; *v.* to steer, ပဲ့တတ်သလား။
ပဲ့ကုန်းပတ်, *n.* the quarter-deck, သင်္ဘောပဲ့ကုန်းပတ်။
ပဲ့ကိုင်, *v.* to steer, မင်းပဲ့ကိုင်ဘူးသလား။
ပဲ့ကြက်လျှာရွက်, *n.* a spanker, ပဲ့အောက်ပို။
ပဲ့ကြက်လျှာရွက်လက်, *n.* a spanker boom.
ပဲ့မျိတ်, *n.* the oarsman who sits next to the steersman; the man who sits on the rump of an elephant, in a fight.
ပဲ့စင် (*pron.* ဇင်), *n.* a frame for the steersman.
ပဲ့တက်, *n.* an oar used for steering, ပဲ့တက်ခတ်သည်။
ပဲ့တင်ထိုး, *v.* to propel a boat, by pushing with a long oar from the stern.
ပဲ့တုံး, *n.* the block of timber which forms the stern of a Burmese boat.
ပဲ့တောင်, *n.* the seat occupied by a ပဲ့မျိတ်။
ပဲ့နင်း, *n.* the steersman of a government boat; any steersman (*polite*); *comp.* ထက်မကိုင်။
ပဲ့ပြင် (*pron.* ဗျင်), *v.* to direct, guide, instruct, သွန်သင်သည်; to amend; to discipline, correct, ဆုံးမသည်, သည်အကလေးကိုနေ့တိုင်းပဲ့ပြင်သော်လည်း မတတ်ပါ, ဆရာသမားများကတပည့်များကိုဆုံးမပဲ့ပြင်သွန်သင်တတ်သည်။
ပဲ့ပြတင်းပေါက်, *n.* the stern port.
ပဲ့ဘက်, *adv.* aft.
ပဲ့ဘက်ရွက်တိုင်, *n.* the mizzenmast, သင်္ဘောပဲ့ရွက်တိုင်။
ပဲ့, 2, *v.* to be broken off, as a small piece from a larger; to be chipped, သည်ပုကန်ဘယ်သူကြောင့်ပဲ့သလဲ; to be broken by the hand, as bread; to crumble (*intrans.*); *with* နှုတ်ခမ်း, to be hare-lipped;

to be worn off or abraded, as the skin, အရေပွံ့၊ ကျွန်တော်ကျောက်ခဲနှင့်တိုက်မိလို့ခြေအသားပွံ့ကုန်ပြီ။
ပွံ့ယွှဲ, *v.* same as ပွံ့။
†ပွံ့တင် (*pron.* ပွံ့ဒင်), *n.* an echo; *not used singly,* ပွံ့တင်သံ။
ပွံ့တင်ခတ်, ပွံ့တင်ထပ်, *v.* to echo, ဤမဟာပထဝီမြေကြီးသည်ပွံ့တင်ထပ်လျက်ပြင်းစွာတုန်လှုပ်၏, this great earth, reverberating the while, violently quaked; တတောလုံးသေနတ်သံပွံ့တင်ခတ်သွားသည်, the whole forest echoed with the report of the gun.
ပွံ့တင်တီး, ပွံ့တင်ထိုး, ပွံ့တင်ရိုက်, ပွံ့တင်ဟိန်း, *v.* same (*less frequent*).
ပွံ့တင်သံပြန်ခတ်, *v.* to re-echo.
ပေါ, *v.* to be plentiful, not scarce, မရှား; to be numerous, to abound, to have in abundance, စပါးဆန်ရေပေါသောအခါ၊ ဆင်းရဲသားများတို့က၊ ဝမ်းမြောက်ဝမ်းသာရှိကြသည်။
ပေါများ, *v.* to be much, many, abundant, သည်သူလောက်ငွေကြေးဥစ္စာပေါများသောသူသည်တမြို့လုံးတွင်မရှိပါ, there is no one in the whole city, who has money and property in such abundance as this person.
ပေါရမ်း, ပေါယယ်, *v.* same (*obs.*).
ပေါက်, 1, *v.* to pierce or be pierced, penetrated, perforated, thrust through, have a hole made into or through; to go off accidentally, as a gun; to come out, appear, as from a hole, ထွက်သည်; to sprout, come up, as a plant; to be hatched, as an egg, ကြက်ဥပေါက်သည်; to blister, as the hands or feet, ခြေပေါက်လို့ခရီးမသွားနိုင်ဘူး; to arrive, ရောက်သည်; to ferment (*intrans.*). *Der.* အပေါက်, and ဖေါက်။
ပေါက်ကွဲ, *v.* to burst (*intrans.*), သေနတ်ပေါက်ကွဲလို့လူသေသည်။
ပေါက်ကောင်, *n.* the winning animal in a thirty-six animal lottery.
ပေါက်ဆူး, *n.* a punch.
ပေါက်ဆပ်ပြာ, *n.* earth, used as a substitute for soap; *see under* ဆပ်ပြာ။
ပေါက်ဈေးအရ, *adv.* according to the current market rate.
ပေါက်ပေါက်ပန်း, *n.* colored artificial flowers, made of parched rice and strewn at festivals, weddings, and processions.
ပေါက်ပေါက်ပွင့်, ပေါက်ပေါက်ဖျော်, *n.* parched rice.
ပေါက်ပြဲ, *v.* to be torn and rent; to be lacerated, as the flesh; ပေါက်ပြဲသည့်ဒဏ်ရာ, a lacerated wound.
ပေါက်ပြောင် (*poetical*), *see* ဆင်ပြောင်, *n.* a full-grown, male elephant.
ပေါက်ပွား, *v.* to increase by propagation; applied to animals; not polite when applied to human beings.
ပေါက်ဖော်, *n.* a consanguineous relative; any relative, အဆွေအမျိုး,

[illegible] rather pejorative applied to Chinese, cp. Eng. "chink". (MMG 12/11/55)

ပေါက်ဘော်ဆွေမျိုး; *a term of mutual compellation,* used by the Burmese and Chinese.

ပေါက်ဘွား, *v.* to be born, brought forth; *comp.* မွေး ၊ တမိတဘတည်း ပေါက်ဘွားသောမောင်နှမ။

ပေါက်ရောက်, *v.* to arrive, to reach.

ပေါက်လား, ပေါက်လားဟူ၍, *adv.* (speaking) without any consideration, or regard to truth, or the feelings of others; (speaking) in an idle, profitless manner, သည်လူပေါက်လားပြောတတ်သည်စကားအခြေအမြစ်မရှိဘူး။

ပေါက်လွှတ်, ပေါက်လွှတ်စား, *adv.* of one's own will, without check or restraint, independently, မိုးလွှတ်စား။

ပေါက်လွှတ်ပြု, *v.* to take unwarrantable liberty, အခွင့်မရှိဘဲပေါက်လွှတ်ပြု။

ပေါက်လွှတ်သွား, *v.* to throw off restraint.

ပေါက်လွှတ်, ပေါက်လွှတ်စား, ပေါက်လွှတ်မဲ့စား, *corrupted into* ပေါက်လွှတ်ပဲစား, *adv.* or *a.* setting free from restraint, giving liberty to follow one's own inclination; ပေါက်လွှတ်လှေကလေး, a small boat or canoe without a rudder; ခင်ဗျားသားသမီးများငယ်သောအခါ၊ပေါက်လွှတ်မဲ့ထားလျှင်၊ကြီးသော်ဆင်းရဲလိမ့်မည်, if you, sir, allow your children when young, to follow their own inclinations, they will be poor when they grow up.

ပေါက်သွား, *v.* to pierce, pass through, ထုတ်ချင်းခပ်သွားသည်။

ပေါက်, 2, *v.* to strike forward and downward; to make sudden and vigorous strokes with a paddle from the stern of a boat, as in making a spurt in racing, ပဲ့ကလူပေါက်ပေးလို့ပန်းရသည်; to make a motion similar to that exhibited in hoeing, or chopping wood; *less than* ယက်; to strike with the forefeet, as a horse, to paw, ခင်ဗျားသည်မြင်းနားမသွားပါနှင့်၊တယ်ပေါက်တတ်သည်; to strike, as a serpent in biting, မြွေပေါက်မည်လို့ပါးပျဉ်းထောင်သည်။

ပေါက်ကြိုး, *n.* a cord twisted by hand; *see* လက်ပေါက်ကြိုး။

ပေါက်ဆတ်ပေါက်ဆတ်, ပေါက်ဆွပေါက်ဆွ, *adv.* limpingly, as when one foot is brought down with force and noise.

ပေါက်တူး, *n.* a hoe.

ပေါက်တူးပြား, ပေါက်ပြား, *n.* a broad hoe.

ပေါက်တူးလုံး, ပေါက်လုံး, *n.* a pickax.

†ပေါက် (ပင်), 3, *n.* the *Butea* tree, ပေါက်နက်။

ပေါက်နွယ်, *n.* the creeping *Butea.*

†ပေါက်ကရိ, *n.* a hod.

ပေါက်မြွက် (*pron.* ဖော့က်), *n.* a kind of official cap; *comp.* မောင်း။

ပေါက်ဆိန်, *see* ပုဆိန်, *n.* an ax.

ပေါက်ပန်း (ပင်), *n.* the *Agati* tree; ပေါက်ဖြူ, ပေါက်နီ, varieties of the same. The expression လူပေါက်ပန်း, "an idle coxcomb," derives its origin from the blossom of the *agati* tree, which, though of a brilliant color, is scentless.

ပေါက်ဖတ်, *n.* a kind of caterpillar, said to be much dreaded by goats, ပေါက်ဖတ်တုပ်လျှင်ဆိတ်သေတတ်သည်။

ပေါင်, 1 (from အပေါင်), *n.* a thigh, မိုဃ်းလည်းတောင်ကာ၊ ငွေးလည်းပေါင်ကာ။

ပေါင်ချွန် (*pron.* ဂျွန်), *n.* the groin.

ပေါင်ခွင် (*pron.* ဂွင်), *n.* the lap; *comp.* ရင်ခွင်။

ပေါင်တံ, *n.* the thigh, with reference to its length, ပေါင်တံရှည်သည်။

ပေါင်တွင်း, *n.* the inside of the thigh, ပေါင်တွင်းသား; ပေါင်တွင်းကြောမကြီး, the femoral artery.

ပေါင်ဗိုး (*pron.* ဗိုး), ပေါင်ဗိုးစမ, *n.* an induration in the groin.

ပေါင်ဖြူ, *n.* an untattooed thigh.

ပေါင်ရင်း, *n.* the upper part of the thigh, which joins the body.

ပေါင်ရိုး, *n.* the femur, thigh bone.

ပေါင်လယ်, *n.* the middle part of the thigh.

ပေါင်, 2, *v.* to superadd lengthwise, ဆံစုပေါင်သည်; to attach to the side of, for the purpose of strengthening or improving, မြှောင်သည်; to adhere to the side of, မြှောင်သည်, လှည်းဝင်ရိုးမကျိုးရအောင်၊ သံချောင်းကိုပေါင်လိုက်ပါ; သည်မိန်းမဆံစုမပေါင်တတ်ဘူး။

ပေါင်မြှောင်, *v.* same as ပေါင်; သည်သူသူတပါးထမင်းကိုသာပေါင်မြှောင်စားတတ်သည်၊ သူ့ထမင်းကိုဖြစ်လျှင်၊ တခါမျှမကျွေးဘူး, this individual sponges on others for his food; he never once furnishes food for others.

ပေါင်, 3, *v.* to pawn, mortgage, ကျွန်တော်ကြွေးထူလွန်းလို့၊ လယ်ဥယျာဉ်များကိုပေါင်ထားရပါသည်, as my debts were exceedingly numerous, I was compelled to mortgage my ricefields and gardens; အနှခံပေါင်, to effect a simple mortgage; ပေါင်ခံရောက်သည့်လယ်ရာများ. *Der.* အပေါင်။

ပေါင်နှံ, *v.* same as ပေါင်။

ပေါင်ရှင်, *n.* a mortgage in which the mortgager retains the right of redemption, or a sale with the right of redemption; a pawn or mortgage, which is forfeited at a specified period.

ပေါင်သေ, *n.* absolute sale or transfer; *lit.* a dead pledge.

ပေါင်သွင်, *n.* a mortgage in which the land is returnable within a limited time, and the debt is extinguished, အိမ်ကိုပေါင်သွင်ပြန်၍ငွေငါးရာချေးမနှင့်ပါ; an article deposited for a short time as a pledge.

ပေါင် (ပင်), 4, *n.* the breadfruit tree found only in Mergui and Tavoy, the *Artocarpus communis*.

ပေါင်မုန့်, *n.* baked bread. Europeans often wrongly say မုန့် for ပေါင်မုန့်။
ပေါင်မုန့်အကာ, *n.* a crust of bread.
ပေါင်း, 1, *n.* an arched covering or roof over a boat, carriage, or palanquin, ပေါင်းမိုး။
ပေါင်းကား, *n.* a howdah (*infreq.*), ဆင်ပေါင်းကား, မြင်းပေါင်းကား။
ပေါင်းကုပ်, *n.* a low arched roof, such as is used on common boats, လှေပေါင်းကုပ်; or on carts, လှည်းပေါင်းကုပ်; any arched covering of bamboos or wood.
ပေါင်းကူး (from ကူး, to cross over), *n.* an arch of brick or stone, a culvert, မုတ်ပေါင်းကူး; *comp.* မုတ်; *v.* to turn such an arch.
ပေါင်းကူးမြောင်း, *n.* a covered ditch; a sewer, မိလ္လာရေညစ်မြောင်း။
ပေါင်းချုပ် (*pron.* ဂျုပ်), *n.* an arched covering of any material; *higher than* ပေါင်းကုပ်, and implying some raised work beneath it.
ပေါင်း, 2, *n.* useless grass, weeds, shrubs, bushes, etc.
ပေါင်းထ, ပေါင်းပေါက်, *v.* to spring up, as such weeds, etc.
ပေါင်းထိုး, ပေါင်းသင်, *v.* to clear away weeds, bushes, etc.
ပေါင်းဖတ်, *n.* the rubbish accumulated in clearing away weeds, bushes, etc.
ပေါင်း, 3, *v.* to collect and unite in one, or to be collected and united in one; to add (*Math.*), နှောသည်; to put on (a turban), ခေါင်းပေါင်းပေါင်းသည်; to keep company, associate, သက်သည်, တော်သည်; *n.* a sum total; ကျွန်ုပ်တော်သားဘိန်းစားအရက်သမားတို့နှင့်ပေါင်းလို့ပျက်စီးသည်, it was because my son associated with opium eaters and drunkards, that he was ruined; တသက်ပတ်လုံးကံနှင့်အမျှပေါင်းပါမည်, throughout life, for the duration of my destiny, will I be united (to you). *Der.* အပေါင်း။
ပေါင်းချုပ် (*pron.* ပေါင်း), *n.* a total, a grand total, ပေါင်းချုပ်စာရင်း။
ပေါင်းထုပ်, *n.* a large turban consisting of many folds or involutions, ခေါင်းပေါင်းဦးထုပ်။
ပေါင်းသက်, ပေါင်းတော်, *v.* to keep company, associate; to become partners in business; to cohabit, ပေါင်းတော်ရက်တင်; ဦးမိုးနှင့်ဦးလူပိန်းပွားစီးပွားကိုပေါင်းသက်ရှာကြံကြသည်, U Mo and U Lu Bein have formed a partnership, and are seeking (to make their fortune); ပေါင်းသက်သင့်မြတ်။
ပေါင်းတော်ဆက်ဆံ, *v.* to have communion, fellowship.
ပေါင်းသင်း, *v.* to join in a company, to unite in forming a society. *Der.* အပေါင်းအသင်း။ /[illegible]
ပေါင်း, 4, *v.* to bake in an oven, or cook by steam; to extract vapor by heat, in the process of distilling.

ပေါင်းအိုး, ပေါင်းချောင်, *n.* a pot or vessel of any kind, with a perforated bottom, used in cooking by steam; ပေါင်းချောင်မှန်အိမ်, a globe and lamp.

ပေါင်းအိုးဖုံး, ပေါင်းချောင်ဖုံး, *n.* the head or cover of a still.

ပေါင်းခံ, *v.* to receive vapor in the head of a still; to steam clothes in order to whiten them, အဝတ်ကိုပေါင်းခံ၍လျှော်သည်။

ပေါင်းခံအိုး, *n.* the lower pot used in cooking by steam.

ပေါင်းခံချက်, *v.* to distil liquor.

ပေါင်းတင်းကျည် (from တင်းဝါး, and ကျည်), *n.* the hollow bamboo in which some kinds of rice are cooked.

ပေါင်းဖို, *n.* an oven.

†ပေါင်းကွတ်, *n.* a round summer, or longitudinal timber, sustaining a floor; *comp.* ရက်မ; သစ်မရခင်စပ်ကြားဝါးပေါင်းကွတ်, တလိုင်းပေါင်းကွတ်, မြန်မာပေါင်းကွတ်။

ပေါင်းဘီ (*pron.* ဘောင်းဘီ), *n.* pantaloons, trousers, small clothes.

ပေါင်းဘီတို, *n.* breeches.

ပေါင်းဘီသိုင်းကြိုး, *n.* braces, suspenders, ပေါင်းဘီဆိုင်းကြိုး။

ပေါင်းသရဖူ (*pron.* ဖောင်း), *n.* a king's crown, ပေါင်းတော်သရဖူဆောင်းတော်မူသည်။

ပေါရာဏကထာ, *n.* ancient or obsolete language, ပေါရာဏကထာစကား, ရှေးလူဟောင်းသုံးသောစကား။

ပေါရိသာဒ်, ပေါရိသာဒဘီလူး, *n.* a famous *bilu*, mentioned in Buddhist legend; first a prince and later transformed into a *bilu*. In consequence of the preaching of သုတသောမ, he again became a human being; while he was a *bilu* he had a servant named ဒါသက, whom he used to threaten to devour, if his supper of human victims failed; hence the saying, လူသားမရလျှင်ဒါသက; used in a modern sense to signify the insistence of one's wishes being carried out by the person enjoined to do so.

ပေါလော, *adv.* buoyantly, floatingly, afloat.

ပေါလောနေ, *v.* to float, ပယင်းစစ်လျှင်ရေပေါ်လောနေသည်, if it is real amber it floats on the water; သူငယ်ကလေးလှေပေါ်ကကျသည့်အခါပေါလောနေသည်, when the child fell from the boat, he floated on the water; လှေမှောက်သော်လည်း၊ ကျွန်းသားလှေမှန်လျှင် ပေါလောနေလိမ့်မည်, though the boat should capsize, yet, if it is a teak boat it will float.

ပေါလောပေါ်, *v.* to rise to the surface (of water); to appear.

ပေါလောမျော, *v.* to float down (with the tide or current), လှေပေါလောမျော၍သွားပြီ။

ပေါ့, 1. *v.* to be light, not heavy, မလေး, ရေငန်ကူးလျှင်၊ ကိုယ်အလွန်ပေါ့သည်, one's body is very light when swimming in salt water; to be insipid, deficient in flavor, အရသာမရှိ; to be light, quick in motion, လျှင်သည်; to be light, worthless, inefficient, careless, ပေါ့တန်သည်, မင်းလုပ်ပုံတယ်ပေါ့သည်; to be slightly deranged, စိတ်ပေါ့သည်, သွပ်သည်; to lessen, as the temperature of the atmosphere, လေမတိုက်လို့အချမ်းပေါ့သွားပြီ; to be brackish, as water; to be feeble; *in an extended sense*, to be flippant in language, referring more to a want of vigor of ideas and sentiments, than to poverty of expression; to experience a sensation of relief after paroxysms of pain, နာကောင်းရှလို့ခေါင်းကိုက်တဆိတ်ပေါ့သွားပြီ; to be wanting in dignity, အစိုးရကြီးဖြစ်သော်လည်း၊ အပြောအဆိုအနေအထိုင်အလွန်ပေါ့သည်. *Der.* အပေါ့။

ပေါ့စပ်စပ်, *adv.* in a heedless, unsteady, careless manner; *see* ပေါ့တိပေါ့တေ့။

ပေါ့စား, ပေါ့တန်, *v.* to be light, worthless, inefficient.

ပေါ့တိပေါ့တေ့, ပေါ့လီးပေါ့လေ့, *adv.* in a heedless, unsteady, careless, inefficient manner.

ပေါ့ပါး, *v.* to be light, quick in motion, active, nimble, အလွန်ပေါ့ပါးသည့်လက်ဝှေ့သတ်, a very nimble boxer.

ပေါ့တိုက်, *v.* to graze, တိုက်ချော်သွားသည်။

ပေါ့ဖျင်း, *v.* to be inefficient and worthless.

ပေါ့လျော့, *v.* to be remiss, slack, ငယ်စဉ်အခါပညာသင်ပေါ့လျော့သောကြောင့်၊ ကြီးသောအခါအသက်မွေးကျပ်သည်; ပေါ့လျော့စွာပြုလုပ်, to do superficially.

ပေါ့လွင်, *v.* to be foolishly jovial, merry.

ပေါ့သွား, *v.* to become insipid.

ပေါ့, 2, *verb. affix,* of course; used in closing a sentence, ပ (*colloq.*), ရှိဒါပေါ့, သွားဒါပေါ့; *often coupled with* သား, အသိသားပေါ့, အဖြင်သားပေါ့။

ပေါ်, *v.* to appear, come to light; to rise to view; to become known, as a secret; to recur to one's memory, as something temporarily forgotten. *Der.* အပေါ်, and ဘော်။

ပေါ်ထင်, *v.* to become conspicuous; ပေါ်ပေါ်ထင်ထင်, openly, ပေါ်ပေါ်ထင်ထင်အိန်းရောင်းသည်။

ပေါ်ထွက်, *v.* to make an appearance; to be presented to the mind, as a plan, scheme, အကြံအစည်ပေါ်ထွက်သည်; to appear, as the sun above the horizon.

ပေါ်ပေါက်, *v.* to come to light (usually said of a crime); to become

known, သည်ထားပြမှုမှာအစအနရလျှင်၊ ကေ့ဆ္ဖောပေါ်ပေါက်လိမ့်မည်, if one gets a clue in this dacoity case, it will assuredly come to light.

ပေါ်လာ, *v.* same as ပေါ်။

ပေါ်လွင်, *v.* to be bright and showy in color, as a ပုဆိုး, or ထမိ, အရောင်အဝါပေါ်လွင်သည်; *sometimes* ပေါ်လွင် has the same meaning as ပေါ်ထင်, ရှေကကဲ့သို့ပေါ်ပေါ်လွင်လွင်မနေဝံ့ဘူး။

ပေါ်လှ, *v.* to come in sight.

ပေါ်သစ်စ, *n.* first appearance of a new thing, ထက်သစ်။

ပို, 1, *n.* a basket, smaller and less substantial than ပုတ်; ကြက်သွန်ပို, ငွမ်းပို, ထန်းလျက်ပို။

ပို, 2, *n.* a piece used in a certain game (ပဆစ်), ပိုရှင်, ပိုဘော, ပိုလိုက်, ပိုသွား; *comp.* ကျား။

ပို, 3, *n.* the crosspieces that support the deck of a large boat; the cross bamboos or pieces of timber which hold rafts together; the word is also applicable to the crosspieces placed on the gunwales of two boats or canoes lashed together, so as to make a temporary raft, မြစ်းကူးရအောင်၊ လှေနှစ်စင်းပိုပစ်တွဲချည်၍၊ ငင်းအပေါ်ကမြင်း နင်းကျော်းကောင်းမွန် စွာခင်းကျင်းလုပ်ကိုင်ရမည်။

ပိုခင်း, ပိုပစ်, *v.* to lay the said pieces.

ပို, 4, *v.* to exceed, be superabundant, whether for better or for worse, ပိုလို့လည်းမယူချင်ဘူး၊ လျော့လို့လည်းမယူချင်ဘူး; *comp.* သာ. *Der.* အပို။

ပိုမောက်, *v. see the parts.*

ပိုမို, *v.* same as ပို, ဧည့်သည်များလာမည်လို့၊ ပိုမိုချက်ပြုတ်ထားပါသွီးရယ်, as guests will come, cook an extra quantity of food, my daughter.

ပို, 5, *n.* a weight equal to five ticals (*obs.*).

ပိုက်, 1 (*pron.* ဗိုက်) (*an abbrev. of* ဝမ်းပိုက်), *n.* pregnancy.

ပိုက်ပူ, *v.* to have a protuberant stomach, ပိုက်ကြီး; *see* ဆီးကြီး။

ပိုက်ရှိ, *v.* to be *enceinte* (*vulgar, but in common use*).

ပိုက်, 2, *n.* a sweep net, seine; *comp.* ကွန်; ငါးသလောက်ပိုက်, ကြောင်ကြီးပိုက်။

ပိုက်ကွက်, *n.* a mesh.

ပိုက်ချ, *v.* to cast, or set a net.

ပိုက်ချည်တို, *n.* a kind of dragnet.

ပိုက်ခွန်, *n.* a tax on fish nets, net tax.

ပိုက်စိပ်ထိုက်, *v.* to catch fish with a closely-meshed net.

ပိုက်ဆွဲ, *v.* to drag a net.

ပိုက်တိုက်, *v.* to drag the bottom of a river, pond, etc.

ပိုက်ထိုး, *v.* to net, to make a net.

ပိုက်ဝမ်းပူ, *n.* a kind of dragnet.

ပိုက်, 3, *v.* to hold in the arms, to hug; implying that the person or thing is taken up in the arms; *comp.* ထက်, and ပွေ့; to put into a fold of the waistcloth, ခါးပိုက်မှာပိုက်သည်; အကလေးကိုပိုက်ထား လိုက်ပါ။

ပိုက်ထုပ်, *v.* to take particular care of; *combined with* မွေးမြူ; *or reduplicated and used adverbially*; ကျွန်ုပ်ငွေများကိုပိုက်ထုပ်ထားလိုက်ပါ; ငယ်ကတည်းက ပိုက်ထုပ် မွေးမြူထားသည့် သားကြီးမှာ အမိကို ပုန်ကန်သည်, even the elder son, whom I have taken care of and nurtured since infancy, rebels against his mother; ဘုန်းကြီးဦးညာဏမောင်လှဦးကိုပိုက် ပိုက်ထုပ်ထုပ်ပြုတတ်သည်။

ပိုက်ပွေ့, ပိုက်ထက်, *v.* to hold in one's embrace; *see the parts.*

ပိုက်, 4, *v.* to punctuate, make stops in writing, to mark off sentences or lines, ပိုက်မ, ပိုက်သေး, ပိုက်မခတ်သည်, ပိုက်မခံသည်; ပိုက်သေးထားသည်, to punctuate; လေးလုံးပိုက်လင်္ကာ, ငါးလုံးပိုက်လင်္ကာ. *Der.* အပိုက်။

ပိုက်စုံ, *n.* a kind of verse, ပိုက်စုံရတု (*pron.* ရဒု), ပိုက်စုံလင်္ကာ။

ပိုက်ဆန် (ပင်), *n.* the flax plant.

ပိုက်ဆန်ကြိုး, *n.* a rope, made of flax.

ပိုက်ဆန်ချည်, *n.* thread, made of flax.

ပိုက်ဆန်လျှော်, *n.* the fibrous part of the flax plant.

ပိုက်ဆံ (Beng. ), *n.* pice; ပိုက်ဆံ is frequently used with ကြေးငွေ, ကျွန်ုပ်မှာပိုက်ဆံကြေးငွေမရှိ, I have no money.

ပိုက်ဆံခတ်, *v.* to change silver for copper coin.

ပိုက်ဆံရွှင်, *v.* to be flush of cash (*familiar*).

ပိုင်, 1, *v.* to own, possess, have a right to; *more than* ဆိုင်; to have authority over, အစိုးရသည်; သည်မြင်းကိုဘယ်သူပိုင်သလဲ, who owns this horse? ခင်ဗျားပိုင်မှန်းကျွန်တော်ယခုမှသိသည်, I was only just now aware that you own it; သည်နယ်ဘယ်သူပိုင်သလဲ, who has authority over this territory? ပိုင်ကားစိုးစံ။

ပိုင်စိုးပိုင်နင်း, *adv.* assuming the right of using, controlling, etc., ပိုင်စိုးပိုင်နင်းပြုသည်, ပိုင်စိုးပိုင်နင်းလုပ်သည်, ကျွန်တော်မျိုးအိမ်မှာပိုင်စိုးပိုင်နင်း လာမပြုနှင့်။

ပိုင်ဆိုင်, *v.* to have collective authority, as two or three joint owners of property; to have authority over.

ပိုင်ဆိုင်ခွင့်. *n.* a title, just claim, တောင်းပိုင်သောအခွင့်။

ပိုင်နက် (from အနက်, a collection), *n.* property, that which belongs to one, ပိုင်ရာ; that which belongs to one's jurisdiction, နိုင်ရာ; *in*

*colloquial*, premises; ဗိုင်နက်ကျူးလွန်သည်, to trespass upon the premises of another.

ဗိုင်နိုင်, *v*. to have authority over.

ဗိုင်သ, *v*. same as ဗိုင် (*poetical*), စိုးဗိုင်သ; also used in solemn discourse, in speaking of the Creator, ရေမြေဗိုင်သ ဘဝသခင်အရှင်ကောင်းမင်းမြတ်, He who rules over land and water, Excellent Sovereign, Lord of the Universe.

ဗိုင်, 2, *v*. to be soft and very cohesive; *comp*. စေး။

ဗိုင်, 3, *n*. a pie, one-twelfth of an anna.

ဗိုင်း, *v*. to divide, sever. *Der*. အဗိုင်း, တဗိုင်းတစ, တဗိုင်းပဲ။

ဗိုင်းကွက်စာရေး, *n*. a holding recorder in a settlement office.

ဗိုင်းခြား, *v*. to make a separation between, to draw a dividing line, to distinguish, make distinct; *comp*. သားနား; သည်ဥစ္စာများကိုမရောရှက်ရအောင်ဗိုင်းခြားထား, separate these things, so that they may not get mixed; စကားကိုဗိုင်းခြားပြောပါ; မြို့အုပ်မင်းနှစ်ဦးတို့နယ်ကိုဗိုင်းခြားသတ်မှတ်ပြီးပြီ, the jurisdictions of the two *myooks* have been demarcated; to discriminate, make a distinction in the mind.

ဗိုင်းခြားကန့်သတ်, *v*. to fix the boundaries of, သတ်မှတ်သည်။

ဗိုင်းခြားသတ်မှတ်ခြင်း, *n*. demarcation.

ဗိုင်းခြေ, *n*. a denominator.

ဗိုင်းဖြတ်, *v*. to dissect; to divide by cutting crosswise into two or more pieces; သစ်သီးဗိုင်းဖြတ်မစားအပ်. The Burmese think that it is not proper to eat fruit which has been cut crosswise.

ဗိုင်းဝေ, *n*. a numerator.

ဗိုင်းသတ်မှတ်, *v*. to demarcate.

ဗိုင်းသီးသန့်, *v*. to make a separation between, to distinguish; *see* ဗိုင်းခြား။

†ဗိုင်းတန်သယ်, *n*. a species of green bulbul, the *Phyllornis Hardwickii*.

ဗိုလိုပက်လက်, *adv*. open and exposed, စားစရာများကိုဗိုလိုပက်လက်ထားသည်, ဗိုလိုပက်လက်အိပ်သည်။

ပို့, 1, *v*. to convey or conduct (to a person or place); to teach books, စာပို့သည်; to offer, as a good wish or a blessing, မေတ္တာပို့သည်; သည်သူငယ်ကိုဟိုဘက်ကမ်းသို့လှေနှင့်ပို့လိုက်ပါ, take this child by boat to the other bank; ဦးထုံးကြီးအကလေးများကိုစာပို့နေသည်, U Tongyi is engaged in teaching children; မှောင်မိုက်၊လသာမရွေး၊မနေမနားပို့ရမည်။

ပို့ချ, *v*. to teach books.

ပို့ဆောင်, *v*. to convey or conduct (to a person or place); ဘုရားလောင်းသည်၊ နတ်သို့း၊ ငါ့ကို ဗိမ်လာဖြည့်သို့ ပို့ဆောင်လော့ဟုဆို၏, the embryo

Buddh said, Daughter of a *nat*, do thou convey me to the country of Midila.

ပို့သ, *v.* to carry and present; to teach books; to offer, as a good wish, or a blessing.

ပို့, 2, *v.* to be thrown into or upon; to have earth or any substance thrown into (as into a pit, so as to nearly fill it); to be silted as a channel, နုန်းပို့, သဲပို့; တွင်းမြေပို့, to be choked with earth or rubbish, as a well. *Der.* ပို့။

ပိုး, 1, *n.* an insect; any small animal without distinguishable bones; the silkworm, ပိုးကောင်; silk; ပိုးရှစ်ဆယ်, the eighty different species of worms, which, according to the Burmese, inhabit the body of man. The Singhalese affirm that there are ninety species.

ပိုးအိမ်, *n.* a cocoon.

ပိုးကတ္တီပါ, *n.* silk velvet.

ပိုးကာ (from ကာ, to ward off), *n.* a sheathing board, so called because used to protect the hull of a vessel from worms; a thin, narrow board, resembling a sheathing board, but used for any purpose, ပိုးကာပျဉ်။

ပိုးကောင်, *n.* an insect; the silkworm.

ပိုးကျ, *v.* to be infested with insects, eaten by worms.

ပိုးခွ, *v.* to wind off silk or cotton thread from a ရဟတ်။

ပိုးချည်, *n.* silk thread.

ပိုးစဉ်, *n.* a small, flying insect that infests the eyes.

ပိုးစာ, *n.* a silkworm's food; ပိုးစာပင်, the mulberry tree.

ပိုးဖီ, *n.* a species of worm found in the dung of cattle; *see* ပိုးတီ။

ပိုးစုန်းကြူး, ပိုးစုန်းကြူး (*pron.* ကြူး), *n.* a firefly or glowworm; ပိုးစုန်းကြူး *is the written*, ပိုးစုန်းကြူး *the colloquial, form.*

ပိုးဓာတ်ထိုး, *n.* the larva of the mosquito.

ပိုးညှင်း, *n.* fine silk.

ပိုးတီ, *n.* a species of worm very extensile and contractile.

ပိုးတီထိုး, *v.* to slice in a particular way, preparatory to pickling, as mangoes, onions, etc.

ပိုးတုံးလုံး, *n.* a chrysalis; a grub; a worm.

ပိုးထောက်, *v.* to perforate (cloth or paper), as an insect.

ပိုးထ, *v.* to arise, exert itself. *Der.* ဖျင်းပိုးထ, သွားပိုးထ။

ပိုးထည်, *n.* silk, silk cloth; ပိုးထည်ယက်, *v.* to weave silk.

ပိုးထိ, *v.* a euphemism for မြွေကိုက်။

ပိုးထိုး, *v.* to be eaten by worms, worm-eaten; to bore or tunnel, as an insect.

ပိုးတွေး, *v.* to be worm or weevil eaten, as rice, causing the rice to conglomerate, ဆန်ပိုးတွေးသည်, နှမ်းပိုးတွေးသည်, ဆန်သေတ္တာထဲတာရှည်လှောင်ထားလျှင်၊ပိုးတွေးတတ်သည်။

ပိုးနားသန် (*pron.* ပိုးနသန်), *n.* the coiling centiped, ပိုးနားသန်ကောင်။

ပိုးပရန်, *n.* a kind of flying insect (*often called* ပိုးဖလန်).

ပိုးပေါက်, *n.* a hole or perforation made by an insect.

ပိုးပေါက်ပေါက်, *n.* a kind of insect which lives in water.

ပိုးမင်းတောင်တာ, ပိုးမဲတောင်တာ, *n.* the green and golden beetle, a species of *Buprestis*; this beetle feeds on the juice of the ဆူးရစ် tree, *Acacia pennata*.

ပိုးမြည်မြွေး, ပိုးရည်မြွေး, *n.* a firefly or glowworm; *see* ပိုးစုန်းကြူး။

ပိုးမွှား, ပိုးမွ, *n.* insects in general.

ပိုးလုံးကောင်, *n.* a milleped, sow bug.

ပိုးလောက်လမ်း, *n.* the larva of the mosquito.

ပိုးလောင်း, *n.* an insect like the sand fly (ဖြုတ်), but smaller; the bite of this insect causes intense itching.

ပိုးသေ, *v.* to be dead. *Der.* ပျက်နှာပိုးသေ။

ပိုးဟပ်, *n.* a cockroach.

ပိုး, 2, *v.* to fix or fasten one on another for the purpose of strengthening; to bear on the back, နောက်ကပိုးသည်; *comp.* ထမ်း and ရွက်; ရက်မမခိုင်လို့သစ်သားပိုးရိုက်သည်, as the girder was weak, he strengthened it by nailing on a piece of wood; ရန်ကုန်မြို့တာပတ်ပွဲမှာကျွန်တော်ကိုယ်ပေါ့သောကြောင့်၊မြင်းကိုခဲထုပ်ပိုးစီးရသည်, in the Rangoon races, being light, I was obliged to ride carrying leaden weights; သူငယ်ကလေးကိုကျောပိုးလိုက်ပါ, carry the child on your back, please. အောက်ပိုးကျိုက် was formerly used instead of ခါးတောင်းကျိုက်. *Der.* နှိပိုး, ထမ်းပိုး, and သယ်ပိုး။

ပိုးစိုးပက်စက်, *adv.* recklessly, without consideration and regard to propriety or decency, indecorously; ခင်ဗျားပိုးစိုးပက်စက်အလွန်ပြောတတ်သည်, you, sir, are in the habit of talking in a very reckless fashion; ပုကန်ပြားများကိုပိုးစိုးပက်စက်ထားလို့ကွဲကုန်ပြီ, owing to your having put the plates down carelessly, they are all broken.

ပျ (ကောင်), *n.* a kind of insect destructive to plants, especially to the ဖဲလွှန်း (100).

ပျက်, 1, *v.* to be ruined, destroyed; to fail, so as to be lost to a cause or party; to fall through, as a plan or scheme; to be interrupted in doing one's work; ကျွန်တော်အကြံအစည်အကောင်းသားနှင့်၊ခင်ဗျားဝင်

ပွေသည်အတွက်၊ပျက်သွားသည်, ကျွန်ုပ်ကိုမောင်ထင်ဆိုသူက၊မဟုတ်မမှန်အမျိုး ရထံလျှောက်ထားခြင်းကြောင့်၊အလုပ်အကိုင်ပျက်သည်။

ပျက်ကွက်, *v.* to be disarranged, disturbed, suffer detriment, deterioration, impairment; generally implying that such impairment is due to carelessness or neglect, ပျက်ကွက်ထစ်လပ်။

ပျက်စီး, ပျက်ပြား, *v.* to be ruined, destroyed, ပျက်စီးယိုယွင်း။

ပျက်စီးဆုံးရှုံး, *v.* to be doomed, ruined; ပျက်စီးဆုံးရှုံးခြင်း, utter ruin.

ပျက်ပြုန်း, *v. see the parts*; မောင်ရွှေပွင့်ဥစ္စာပစ္စည်းပျက်ပြုန်းရုံမက၊အသက်ဆုံးရသေးသည်။

ပျက်ပြို, *v.* to come to ruin.

ပျက်ယိုယွင်း, *v.* to be ruined, destroyed.

ပျက်, 2, *v.* to be witty, droll, comical, funny; to jest, play the buffoon; to trifle with; လက်စွဲမောင်ကျော်ပျက်လိုက်လျှင်ပွဲအလွန်ကျသည်။

ပျက်ချော်, *v.* same; to deride, treat with derision, ပျက်ချော်ချော်နိုင်သည်။

ပျက်တီးပျက်ချော်, *adv.* in a droll, comical, derisive manner, ငါ့ကိုပျက်တီးပျက်ချော်နှင့်လာမပြောပါနှင့်။

ပျက်, 3, *v.* to add to, put into, as a very little into a larger mass; *less than* စွက်; one kind of လောင်း, ပျက်လောင်း၍တဖန်စိကုံးလိုက်ဦးအံ့။

ပျက်သိကာ, *adv.* a very little, အနည်းငယ်; ဟင်းပေါ့သည်၊ဆားပျက်သိကာထည့်လိုက်ပါဦး။

ပျက်သိသိ, *adv.* deficient in relish, လိုသောအရသာပေါ့သည်နှင့်; ဘိလပ်ရေအချိုပေါ့လို့ပျက်သိသိရှိသည်။

ပျင်, *see* ပြင်, *v.* to prepare, put in order; to amend, correct, repair.

ပျင်တောင်ဥ, *n.* a kind of plant, a species of spirical *Costus*; *see* ဗထိ တောင်ဝေး; said to be an article of food in times of scarcity.

ပျင်ဒန်းငလင်, *n.* *Sida* hemp.

ပျင်း, *v.* to be lazy, idle, indolent; to be loth, reluctant (to do), averse to; *in the latter sense, chiefly used as a qual. verb. affix, e.g.*, မြင်ပျင်းသည်, to hate to see, ကြားပျင်းသည်, to hate to hear; ခင်ဘျားအလွန်ပျင်းသည့်လူ; ပြည်မြို့သို့ကျွန်ုပ်အလွန်သွားပျင်းသည်; ခင်ဘျားပြောသည့်စကားကိုအလွန်ကြားပျင်းသည်; ရှေ့နေမောင်ကြွက်မြူဆင်းရဲသားအပေါ်မှာ အတိုးများစွာယူစားသည်မှာ၊ အလွန်ခံပျင်းစရာကောင်းသည်; to be dull and uninteresting, as one's surroundings, သည်မြို့အလွန်ပျင်းစရာကောင်းသည်; to be affected with *ennui*, (bored) အပျင်းပြေလောက်ပွဲကိုသွားကြည့်မိသည်. *Der.* အပျင်း။

ပျင်းပိုးထ (*pron.* မိုး), *v.* to be very lazy; to become dull by inaction, သည်လူပျင်းပိုးထသည်၊မြန်မြန်ထက်ထက်မလုပ်ဘူး; *see* ပိုးထ။

ပျင်းရိ, *v.* to be lazy, idle, indolent.

ပွစ်, *v.* to weave grass (for roofing) by doubling and tying on a stick; သက်ငယ်ပွစ်သည်, သက်ငယ်တပွစ်သွင်းလိုက်ပါဦး *Der.* ကင်ပွစ်, စဘး ပွစ်, ဒနိပွစ်, and သက်ငယ်ပွစ်။

ပျဉ် (ပင်), 1, *n.* a kind of tree.

ပျဉ်, 2 (*pron.* ပျဉ်း), *v.* to be reduced to a level, by some modification of the surface, or by being so close and thick, as to fill up all interstices; *comp.* ပြား; *n.* a board, a plank, ပျဉ်ပြား; a flat surface; *used in composition with other words,* as ကျောက်ပျဉ်, ပါးပျဉ်, လက်ဝါးပျဉ်; တပျဉ်တည်း, on the same level.

ပျဉ်ခင်း, *v.* to lay with boards, as a floor.

ပျဉ်ထရံ, *n.* board walling.

ပျဉ်ထောင်, *v.* to cover the side of a house, make a partition with boards, ပျဉ်ထောင်အိမ်, ခင်ဘျားအိမ်ပျဉ်ထောင်ပျဉ်ခင်းအိမ်လား။

ပျဉ်ပြား, *n.* a board; a plank.

ပျဉ်း (*pron.* ပျဉ်း), *v.* to be tough, so as to yield to force without breaking, မထော်; to be dull, stupid; ထားဝယ်ကြိမ်အလွန်ပျဉ်းသည်; to be tough, not tender, သည်အမည်းသားတယ်ပျဉ်းသည်. *Der.* အပျဉ်း။

ပျဉ်းတွဲ, *v.* to be dull, stupid (*rare in colloq.*).

†ပျဉ်းကတိုး, *n.* ironwood, the *Inga xylocarpa*; the wood of this tree is much used for house posts.

ပျဉ်းတော်သိမ်, *n.* a small tree with white flowers and bright red berries; the *Clausena heptaphylla*; there are two kinds, termed by the Burmese, အယည်, and အရိုင်း; the leaves of the cultivated kind are eaten with curry; if eaten in large quantities it acts as a gentle purgative.

ပျဉ်းမ, *n.* the queen *Lagerstrœmia.*

ပျဉ်းမဖြူ, *n.* white *jarool*, much used in house-building.

ပျပ်, *v.* to be low, squat, flat, and broad, in comparison with the height; *comp.* နိမ့်; to be in a low, stooping, crouching posture, ဝပ်သည်; *commonly used in a reduplicated form,* သည်လူပျပ်ပျပ်ကလေး။

ပျပ်စပ်, ပျပ်ဝပ်, *v.* to be in a low, stooping, crouching posture.

ပျပ်နွဲ, *v.* to be habitually fixed in a humble posture; *used only as an adverb, in a reduplicated form.*

ပျပ်နွဲကြီး, *adv.* indisposed to move, ပျပ်နွဲကြီးထိုင်မနေနှင့်၊ မြန်မြန်ထပါ။

ပျမ်း, *v.* to spread out, distribute throughout, according to some rule, သည်ပုကန်ထဲမှာဟင်းစုထည့်မထားနှင့်၊ ပုကန်နှစ်လုံးမှာပျမ်းထည့်လိုက်ပါ။

ပျမ်းမျှ, *v.* same as ပျမ်း; တရာမှာသုံးပိုင့်ပျမ်းမျှလျှင်၊ ထယ်လောက်စိကျသလဲ

ပျမ်းမျှယူ, *v.* to take an average.

so-called "curry leaf" tender leaves /qaywe'nn./ used as /tan.zaya/ & in HMU
/kalaihin:/ in UB

ပျံ, *v.* to fly, as a bird, as sparks of fire, as rays of light.
ပျံကာဝဲကာ, *adv.* in a flying, circling manner, as a bird.
ပျံလွှား (*pron.* ဗျံလွှား), *n.* a species of swallow, the *Hirundo Daurica*; *comp.* မိုးဆီးငှက်, the *Hirundo rustica.*
ပျံ့, *v.* to be scattered, spread, diffused, as perfume, as rays of light, as news, etc., ရန်ကုန်မြို့ပေါ်တွင်ဦးအုန်းခိုင်အညွှန်ရုဏ်သတင်းပျံ့သည်။
ပျံ့နှံ့, *v.* to be diffused throughout, ပျံ့နှံ့ကြော်ငြာ, လူမှုရေးတလောတတ်ပြား ကွဲပြားပျံ့နှံ့နေကြသည်, ကြော်ငြာပျံ့နှံ့သိအောင်။
ပျံ့ပျူး, *v.* to be pleased in mind, to enjoy one's thoughts, စိတ်ပျံ့ပျူး; to be a level, agreeable surface, သည်အရပ်မြေနေစရာထိုင်စရာအလွန်ကောင်း သည်၊ ပျံ့ပျံ့ပျူးပျူးရှိသည်။
ပျံ့ပွား, *v.* to spread and increase in the sense of prospering; also applied to the diffusion of knowledge, and to the exciting of the passions, ကိလေသာပျံ့ပွားစေသည်; ပေါးချေးကောင်းကထည်းကဲ၊ ကျွန်တော်ဥစ္စာပစ္စည်း များစွာပျံ့ပွားသည်။
ပျံ့ရွှင်, *v.* to be cheerful, ရွှင်စွာပျံ့ရွှင်သည်; usually applied to young people.
ပျံ့လွင့်, *v.* to be scattered, dissipated.
ပျံ့သင်း, *v.* to be diffused and odoriferous.
ပျာ, *v.* to be in a hurry, bustle; to flurry one's self, သည်ကိစ္စမှာမောင် ရွှေထွန်းခိုင်းရန်မတော်ပါ၊ အလွန်ပျာတတ်သည်, it is not advisable to depute Maung Shwe Dun on this business, as he is in the habit of flurrying himself.
ပျာယာ, *v.* same; *chiefly used adverbially*, ပျာယာခတ်အောင်, in a disorderly hurry. *Der.* ကပျာကယာ။
ပျာယီးပျာယာ, *adv.* from above, ပျာယီးပျာယာနှင့်ဘယ်ကပြေးလာသလဲ။
ပျား, *n.* a honeybee.
ပျားအုံ (from အုံ, a bulge), *n.* a nest of bees, including the honeycomb.
ပျားစွဲ, *v.* to swarm, as bees.
ပျားတမ, *n.* a swarm of bees, ပျားအုပ်။
ပျားတံ, *n.* a branch or any other thing to which a swarm of bees adheres and attaches the honeycomb, ပျားစွဲသည့်အတံ။
ပျားတူ (*pron.* ဗျတူ), *n.* a hornet.
ပျားတူအုံ, *n.* a hornet's nest.
ပျားတူအုံလိုက်, *v.* to suppurate in several places, as a carbuncle, or when afflicted with အနာပဆုပ်။
ပျားတူငှက်, *n.* the large bee-eater.

ပျားတူတံ, *n.* a tubule, sucker, made of a reed, quill, etc.
ပျားတူတုပ်, *v.* to sting, as a hornet.
ပျားတူတော, *n.* a locality where bees are plentiful.
ပျားပန်းခတ်, *v.* to suck juice from flowers, as a bee; also applied figuratively to active or fidgety persons, ပျားပန်းခတ်သလိုနားမနေဘူး။
ပျားဖွပ်, *v.* to take honey from bees.
ပျားမွဲ, *n.* a small kind of honeybee; *see* ယင်ပျား။
ပျားမှက်, *n.* a drone.
ပျားရည်, *n.* honey.
ပျားလပို (from နွားလပို), *n.* a honeycomb.
ပျားသငယ်, *n.* young bees.
ပျားသန်, *n.* a small kind of honeybee; a kind of hornet.
ပျားသလက်, *n.* the cells occupied by young bees. They are eaten in curry by the Burmese, after the wax has been extracted.
ပျားသွန် (from သွန်, to be ineffectual), *n.* a deserted, empty honeycomb.
†ပျားသက် (နာ) (*pron.* ပသက်), *n.* a small ulcer formed at each corner of the mouth, ပျားသက်နာပေါက်သည်။
ပျူငှာ (*pron.* ပျူငါ), *n.* courteous behavior, kind attentions, politeness, လောကဝတ်, ကုန်သည်မောင်ထော်အာ၊လောကဝတ်ပျူငှါအလွန်ရှိသည်, Maung Taw A, the merchant, has very winning politeness.
ပျူပျူငှာငှာ, *adv.* courteously, engagingly, politely.
ပျောက်, *v.* to disappear, ကွယ်သည်; to be lost, ကျွန်ုပ်နာရီကလေးတွဲနှယ်ပျောက်ပါလိမ့်မည်လဲ. *Der.* ဖျောက်။
ပျောက်ကင်း, *v.* to be free from, as a disease, ရောဂါပျောက်ကင်းမှုပြန်ချင်ပါသည်။
ပျောက်ကော, *v.* to be obliterated; to die out, as a race; to be obsolete, ရှေးစကားဟောင်းပျောက်ကောသည်၊ယခုအခါစကားသစ်သုံးကြသည်။
ပျောက်ပျက်, ပျောက်ရှ, *v.* to be lost, ဘိုးရာဇာသည်မိမိအရိုးများပျောက်ပျက်သည်တိုင်အောင်၊ရာဇဝင်တွင်နေရစ်လိမ့်မည်, Bo Raza will remain in history, even until his bones have disappeared.
ပျောက်လွင့်, *v.* to disappear and be blown away; to vanish; *see the parts*; သည်ဆေးကိုစားသည့်နေ့ကစ၍ရောဂါအနာရောယ်တို့သည်ပျောက်လွင့်ကုန်ပြီ။
ပျောင်း, *v.* to be limber, pliant, flexible, not stiff, မတောင့်; *comp.* ပြော့; သည်ကကျွေသည်မပြော့လိုက်ထာပျောင်းလှိုနေရော့ (*Colloq.*). *Der.* ဖျောင်း။
ပျောမင်း, *see* ငှက်ပျောမင်း, *n.* a species of plantain.
ပျော့, *see* ပြော့, *v.* to be soft, tender, yielding, lax.
ပျော်, 1, *v.* to sleep, be sound asleep, အိပ်ပျော်သည်, မွေ့သည်; *comp.* အိပ်။
ပျော်မွေ့, *v.* same as ပျော်။

ပျော်မှိန်း, *v. see the parts*; ပျော်မှိန်းကာကလေးရှိသေးသည်၊လန့်နိုးသည်, I was just dozing off, when I was startled and awoke.

ပျော်, 2, *v.* to enjoy one's self, be pleased, happy, မွေ့လျော်သည်, ပျော်မွေ့ ပျော်ဘွယ်, မပျော်သည့်ရွာမသာဘူး; ပျော်ပျော်နေ၊သေခဲ, those who live happily, die late. *Der.* ပျော်။

ပျော်ပါး, ပျော်ပိုက်, ပျော်မြူး (applied, as a rule, to animals), ပျော်မွေ့ရွှင်, *v.* same as ပျော်; ပျော်ပါး, *in the modern acceptation*, usually signifies, to indulge in sensual pleasures.

ပျော်ပွဲ, *n.* an impromptu meal, usually in the open air, a picnic, ပျော်ပွဲစား. In U. B. ပျော်ပွဲခံ, to hold an impromptu theatrical entertainment, is the equivalent of ကြည့်ချင်ပွဲ in L. B. The *pwe* is held in order to test public opinion as to the merits of a dramatic company, with a view to future engagement, or otherwise. The company, as a rule, is not remunerated on such an occasion.

ပျော်မွေ့, *v.* to enjoy one's self, be happy.

ပျော်, 3, *v.* to be quite ripe, very soft; *more than* ပြေ့; ငါးထိုးကုန်းပေါ်တွင် ထားလျှင်၊ပျော်ကျသွားသည်; ငှက်ပျောသီးမှည့်လွန်လို့ပျော်နေသည်; ဘုရားမှာ မီးလောင်ရာ၊နေ့ကော်ထပ်ချသည့်ရွှေပျော်ကျသည်။

ပျို, *v.* to be young, in the prime of life, neither very young, nor old; applicable to whatever has life; သည်မိန်းမပျိုလား၊အိုလား, is this woman married or unmarried? when the *taukte* crows, Burmese children are in the habit of calling out, ပျိုလား၊အိုလား; they also call out, မိုးသီးလား၊လေလား; ပျို is also applied to trees, အင်ကြင်းပင်ပျို. *Der.* အပျို, and လူပျို။

ပျိုနု, ပျိုထွတ်, *v. see the parts*; အရွယ်အဆင်းပျိုနုသည့်အခါ၊ ရွှင်လန်းသော စိတ်ရှိသည်, when youthful, and one's appearance is fresh and tender, one has a cheerful mind.

ပျို့, 1, *n.* sacred verse, in lines of four syllables, ပျို့ကဗျာ; usually setting forth the merits and exertions of a ဘုရားလောင်း။

ပျို့ဘတ်စာ, *n.* same as ပျို့။

ပျို့, 2, *v.* to retch, heave, make an effort to vomit, နလုံးပျို့သည်။

ပျို့အန်, *v.* to retch and vomit.

ပျို့တို့တို့, *adv.* disposed to vomit, သည်အစာကိုမြင်လျှင်၊ပျို့တို့တို့ဖြစ်နေပြီ။

ပျိုး, *v.* to plant, either as seeds or plants, with the intention of transplanting; *n.* a plant, ပျိုးပင်။

ပျိုးခင်း, *n.* a bed of plants, a nursery; a plantation.

ပျိုးထောင်, *v.* same as ပျိုး, စပါးပျိုးထောင်, ပန်းပင်ပျိုးထောင်, ဆေးပျိုးထောင်။

ပြ, 1, *n.* (*obs.*). *Der.* မြပြ, and ပြဒိုး။

ပြအိုး, *n.* a small turret on the wall of a fortification, တန်ဆောင်းပြအိုး, မြို့ရိုးပြတာ။

ပြစင်, *see* ပစ္စင်; *n.* a scaffold or terrace, on the inside of a fortification, whence missive weapons are discharged.

ပြထမ်း, *n.* a road which leads to a turret; any road which terminates at a particular spot; a cross-street.

ပြ, 2, *v.* to show (in various ways), ညွှန်သည်, ညွှန်းသည်; ကျွန်တော်ကို ထမ်းတဆိတ်ပြလိုက်ပါ; ခင်ဗျားယခုကဲ့သို့ ဒုစရိုက်ကျင့်လျှင်၊ ဘုရားပြပါလိမ့်မည်, a warning of the danger of one's being visited by a judgment from God.

ပြညွှန်, *v.* to point out.

ပြညွှန်း, *v.* to show, make known, disclose, ညွှန်းပြ။

ပြသ, *v.* to show, in the way of instruction, ဦးမောင်ကျွန်တော်ကိုငယ်စဉ်ကပြသသွန်သင်သည့်ဆရာပါဘဲ။

ပြက်, 1, *v.* to glance, as a ray of light (*infreq.*). *Der.* လျှပ်ပြက်, and မြူးပြက်။

ပြက်, 2, *see* ပျက်, *v.* to add to, put into, as a very little into a larger mass.

ပြက်, 3, *n.* breadth, width; applied to hard surfaces; *comp.* အနံ; ထက်ဝါးပြက်။

ပြက်ကြီး, *v.* to be wide.

ပြက်ငယ်, *v.* to be narrow.

ပြကတေ့ (Sanskrit), *n.* nature, ပကတိ, သဘော; *less frequent than* ပကတိ။

ပြက္ခဒိန်, *n.* an astrological scheme which forms the basis of subsequent calculations; an almanac, ပြက္ခဒိန်အုပ်, ပြက္ခဒိန်ကြည့်, ပြက္ခဒိန်ထုတ်, ပြက္ခဒိန်ဟူညီး။ calendar

ပြက်ပြက်, *adv.* clearly, conspicuously, ပြက်ပြက်ကွက်ကွက်, ပြက်ပြက်ထင်ထင်, ခရီးလမ်းမဟယ်၊ ခပ်သိမ်းကုန်သော ခြေရာအပေါင်းတို့တွင်၊ ဆင်၏ခြေရာသည်သာလျှင်၊ထင်ထင်ပြက်ပြက်ထင်သကဲ့သို့, just as amongst all the footprints on the highroad, those of the elephant only are conspicuous; မင်းလုပ်သည့်နေရာပြက်ပြက်ထင်ထင်တကွက်မရှိ။

ပြက်ပြည်, ပြက်ပြယ်, ပြက်ယယ်, *adv.* in the way of joking with freedom and familiarity; ပြက်ယယ်ပြုသည်, to laugh at; ပြက်ယယ်ပြုရာ, laughing-stock.

ပြင်, 1, *n.* the outside, what is beside, အပြင်။

ပြင်အနက်, *n.* the literal meaning.

ပြင်ကျုံးထိပ်, *n.* a counterscarp.

ပြင်ပသူ (*pron.* ပြင်ဗသူ), *n.* an outside person, one not included.

ပြင်ပေါင်းဘီ, *n.* overalls.

ပြင်ပိုး, *n.* the outside, that part which lies without, ပြင်ပိုးထိုင်နေသည့်လူတယ်သူပါလဲ။
ပြင်ဘဝေါ, *n.* the last of the five places of sitting in the royal presence; *see* နေရာငါးသွယ်။
ပြင်လွင်, *n.* the outside.
ပြင်လွင်ကစ, *adv.* on the outside.
ပြင်ဝန်, *n.* a public Minister of State; *comp.* အတွင်းဝန်။
ပြင်, 2, *v.* to prepare, put in order; to amend, correct, repair, ပြုပြင်သည်, မင်းရေးသည့်စာထဲမှာအလွန်အမှားများသည်၊ပြင်ရေးလိုက်ပါဦး; စားစရာအသင့်ဘဲပြင်ထားပါသည်။
ပြင်ဆင်, *v.* to prepare, put in order; *comp.* ပြုပြင်။
ပြင်လျှာ, *v.* same (*infreq.*).
ပြင်း, *v.* to be violent, ထန်သည်; *in conjunction with other verbs*, it appears to have the meaning of very, exceedingly; to be ardent or strong, as alcoholic liquor, scent, tobacco; to be virulent, as a poison, အဆိပ်ပြင်းသည်; to be loud, အသံပြင်းသည်; သည်သူဒေါသအင်မတန်ပြင်းသည်, သည်အရက်အလွန်ပြင်းသည်၊များများမသောက်နှင့်။
ပြင်းထန်, ပြင်းပြ, *v.* same, လေပြင်းထန်စွာလာသောကြောင့်၊လှေသင်္ဘောတို့သည်များစွာပျက်စီးကုန်သည်။
ပြစ်, 1, *see* ပစ်, *v.* to throw, cast; to throw away, reject, စွန့်သည်; to throw at, shoot.
ပြစ်, 2, *see* ပျစ်, *v.* to weave (thatch).
ပြစ်, 3, *v.* to be thick, dense, not rare, မကြည်; ဟင်းရည်ပြစ်လို့သောက်မကောင်း; သစ်ပင်ကလေးများထူလိုက်သည့်မှာပြစ်နေရေ့။
ပြစ်ချွဲ, *v.* to be thick and slimy; *used adverbially*, သည်လူချွဲချွဲပြစ်ပြစ်ပြောတတ်သည်, as a mealy-mouthed person, one who is affectedly delicate of speech.
ပြစ်ထူကြီး, *a.* stupid, thick-headed; very coarse and thick, as cloth, အဝတ်ပြစ်ထူကြီး; လူပြစ်ထူကြီး၊သာမှာအလုပ်အကိုင်မတတ်ဘူး။
ပြစ်နစ်, *v.* same as ပြစ်; *used adverbially*, chiefly with reference to words of abuse, ပြစ်ပြစ်နစ်နစ်ဆဲသည်။
ပြည်, 1, *n.* a country; တသက်ပတ်လုံးပြည်နှင်ဒဏ်, transportation for life; တပြည်သား, a native of a country other than Burma, a foreigner; အပြည်ပြည်, all countries.
ပြည်စိုး, *n.* an hereditary chief.
ပြည်ဆူးပြည်ခြောင့်, *n.* thieves, dacoits, robbers.
ပြည်တန်ဆာ (*pron.* ပြည့်တဇာ), *n.* a courtesan, harlot, မိန်းမပေါ့, မိန်းမရွှင်, ပြည်တန်ဆာမ။

ပြည်ထဲရေး, *n.* the internal affairs of a country, ပြည်ရေး, တိုင်းရေး။
ပြည်ထောင်, *n.* same as ပြည်; *used in phrases of enumeration only*, as တပြည်ထောင်, နှစ်ပြည်ထောင်, တယ်နှစ်ပြည်ထောင်။
ပြည်ဖုံးချကွယ်သလိုကွယ်, *v.* to make an unqualified denial; this expression is said to owe its origin to the Burmese marionette stage, *i.e.*, to the time the curtain falls and screens everything from view.
ပြည်ရင်းသားတို့, *n.* aborigines.
ပြည်ရေး, တိုင်းရေး, *n.* the affairs of a country or kingdom.
ပြည်ရှင်မင်းကြီး, *n.* the Sovereign of a country.
ပြည်လျှော်, ပြည်ရွာ, *n.* minor criminals, such as petty thieves, etc.
ပြည်သားချင်း, *n.* a compatriot.
ပြည်သူပြည်သားစု, *n.* the public, the people of a country.
ပြည်, 2, *n.* a measure of capacity equal to four *sales* (စလယ်), or one-sixteenth part of a *tin* (တင်း); *before capital numerals*, အပြည်; as အပြည်နှစ်ဆယ်, အပြည်သုံးဆယ်, etc.
ပြည်, 3, *n.* pus.
ပြည်အောင်း, *v.* to be pent up, as pus in a sluggish or slowly developing abscess (အိုင်းနာ), or boil (အနာမြီး).
ပြည်စုတ်တဲဆေးယောင်း, *n.* a drawing ointment.
ပြည်တည်, *v.* to suppurate, as a boil or sore; ပြည်ထည့် *is also used in the colloquial.*
ပြည်ပေါက်, *v.* to break, as a boil or abscess.
ပြည်မြုံ, *v.* to re-gather, as a boil.
ပြည်မှည့်, *v.* to come to a head, as a boil, to suppurate.
ပြည်, 4, *v. see* ပြယ်, to jest with, ခင်ဗျားကျွန်တော်ကိုမပြည်ပါနှင့်, please do not jest with me, sir.
ပြည့်, *v.* to be full. *Der.* ပြည့်။
ပြည့်စုံ, *v.* to be possessed of, to be replete with; to be complete, accomplished, fulfilled, ဦးညွန့်ဥစ္စာအင်ခွင်နှင့်ပြည့်စုံသောသူဖြစ်ပေသည်; သည်သစ်ပင်အခက်အလက်နှင့်ပြည့်စုံသည်။
ပြည့်တင်း, *v.* to be full and firm, in touch and appearance, as the flesh of a human being, လက်သဝါးပြည့်တင်း၏။
ပြည့်ဖွမ်း, *v.* same as ပြည့်စုံ (*infreq.*).
ပြည့်ဝ, *v.* to be full of, have an abundance of; less applicable to property than ကြွယ်ဝ; ကျွန်တော်မဝယ်နိုင်ပါ၊ဥစ္စာပြည့်ဝသောသူမဟုတ်ပါ; သဘောပြည့်ဝသူ, a man full of wisdom, understanding, and experience.
†ပြည့်စင်, *n.* the *Antidesma paniculata*; a low tree, bearing a red, sour fruit resembling the barberry, usually found near water.

ပြည်းကော (*pron.* ပြည်း), *see* ဖိန်းကော, *n.* a flat-bottomed boat, with sides constructed of timbers placed lengthwise; *comp.* နံထပ်။
ပြဋ္ဌာန်း (Pali ပဋ္ဌာန်), *v.* to decide, settle, establish, ထုံးဖြတ်သည်။
ပြဋ္ဌာန်းချက်, *n.* an official resolution.
ပြတ်, *v.* to be cut in two; to be cut off, ended; to cease, stop, break off, စဲသည်; to be broken, as the skin; to snap in two; to be decided. The word ပြတ် is much used in boat and horse racing, when speaking of a horse getting clean away from another; မြင်းတလုံးလောက်ပြတ်ကျန်ရစ်သည်; ကျောက်ကြိုးပြတ်သွားပြီ၊ လှေမျောသွားလိမ့်မည်, the anchor rope has snapped; the boat will drift. *Der.* ဖြတ်။
ပြတ်ကင်း, *v.* to be severed in connection, to be divorced, as husband and wife; to be broken off, as a friendship, ဦးမြနှင့်ဦးမောင်ကလေးရှေးကကဲ့သို့မယုတ်၊မေတ္တာပြတ်ကင်းနေကြသည်။
ပြတ်စဲ, *v.* to cease, stop; to be divorced, as husband and wife; အမှုပြတ်စဲ။
ပြတ်တောင်းပြတ်တောင်း, *adv.* by intervals of action and repose, by fits and starts, မိုးသည်းပြတ်တောင်းပြတ်တောင်းရွာသည်။
ပြတ်ပြတ်စား, *v.* to smack the lips in eating, ခင်ဗျားပြတ်ပြတ်မစားနှင့်၊ တယ်ရိုင်းပါသည်။
ပြတ်ပွဲစား, *n.* an appraiser of uncoined money; *comp.* အလဲကိုင်ပွဲစား။
ပြတ်လပ်, *v.* to be discontinued for want of further supply, ကျွန်တော်ဖိထ ငွေကြေးပြတ်လပ်သောကြောင့်၊အိလပ်ပြည်သို့စာသင်ရန်မသွားတော်မူနိုင်ကြပါ။
ပြတ်လုပြတ်ခင်, *adv.* on the point of being severed.
ပြတ်သတ်, *v.* to be cut or rent in pieces, spoilt.
ပြတ်သား, *v.* to be distinct, clear (in speech).
ပြတင်း (*pron.* ပဒင်း), *n.* a window, ပြတင်းပေါက်, လေသာပေါက်။
ပြတင်းအောက်ထုပ်, *n.* a window sill.
ပြတင်းဖိတ်, *n.* a window blind.
ပြတင်းပေါက်, *n.* the opening or aperture of a window; မှန်ပြတင်းပေါက်, a glass window.
ပြတင်းပေါင်, *n.* a window frame.
ပြတင်းမှန်အိမ်ကွက်, *n.* a window sash.
ပြတင်းယောင်, *n.* a false window.
ပြတင်းရွက်, *n.* a window shutter, ပြတင်းဖိတ်။
ပြတာန်, *see* ဖိတာန်, *n.* a canopy.
ပြတား (*pron.* ပဒါး), *n.* quicksilver, သုတ။
ပြတားဆား, *n.* oxymuriate of mercury, corrosive sublimate.
ပြတားဆားဖြူ, *n.* calomel.
ပြတားထိန်း, *v.* to overlay glass with quicksilver, မှန်ကိုပြတားထိန်းသည်။

ပြတ္ထို, *n.* a spittoon (*obs.*), ထွေးခံခွက်, ထွေးခံ။
ပြန်, 1, *n.* a measure of time equal to ten *karas* (ခရာ); a term used in astrological calculations.
ပြန်, 2, *v.* to return; to repeat, do again, ထပ်သည်; *an abbrev. of* ပြန်ကြား, to reply to a letter, စာပြန်သည်, စာမပြန်; to do in return, တုံ့သည်, လှန်သည်; to repeat, rehearse (a lesson); to interpret, translate, စကားပြန်သည်, အနက်ပြန်သည်; to die (*clerical*), ဘုန်းကြီးပြန်တော်မူသည်; to recover from fainting (*intrans.*); to refine, purify, rectify by re-distillation or sublimation; ဝါးတပြန်, လျှော်နှစ်ပြန်ထောက်ရှိသည်; *qual. verb. affix*, again; *adv.* back, backward; *used in composition*, နောက်ပြန်, ပြောင်းပြန်, ထက်ပြန်, မင်းအစေမ အဝင်မတန်နာနေသည်။ အိမ်ကိုပြန်ပြန်ပြန်ပါ; အမျိုးရမင်းတို့ပြန်မဟစာပြန်ရသည်; နာရီတဝက်ထောက်ပြောပြီးမှပြန်သတိရသည်။
ပြန်ကြား, *v.* to communicate information; to relate, report respectfully, ၎င်းအကြောင်းပြန်ကြားရန်အခွင့်မရှိ။
ပြန်စာ, *n.* a written reply.
ပြန်စေ, *v.* to remand.
ပြန်စောင်း (*pron.* စောင်း), *adv.* sidewise, as in looking back, တိုက်ခေါ်ပေ ဖယ်လို့သူကပြန်စောင်းမျှမကြည့်ဘူး (*Colloq.*).
ပြန်ဆို, *v.* to interpret.
ပြန်တမ်း (*pron.* ဗန်း), *n.* a royal edict made public for universal observance, အမိန့်တော်ပြန်တမ်း; an official gazette.
ပြန်ပြော, *v.* to relate, narrate, repeat.
ပြန်ဖွင့်, *v.* to reopen (a suit in court), အမှုကိုပြန်ဖွင့်ရန်လျှောက်သွား။
ပြန်ယူ, *v.* to take back; ယူပြန်, to take again.
ပြန်လည်, *v.* to return, မိမိတိုင်းပြည်သို့ပြန်လည်ပြီ။
ပြန်လာ, *v.* to come back.
ပြန်လှန်, *v.* to do in return, do back again, to retaliate; *comp.* လှန်ပြန်; ငါ့ကိုပြန်လှန်မပြောနှင့်။ပြောလျှင်ထွေမည်။
ပြန်လှန်ပြော, *v.* to retort, answer back, disrespectfully.
ပြန်သွား, *v.* to go back.
ပြန့်, *v.* to be expanded, as the open hand, or as a mat when unrolled; to be spread out, as grain, sand, etc.; to be level, to have an even surface, ညီညာသည်, ညီညွတ်သည်; *comp.* ပြား. *Der.* ပြန့်။
ပြန့်ကျယ် (*pron.* ပြန့်), *v.* to be widely extended; *see the parts*; မြေပြင်ပြန့်ကျယ်သည်, ရေပြင်ပြန့်ကျယ်သည်။
ပြန့်ပြော (*pron.* ဗြော), *v.* to be uniformly and plentifully supplied, မြို့ရွာ ပြန့်ပြောသာယာသည်။

ပြိပ်, *see* ပျိပ်, *v.* to be low, squat, flat, and broad, in comparison with the height.

ပြိမ်း, *see* ပျိမ်း, *v.* to spread out, distribute throughout, according to some rule.

ပြယ်, 1, *v.* to waste (*intrans.*), to become weak, less vivid or pungent, as odor, flavor, heat, affection, အားလျော့သည်; *fig.*, to become feeble, as a plan or scheme, အကြံပြယ်သည်; အချစ်ပြယ်သည်, မေတ္တာပြယ်သည်, အနံ့ပြယ်သည်, ခင်ဘွားဖိန်းမအရင်ကထက်မေတ္တာမပြယ်ပါ။

ပြယ်, 2 (from ပြ, to show, and ရယ်, to laugh), *v.* to jest with, put to the blush, as young persons of different sexes; to make indelicate allusions, ကဲလေသာနှင့်စပ်၍ကျီစားသည်; *comp.* ပျက်ချော်, and ပြက်ယယ်။

ပြယုဂ်, *n.* *in Pali Grammar*, an illustration, exemplification.

ပြိုးယား, *adv.* glitteringly, dazzlingly, with a variety of colors (*infreq.*), နီလာ၊ဂေါမုတ်၊ဥဿဘရား၊ပြိုးယားတလွေ။

ပြသာဒ် (Pali ပါသာဒေါ), *see* ပြာသာဒ်, *n.* a graduated turret surmounting the roof of palaces, distinguished *kyaungs*, royal boats, etc.; a spire, steeple.

ပြသာဒါးရက်, *n.* one of the two unlucky days in the month. According to some views, ပြသာဒါးဆန်း means, when the unlucky days are in the ascendant, and ပြသာဒါးကွယ်, the reverse.

ပြဿနာ, *n.* a question that forms a subject for discussion; *comp.* ပုစ္ဆာ; ပြဿနာဖြေ, ပြဿနာမေး။

ပြာ, 1, *n.* ashes.

ပြာဖိုး, *n.* a kind of crucible (မိုက်), made of ashes.

ပြာဆား, *n.* potash, pearlash, salaratus.

ပြာဆားနု, *n.* soda.

ပြာ, 2, *v.* to be blue. *Der.* အပြာ။

ပြာအောင်, *adv.* *intensive to* ဆင်းရဲ။

ပြာနောက်နောက်, *a.* of a dull blue color.

ပြာ, 3, *v.* to be dim, as the eyes, from weakness or old age; *more than* မှုန်, *but less than* မွဲ, *and* ဝါး။

ပြာ, 4, *v.* to toss up, in a shallow, flat-bottomed basket (ဗန်ကော), as rice, in order to clean it, ဆန်ပြာ။

ပြာတား (Beng.), *n.* a peon, မင်းလုလင်; a term sometimes applied to a police constable; a court peon.

ပြာတားခွန်, *n.* municipal tax.

ပြာတားကွင်း, *n.* a peon's belt.

ပြာသာဒ်ကွက်, *n.* an ornamental excavation in architecture, as if designed to be the bed of a mirror.

ပြာသာဒ် (Pali ပါသာဒေါ), *n.* a graduated turret, surmounting the roof of palaces, distinguished *Kyaungs,* royal boats, etc.; a spire.

ပြာသာဒ်ဦးပြည်း (*pron.* ဦးပြီ), *n.* the same; ဦးပြည်း, shaven-headed, *i.e.*, not rising to a point; ပြာသာဒ်ဦးပြည်းနှင့်သာ၍ပြီးပြင်စေ, in contradistinction to ပြာသာဒ်ရှည်မိုက်နှင့်သာ၍ပြီးပြင်စေ။

ပြာသို, *n. Pyatho,* the tenth month in the Burmese year, nearly answering to January; said to be derived from an ancient superstition that it was unlucky to throw away the ashes (ပြာ), during this month; hence they were stored up (သို).

ပြား, 1, *v.* to be flat, level, not spherical, မလုံး; *comp.* ပြန့်. *Der.* အပြား။

ပြားချပ်, *v.* to be flat and thin; *commonly used in an adverbial form.*

ပြားတားတား, *a.* somewhat flat, flattish.

ပြားလိုက် (*pron.* ပြား), *adv.* flatwise.

ပြား, 2, *v.* to be divided into several parts, be various. *Der.* အပြား, ကွဲပြား, ထူးပြား, ထွေပြား, နံ့ပြား, and များပြား။

ပြိဿာ, *see* ဗြိဿာ (Pali), *n.* Scorpio, the eighth sign of the zodiac.

ပြိတ္တာ (Pali ပေတော), *n.* a being inferior to man, inhabiting one of the four states of suffering (အပါယ်); "the spirit of a deformed or crippled person, or of one defective in some limb or organ." T.K.; *comp.* တစ္ဆေ, and ဖုတ်; applied colloqually to the lower orders of the brute creation, as insects, worms, etc. (101).

ပြိန်မြက် (*pron.* ပြိန်), *n.* a kind of grass.

ပြိန်း, *v.* to be idle, vain, unsubstantial; chiefly applied to persons and language, သည်သူလူပြိန်းကဘဲ။ ဘယ်အရာမျှဖြစ်မြောက်အောင်ကြံနိုင်မည်မထင်။

ပြိန်းဖျင်း, *v.* same as ပြိန်း။

ပြိဿ (Pali, a bull), *n.* Taurus, the second sign of the zodiac, ပြိဿခွင်, ပြိဿစန်း, ပြိဿရာသီ, ပြိဿရာသီနှင့်ယှဉ်သောကဆုန်လဝိသာခါနက္ခတ်ခွန်းတည့်သည်။

ပြီ, 1, *v.* to be accurate, exact; chiefly applied to speaking and writing; also applied to paintings and drawings which are true to life; စကားပြီသည်; သည်ဆရာကားရေးပြီသည်။

ပြီပြင် (*pron.* ပြင်), ပြီသ, *v.* same; ပြီပြင်တွတ်တွတ်မဆွန်ခွတ်သည်, ပြီပြင်ချစ်ယောင်နွတ်လက်ဆောင်နှင့်, သူမြန်မာစကားပြောလျှင်၊အလွန်အသံပြီသည်။

ပြီ, 2, *verb. affix, denoting the past, sometimes the future,* သူသွားနှင့်ပြီ, မစားပြီဘူး, မသွားပြီဘူး; *changed into* ပြီး *when followed by another*

*assertive affix*; *see Gram. sec.* 108; ထမင်းစားပြီးပြီလား, သွားပြီးသည့်နောက်။

ပြိပြိ (*pron.* ဗိဗိ *in colloq.*), *adv.* at all (*in a negative sentence*), အလျှင်း, as ပြိပြိမရှိ, there is none at all; ပြိပြိမတတ်ပါ, he is not at all skilful; *freq. followed by* သား, ပြိပြိသားမတတ်ပါ, သိတင်းပြိပြိသားမကြား; *comp.* ဗိုးဗိုး။

ပြီး, 1, *v.* to be done, finished, completed, accomplished, သူစားပြီးခဲ့ပြီ, he has finished eating, *i.e.*, has eaten and left; စားပြီးလိမ့်မည်, will finish eating, *i.e.*, will have eaten; to be proof against (a weapon), ထားပြီး, တုတ်ပြီး, လှံပြီး, သေနတ်ပြီး, ထားပြီးသည့်အကြောင်းအင်လိပ်များကအယုံမရှိကြပါ; အပြီးဆေး, medicine which causes invulnerability. *Der.* အပြီး။

ပြီးချော, *v.* to be settled and smoothed over, as a difficulty, အမှုအလွန်တရာပြီးချောသွားစေချင်ပါသည်။

ပြီးငြိမ်း. *v.* to be settled, as a difficulty, litigation, quarrel, ဦးမောင်ကလေးအမှုတော်တော်နှင့်ပြီးငြိမ်းမည့်လက္ခဏာမရှိ။

ပြီးစီး, *v.* to be done, finished, completed, accomplished.

ပြီးပြတ် (*pron.* ဗြတ်), *v.* to be finished, as any kind of labor or business, ပြီးပြတ်လွယ်ရန်အကြောင်းရှိသည်။

ပြီးပြေ, *v.* to be settled, as a difficulty, ပြီးငြိမ်း။

ပြီးမြောက်အောင်, *adv.* successfully, ထမြောက်အောင်။

ပြီး, 2, *verb. affix*; *see under* ပြီ။

ပြု, 1, *v.* to do, perform, ကျင့်သည်, ဆောင်သည်, မူသည်; to act like, assume the character of, မူသည်, ပြုပုံမူပုံလုပ်သည်; အဘယ်ကြောင့်ပြုသို့, *interrogative*, why?

ပြုကျင့်, *v.* to do, perform; to commit, as a good or bad action; oftener however, used with reference to the latter, ကျွန်တော်မျိုးရင်းအမှုပြုကျင့်ဖြစ်ပွားသည့်အရပ်သွားရောက်ကြည့်ရှုစုံထောက်ပါသည်။

ပြုစမ်း, *v.* to make an attempt to do.

ပြုစား, *v.* to bewitch, inflict mischief by witchcraft; *comp.* တမ်းစား; *when combined with* သား, or သမီး, to nourish, take care of, treat as a son or daughter. The difference between ပြုစား, and တမ်းစား seems to be, that the former means to be bewitched by human beings, such as witches, and the latter by supernatural agency, such as ghosts, *nats*, and the spirits of persons who have met with violent or unnatural deaths.

ပြုစု, *v.* to take care of, minister to; to sustain and promote, to cherish.

ဖို, 2, *see under* သက်လို; သက်လိုဖို, to be out of breath, to pant feebly and faintly.

ဖို, 3, *n.* a bellows.

ဖိုကြွင့်ထိုး, *v.* to use a bellows at the cremation of a monarch, a *pongyi*, or a chief queen.

ဖိုထိုး, *v.* to blow a bellows.

ဖိုသူကြီး, *n.* a master blacksmith, ဖိုသူကြီးမင်း; ပန်းပဲဆရာ, ပန်းပဲသူကြီး။

ဖို, 4, *n.* a fireplace; hence အုတ်ဖို, အိုးဖို, စားဖို (*pron.* စဖို), ပေါင်းဖို, မီးဖို။

ဖိုင့်ဖိုင့်, *a.* or *adv.* square-built; applied to people, လူခပ်ဖိုင့်ဖိုင့်။

ဖိုင်းခနဲ (*pron.* ဖိုင်းခနဲ), ဖိုင်းဖိုင်း (*pron.* ဖိုင်းဖိုင်း), *adv.* expressive of the sounds which they imitate, ဖိုင်းခနဲလဲသည်, ဖိုင်းဖိုင်းဖိုင်းဖိုင်းနှင့်လဲသည်။

ဖိုလ် (Pali ဖလ), *n.* fruit, grain; profit, attainment; reward, အကျိုး. There are four paths, an entrance into any one of which secures either immediately, or more remotely, the attainment of *nirvana*; *viz.* သောတာပတ္တိ, သကဒါဂါမိ, အနာဂါမိ, အရဟတ္တ; each path is divided into two grades, the perception of the path, မဂ္ဂ, မဂ်, and its fruition or enjoyment, ဖလ, ဖိုလ်။

ဖိုလ်လေးတန်, *n.* the four grand attainments, သောတာပတ္တိဖိုလ်, သကဒါဂါမိဖိုလ်, အနာဂါမိဖိုလ်, and အရဟတ္တဖိုလ်; *see* အရိယာ။

ဖို့ (from ဖို့, to be thrown into), *v.* to throw into or upon; to fill up partially or entirely, as a pit.

ဖို့မံ, *v.* to plaster with some soft substance, အင်တေဖို့မံသည်, ထယ်ကန်သင်းကိုရွှံ့နှင့်ဖို့မံသည်; ကျောက်ပေါက်မာထူသည့်မိန်းမများ၊သနပ်ခါးဖို့နိုင်သလို သာတော်တော်ရှိသည်။

ဖိုးခေါင်, *n.* the green barbet, ငှက်ဖိုးခေါင်တောင်ကိုတ။

ဖိုးရိုးဖားလျား, *adv.* disheveledly, loosely, disorderly, ဇိတ်ပူလွန်းလို့ဆံပင်ဖိုးရိုးဖားလျားနှင့်နေတတ်သည်။

ဖိုးရိုးဖွားလျား, *adv.* same.

ဖျက်, *v.* to destroy; to oppose, to seek to turn another from a contemplated course; to counteract; to take down, as a scaffolding or house; to take to pieces, as a traveling table or bed; to cut up, as an ox, sheep, etc.

ဖျက်ဆီး, *v.* to destroy.

ဖျက်ပယ်, *v.* to abolish.

ဖျက်ဖျက်, *adv.* expressive of the sound which it imitates, အိမ်ပေါ်မှာတာသံမှန်းမသိ၊ဖျက်ဖျက်သံကြားသည်, ခဲအိမ်ပေါ်ကိုဖျက်ဖျက်ဖျက်ဖျက်နှင့်ကျသည်။

ဖျင်, 1, *n.* a cotton cloth made by the Burmese; ကုလားတသက်၊ဖျင်တထက်, in allusion to the niggardly way in which Chulias clothe themselves.

ဖျင်, 2, *v.* to be much, abundant (*obs.*); hence တဖျင်ဖျင်, *adv.* hard; applied to rain, မိုးသည်းတဖျင်ဖျင်ကျသည်။

ဖျင်, 3, *v.* to clear, disencumber, disentangle, as a snarl of thread, ချည်ခင်ဖျင်သည်; to separate parties in a quarrel, ရန်ငြိမ်းအောင်ဖျင်သည်, သည်လူနှစ်ယောက်ရန်ဖြစ်နေကြသည်၊ဖျင်လိုက်ပါ, these two men are quarrelling; please separate them.

ဖျင်ကူးကစား, *v.* to raffle; *see* ထည်ကစား။

ဖျင်း, 1, *v.* to be unsubstantial, empty, void, useless, good for nothing, အနှစ်မဲ့; *comp.* သွံ့နှ်; မင်းအစေဖျင်းသည့်လူတဲ့။

ဖျင်းမှော်, *v.* same as ဖျင်း။

ဖျင်းသောင်း, *v.* to be unproductive, barren, impotent, as a tree, plant; most frequently applied to the rice plant, စပါးဖျင်းသောင်းသည်, သား သမီးဖျင်းသောင်းသည်, *i.e.*, they never live to maturity.

ဖျင်း, 2, *v.* to hew off (useless parts), အကြမ်းရွေ။

ဖျင်းရွေ, *v.* same, ကျွန်တော်အိမ်တိုင်များကိုအချောအပြီးမရွေရပါသေး၊အကြမ်း ဖျင်းထားရပါသေးသည်။

ဖျစ်, 1, *v.* to sputter, crackle, snap, crepitate.

ဖျစ်ဖျစ်, *adv. expressive of crepitation*; hence, တဖျစ်တောက်တောက်, sputteringly (in speech), သည်စကားကိုတဖျစ်တောက်တောက်မပြောပါနှင့်; သစ်ပင်တဖျစ်ဖျစ်မြည်၍ကျိုးသည်။

ဖျစ်, 2, *v.* to rub between the thumb and fingers; to squeeze between the thumb and fingers, သံပုရာသီးဖျစ်သည်; to compress the throat with fingers and thumb, to throttle, လည်ပင်းကိုဖျစ်သတ်သည်။

ဖျည်း, 1 (*pron.* ဖျဦး), *n.* a large open-mouthed pot used for cooking, ဖျည်းအိုး။

ဖျည်း, 2 (*pron.* ဖျဦး), *n.* an enlargement of the abdomen, from dropsy or other causes; လေဖျည်းနာ, flatulent distention of the belly; ရေဖျည်းနာ, the dropsy; သွေးဖျည်းနာ, a kind of dropsy (arising from absence or stoppage of the menstrual discharge).

ဖျည်းစွဲ, *v.* to suffer from any enlargement of the abdomen.

†ဖျည်းဖျည်း (*pron.* ဖျဦး), *adv.* with irregular, violent starts of heat, အကျောကိုကြမ်နှင့်ရိုက်သို့ ဖျည်းဖျည်းဖျည်းဖျည်းရှိသည်; *see* စပ်ဖျည်းဖျည်း။

ဖျတ်, *v.* to be quick in speech, fluent, စကားပြောဖျတ်သည်; to be incisive in conversation.

ဖျတ်ဖျတ်, *adv.* quickly, rapidly, ထိုလူဖျတ်ဖျတ်လာသည်၊ထာအကြောင်းရှိလိမ့် မည်မှန်းမသိ။

ဖျတ်ဖျတ်လူး (*from* လူး, to roll from side to side), *v.* to toss from side to

side, from pain or heat; to be impatient to obtain an object of love or desire, သူလိုချင်မိလျှင်၊ဖျတ်ဖျတ်လူးသို့, ဖျတ်ဖျတ်လူးအောင်ကြိုက်သည်။

ဖျတ်လတ်, *v.* to be fluent in speech, implying also knowledge and good sense, သားအငယ်ကအကြီးထက်စကားဖျတ်လတ်သို့မိဘများသာ၍ချစ်သည်, as the younger son is more fluent than the elder, his parents love him better.

ဖျန်, 1, *v.* to separate (enemies), မောင်ထွန်းနှင့်မောင်ဂေါ်ရာရန်ဖြစ်နေကြသည်၊ဖျန်လိုက်ပါ, Maung Tun and Maung Gawya are quarrelling; please part them.

ဖျန်ဖြေ (*pron.* ဖြေ), *v.* to reconcile (enemies), သူနှစ်ယောက်တရားမဖြစ်အောင်၊ဖျန်ဖြေလိုက်ပါ, reconcile these two persons, in order that they may not go to law.

ဖျန် (ပင်), 2, *n.* a kind of plant with a bulbous root, which is sometimes cooked for food.

ဖျန်း, 1, *v.* to sprinkle, scatter a liquid, နံ့သာရေဖျန်းသည်, ရေမွှေးဖျန်းသည်, သနပ်ခါးရည်ဖျန်းသည်။

ဖျန်း, 2, *v.* to flush through the body, as blood, air, or horripilation, ကြက်သီးဖျန်း, မြွေဟောက်နှင့်သွားခနဲတွေ့သို့ ကြက်သီးဖျန်းသည်, လေဖျန်းသည်, လေဖျန်းလို့ရောင်နေသည်, သွေးဖျန်းသည်; ဖျန်းခနဲ, *adv.* ဖျန်းခနဲထ, ဖျန်းခနဲကွဲသွားသည်။

ဖျပ်ဖျပ်, *see* ဖြဖြ, *adv.* quickly, လျှင်လျှင်။

ဖျံ, *n.* an otter.

ဖျံကတိုး, *n.* a beaver.

ဖျံဝါးသလို, *adverbial phrase,* greedily, voraciously, like an otter, ဖျံဝါးသလိုစားသည်, ဖျံဝါးသလိုစကားပြောသည်။

ဖျံဖျံ, *adv. an intensive to words of chewing*; also applied to speech, တဖျံဖျံစကားပြောသည်။

ဖျာ, *n.* a mat.

ဖျာခင်း, ဖျာဖြန့်, *v.* to spread out a mat.

ဖျာရက်, *v.* to weave a mat.

ဖျာလိပ်, *v.* to roll up a mat; *n.* a rolled-up mat, or a roll of mats.

ဖျား, *v.* to be in a fever.

ဖျားကျ, *v.* to intermit, as a fever.

ဖျားနာ, *v.* same as ဖျား; *n.* a fever, ဖျားနာရောဂါ။

ဖျားနာခွဲ, ဖျားနာဝ, *v.* to contract fever, as a malarial fever.

ဖျီး, 1, *see* ဖြီး, *v.* to sprinkle, to scatter in fine particles.

ဖျီး, 2, *see* ဖြီး, *v.* to be high and slender.

ဖျောက်, 1 (from ပျောက်, to disappear), *v.* to cause to be lost, to

**obliterate, to destroy; to cause to disappear, as evidence, to burke a case,** သက်သေဖျောက်ဖျက်သည်; ပုသောမိတ်ကိုဖျောက်လိုက်ပါ။

ဖျောက်ဖျက်, ဖျောက်ပစ်, ဖျောက်ဖျည်း (*rare*), *v.* same, တရားခံငြိတ်မိမိန်း မကိုထားနှင့်ရုတ်ပြီးသည့်နောက်၊အထောင်းကိုဖျောက်ပစ်သည်။

ဖျောက်ဖြေ, *v.* same, ခင်ဗျားဒေါသဖျောက်ဖြေပါ။ကျွန်တော်လွန်သည့်အချက်တချက်မျှမရှိပါ, pacify yourself, sir; there is not a single instance in which I have transgressed.

ဖျောက်, 2, *v.* to scratch in order to allay itching, ကျောကိုတဆိတ်ဖျောက်လိုက်ပါ။

ဖျောက်ဆိပ်, *n.* the Pleiades or seven stars, ကြတ္တိကာ; a kind of tree; *see* မျောက်ဆိတ်; တမိုးလုံးဖျောက်ဆိပ်ချည်းဘဲ, the whole firmament is nothing else but the Pleiades; an expression made use of when there is not much room for choice (with a view to censure or punishment) between one person and a number of others.

ဖျောင်း (from ပျောင်း, to be limber), *v.* to make limber, yielding. *Der.* ညှင်းဖျောင်း။

ဖျောင်းဖျ, *v.* to persuade, be persuasive, ဖြားယောင်း, ချော့မော့, အဘကိုဖျောင်းဖျ၍ပြောပါ, persuade father by speaking to him, ကျွန်တော်သားကလေးကိုရိုက်ဖို့မတော်ပါ။ ဖျောင်းဖျဆုံးမပါ၊ဆရာကြီး, it is not advisable to beat my young son; correct him by persuasion, great teacher.

ဖျော့, *v.* to be pale, faded, deficient in color; to look sickly, anæmic; သည်ပုဆိုးဝယ်သည်မှာတဆယ်ငါးရက်တည်းဘဲရှိသေးသည်။အရောင်ဖျော့ကုန်ပြီ။

ဖျော့တော့တော့, *adv.* sickly, ဦးတော်အာအဆင်းဖျော့တော့တော့ရှိသည်, U Taw A has a sickly appearance.

ဖျော့ဖျော်ဖျန်ဖြား, *v.* to conciliate, to settle, as a difficulty, ဖျော့ဖျော်ဖျန်ဖြားပြောသည်။

ဖျော်, 1 (from ပျော်), *v.* to coax, pacify, appease; to divert, make happy, ချော့, ဖြေ; အကလေးကိုဖျော်သည်, to lull a child to sleep, သိပ်။

ဖျော်ဖြေ, *v.* same, ကျွန်ုပ်ညီကလေးစိတ်ဆိုးသည့်အခါမုန့်ကလေးဝယ်ပြီးလျှင်ဖျော်ဖြေထားသည်, when my young brother got angry, I pacified him by buying him cakes, မောင်ဘချစ်လူကိုဖျော်ဖြေတတ်သည်။

ဖျော်, 2, *v.* to dilute, make thin; to dissolve by putting into water, သည်ဆေးကိုညက်ညက်ပါအောင်ဖျော်သောက်လျှင်ကောင်းပေါ်လိမ့်မည်; ဆွက်ရည်ကိုဖျော်လိုက်ပါ. *Der.* အဖျော်။

ဖျော်ဖျော်, *adv.* *intensive*, ဆေးကိုဖျားရည်နှင့်ဖျော်ဖျော်ကြီးထည့်သောက်ပါ။

ဖျိုင်ဖျိုင်, *adv.* profusely, as perspiration, ချွေးဖျိုင်ဖျိုင်ထွက်အောင်အောင်းရမည်, ချွေးဖျိုင်ဖျိုင်ကျသည်, မိုးဖျိုင်ဖျိုင်ကြီးကျသည်; also applied to words of buying and selling, တကျပ်ခွဲဈေးဖျိုင်ဖျိုင်ကြီးရသည်။

ဖျို း, *see* ဖြိုး, *v.* to be full in flesh, fat, corpulent; to swell up, be heaping, convex.

ဖျို းဖျို းဖြန်းဖြန်း (*often pron.* ဖြိုးဖြိုးဖြန်းဖြန်း), *adv.* with a crushing or rumbling noise, မိုးသံကြီးထစ်သည့်အခါ၊ ဖျို းဖျို းဖြန်းဖြန်းညံလျှိုသာနေရေ့ သည်၊ရန်ကုန်မြို့ကြီးမှာလူသေများလှိုတ်အံသံမှုတ်သံဖျို းဖျို းဖြန်းဖြန်းနေ့တိုင်းမစဲဘူး။

ဖျို းဖျို းဖြောက်ဖြောက်, *adv.* with a quick succession of light sounds.

ဖြ, *v.* to be fine, gentle, as sound (*infreq.*), အသံဖြဖြ။

ဖြဖြ, *adv.* quickly, rapidly, အလျင်အမြန်, လျင်လျင်ဖြဖြကူလာကြသည်, they came to assist quickly; slightly, as in ဖြဖြချိုသည်, a little sweet.

ဖြက်ဖြက်, *see* ဖျက်ဖျက်, *adv.* expressive of the sound it imitates.

ဖြင်သစ်, *n.* a Frenchman (*sometimes pron.* ပြင်သစ်).

ဖြင့်, 1, *a corruption of* ဖြစ်လျှင်; *much used in colloq.*, သူ့ကိုတွေ့ခါဖြင့် နာနာကြီးဆိုလိုက်မည်။

ဖြင့်, 2, *n. affix, instrumental*, by, by means of, အားဖြင့်, ထားဖြင့်ခုတ် သည်, လှံဖြင့်ထိုးသည်, ငွေသဖြင့်။

ဖြစ်, 1, *v.* to be, exist, have existence; to be, indicative of some quality; to become; to take effect, be practicable, and in this sense, *frequently used as a qualifying verbal affix*, သည်ကနေ့စာမရေးဖြစ်ပါ, it is not practicable to write letters to-day, မသွားဖြစ်ပါ, သွားဖြစ်ပါ လျှင်; to possess capacity for doing anything, to be capable, လက် သမားအတတ်မှာအလွန်ဖြစ်သည့်လူ, တယ်ဖြစ်သည့်လူ, a very capable man; ဖြစ် *is often omitted in conversation*, ဘယ်သူပါလိမ့်မည်လဲ, for ဘယ်သူ ဖြစ်ပါလိမ့်မည်လဲ; ဖြစ်မှဖြစ်ရလေခြင်း, ဖြစ်မှဖြစ်ရပါလေနော်; ကျွန်မသွားမိစိတ္တ ဖြစ်သလဲမပြောတတ်ပါဘူး; ဖြစ်လိုရာဖြစ်ပါစေတော့၊ သည်နေရာကခါမရွှေ့ဘူး, let happen what may, I do not stir from this place.

ဖြစ်ကတတ်ဆန်း, *adv.* not well done, ဖြစ်ကတတ်ဆန်းကြသည်, ဖြစ်ကတတ် ဆန်းပြောသည်, ဖြစ်ကတတ်ဆန်းလုပ်သည်။

ဖြစ်ထွန်း, *v.* to result, become prominent; *see* ထွန်း; အကျိုးကျေးဇူးဖြစ် ထွန်းလိမ့်မည်မထုတ်ပါ။

ဖြစ်ပုံဖြစ်ပုံ, *n.* the manner or way of any person or thing, whether of being, behaving, happening, or occurring.

ဖြစ်ပွား, *v.* to be enlarged, augmented, စီးပွားဖြစ်ပွား; to spread, ရန် ဖြစ်ပွားသည်; to happen, occur, arise, as a quarrel, ဤမိုက်ရန်အထယ် အမှုကြောင့်ဖြစ်ပွားသနည်း; မည်သည့်နေ့ရက်ဖြစ်ပွားသည်, အမှုဖြစ်ပွားရာ အရပ်, မည်သည့်အရပ်ဒေသတွင် အမှုဖြစ်ပွားပါသလဲ, သည်အမှုဖြစ်ပွားယာန် လက္ခဏာရှိသည်, there is a likelihood of this case occurring.

ဖြစ်ဘွားစေ, *v.* to beget, သင့်ပေး, (*rare*).

ဖြစ်မြဲ, *n.* the regular course of things, ဓမ္မတာ။

ဖြစ်မြောက်, *v.* to be attained, accomplished, ဖြစ်မြောက်အောင်ကြံ; to be consummated, as a scheme, business, etc., ကြံစရှိပြီဆိုလျှင်ဖြစ်မြောက်အောင်ကြံထုတ်သည်, should he have commenced to form a scheme, so to speak, he is in the habit of carrying it through.

ဖြစ်ရတတ်ဆန်း, *adv.* not well done; *see* ဖြစ်ကတတ်ဆန်း။

ဖြစ်ရလေခြင်း, ဖြစ်လေခြင်း, *int.* ah! alas! lackaday!

ဖြစ်လာ, *v.* to become, come to be, သူတို့အရေအတွက်သည်ငါးထောင်ခန့်ဖြစ်လာ၏။

ဖြစ်လျှာ, *v.* to occur, happen, take place, ဖြစ်ပျက်သည်။

ဖြစ်, 2, *see* ဖျစ်, *v.* to sputter, crackle, snap, crepitate.

ဖြည်, *v.* to untie, loose, unroll, unfold; *see* ဖြေ။

ဖြည့်, *v.* to fill, make full, complete, ဖြည့်စေ; to replenish, recruit; to recover one's strength, အားဖြည့်သည်, သည်ဆေးကိုသောက်လျှင်အားအင်ဖြည့်လိမ့်မည်; to consign, as a criminal, to some department of labor, သူပုန်များကိုလမိုင်းသို့ဖြည့်သည်။

ဖြည့်စွက်, *v.* to supply a deficiency, မလောက်သမျှကျွန်တော်က ကူညီဖြည့်စွက်ပါမည်။

ဖြည့်စွမ်း, *v.* to discharge, fulfil; to gratify, as a passion, သူ့အလိုကိုဖြည့်စွမ်းနိုင်မှသူမေတ္တာရှိသည်။

ဖြည့်တင်း, *v.* to be full and firm, as the flesh.

ဖြည်း (*freq. pron.* ဖြေး), *v.* to be slow, gradual, moderate, နှေးသည်, to be gentle, easy, pleasant, သာယာသည်; hence တဖြည်းဖြည်း, *adv.* in a slow, gradual manner; by and by; ဖြည်းဖြည်းသွားပါ, go slowly.

ဖြည်းညှင်း, *v.* same, ဖြည်းညှင်းသက်သာ, ဖြည်းညှင်းသာယာ; ဖြည်းညှင်းသက်သာကြရန်မတော်ပါ၊ခပ်မြန်မြန်ကြံမှတော်မည်။

ဖြည်းဖြည်းနှေးနှေး, *adv.* gently, moderately, ဖြည်းဖြည်းပြောပါရစေ။

ဖြည်းဖြူး, *v.* same as ဖြည်းညှင်း, (*infreq.*).

†ဖြည်းစပ်စပ် (*pron.* ဖြီ), *adv.* with a look or smile of disregard or contempt, ဖြည်းစပ်စပ်ရယ်; smirkingly, သည်သူမျက်နှာဖြည်းစပ်စပ်နှင့်။

ဖြည်းတည်းတည်း (*pron.* ဖြီထဲတဲ), *adv.* same as ဖြည်းစပ်စပ်, သည်လူဖြည်းတည်းတည်းနှင့်အလွန်မုန်းစရာကောင်းသည်။

ဖြတ်, *v.* to cut in two, to sever; to break off, put a stop to; to decide, သည်အမှုကိုဖြတ်ပါခင်ဗျား; စကားမရှည်နှင့်ထေ၊ဖြတ်ပါ, သည်အိမ်မသွားပါနှင့်ထေ၊ဖြတ်နေပါ။

ဖြတ်ကျ, *v.* to fall across, သစ်ပင်သည်လမ်းပေါ်ကိုဖြတ်ကျသည်။

ဖြတ်ခြား, *v.* to decide a suit, usually as an arbitrator, စုံရာသမာဓိလူကြီးများဖြတ်ခြားရာနာခံတည်ငြိမ်းပါမည်။

ဖြတ်စ, *n.* a piece cut off, ဖြတ်နုံ။

ဖြတ်စဖြတ်ပိုင်း, *n.* a frustum.
ဖြတ်စာ, *n.* a decision in writing: *see* ထွတ်စာ; ဖြတ်စာဖေါက်, to break one's faith, after eating ထွက်။
ဖြတ်ဆောက်, *n.* a broad, flat chisel.
ဖြတ်တုန်းဖြတ်စာ, *n.* a written decision in law.
ဖြတ်ထုံး, *n.* a precedent in law, သုဓမ္မာစာရီမင်းသမီးဖြတ်ထုံး, the decisions of Princess Thudammasari; a selection of precedents compiled from common and statute law; *comp.* ထုံးဟောင်း, common law, and ဓမ္မသတ်, statute law.
ဖြတ်ဖျက်, *v.* to break in pieces, or destroy by a separation of parts, ကျိုးပဲ့ကြေမွစေသည်။
ဖြတ်လမ်း, *n.* a short-cut, cross-cut; a road which crosses another, ဖြတ်လမ်းကူးသည်; ဖြတ်လမ်းကိုလိုက်, to cut across.
ဖြတ်လွှ, *n.* a cross-cut saw.
ဖြတ်သတ်, *v.* same as ဖြတ်, implying censure; to cut away, as a thicket, in order to get through, ခုတ်ထွင်။
ဖြန့်, *v.* to spread out, expand; to spread its wings, as a bird, ငှက်ခါးတောင်ဖြန့်သကဲ့သို့; to step, extend the foot, walk (*honorific*), ခြေတော်ဖြန့်, ရွှေစက်တော်ဖြန့်သည်, applied to monarchs.
ဖြန့်ကြဲ, *v.* to scatter, spread abroad.
ဖြန့်ကြွ, *v.* to extend and raise the foot; *in ordinary parlance*, to walk, ခြေဆန့်ဖြန့်ကြွတော်မူပါမည်အကြောင်းလျှောက်ပါသည်, as a layman inviting a *pongyi* to come to his house; ဒေဝသစာရီဖြန့်ကြွတော်မူသည်။
ဖြန့်ခင်း, *v.* to spread out, expand, as a mat or cloth, ဖျာဖြန့်ခင်း, အဝတ်ဖြန့်ခင်း; မြင်းအောက်ကကောက်ရိုးကိုဖြန့်ခင်း, to spread straw for horses to lie upon.
ဖြန့်ချိ, *v. see the parts*, သည်ခြေကြီးဝဲ၍မနေစေနှင့်၊ဖြန့်ချိထားလိုက်ပါ။
ဖြန့်ချီ, *v.* to step, extend the foot, walk; *see* ချီ။
ဖြန့်ဖြူး, *v. see the parts*; ကျွန်တော်ငွေများကိုအခြားလူများထံဖြန့်ဖြူးထားသည်။
ဖြန့်မြန်း, *v.* to step, extend the foot, walk, ရှင်ဘုရင်မြို့ရွာများကိုဖြန့်မြန်း၍ကြည့်တော်မူသည်; also applied to Buddha, မြတ်စွာဘုရားကပိလဝတ်ပြည်မှ၊ရာဇဂြိုဟ်ပြည်သို့ဒေဝသစာရီဖြန့်မြန်းတော်မူသည်။
ဖြန်း, 1, *see* ဖျန်း, *v.* to sprinkle, scatter a liquid.
ဖြန်း, 2, *see* ဖျန်း, *v.* to flush through the body, as blood, air.
ဖြန်း, 3, *v.* to be rapid, and accompanied with noise.
ဖြမ်း, *v.* to cast (a shadow), အရိပ်ဖြမ်း, သစ်ပင်ကြီးအရိပ်ဖြမ်းသို့ပန်းပင်ငယ်သေးသည်, owing to the large trees overshadowing them, the

flower plants are still small; to be diffused, as rays of light. အိမ်ကမီးဖြမ်း၍ဖြိုင်သည်။

ဖြာ, *v.* to divide into several parts, be many, numerous, as the roots of a tree; အကိုင်းအခက်ဝေဝေဆာဆာဖြာကျသည်, ရေပန်းများဖြာကျသည်; ဖျာရက်ရအောင်နှီးဖြာသည်, he divides the bamboo strips, in order to weave a mat; ထိုကဲ့သို့ပြုလျှင်၊နှစ်ဖြာသောအကျိုးခံစားရလိမ့်မည်။

ဖြားယောင်း, *v.* to persuade, use persuasive arts, be persuasive, conciliatory; to entice, seduce, ဖျောင်းဖျ; မြင်းများကိုဘမ်းချင်လျှင်၊အစာဖြင့်ဖြားယောင်း၍ဘမ်းရမည်; တရုပ်မြို့ဝန်မောင်ကျော်ခေါင်ဖြားယောင်းသွေးဆောင်သဖြင့်မြန်မာဘုရင်ထံမှခိုလှုံရသည်

ဖြီး, *v.* to comb (the hair); to brush (cloth); to card (cotton or wool), သည်သက္ကလတ်အင်္ကျီများကိုကောင်းကောင်းဖြီးလိုက်ပါ။

ဖြီးလိမ်း, *v.* to brush and anoint, as the hair of the head, မမင်းသားတနေ့လုံးခေါင်းနားပန်းဖြီးလိမ်းတတ်သည်။

ဖြုတ်, 1, *n.* the sand fly, ပင်လယ်နားမှာဖြုတ်များကိုက်လျှင်၊ အဝိမ့်ကလေးထတတ်သည်။

ဖြုတ်, 2, *v.* to loose, dislocate, derange; မြင်းကိုရထားကဖြုတ်လိုက်ပါ, unharness (*lit.* loose) the horse from the carriage; တလလောက်ကိုကျွန်ုပ်အလုပ်ဖြုတ်လိုက်မည်, I shall leave off work for about one month; ကဆုန်နယုန်ရုပ်သေးခေါင်းဖြုတ်လျှင်လာဆပ်ပါမည်, I will come and repay you (the money) in the month of Kason, or Nayon, when I loose the heads of the marionettes; ရုပ်သေးခေါင်းဖြုတ် is an expression much used by marionette players, ရုပ်သေးခေါင်းဖြုတ်ငွေခြောက်ဆယ်ပေးပါမည်; ကုထားကောက်ကိုဖြုတ်လိုက်ပါ။

ဖြုတ်ဖျက်, *v.* to cause to come to an end, by a dissolution of parts.

†ဖြုတ်ခနဲ, *adv.* instantly, suddenly, စုတ်ခနဲ, ရုတ်ခနဲ, ဖြုတ်ခနဲကျသွားသည်။

ဖြုတ်ချင်း, or ဖြုတ်ချည်း, *adv.* same, ကြားလျှင်ဖြုတ်ချင်းထလာသည်။

ဖြုတ်ဖြုတ်, *adv.* same; also expressive of the sound which it imitates, ဖြုတ်ဖြုတ်ဖြုတ်ဖြုတ်မြည်သည်။

ဖြုန်း (from ပြုန်း), *v.* to wear away, exhaust; to spend in vain, as money.

ဖြုန်းတီး, *v.* same, တယ်မောင်သည့်လူအင်မတန်ငွေစဖြုန်းတီးပစ်သည်။

†ဖြုန်းခနဲ (*freq. pron.* ဖြုန်းဂနဲ), *adv.* expressive of the noise which it imitates, ဖြုန်းခနဲထဲသည်, အခန်းထဲကဖြုန်းခနဲကြားသည်။တာလဲ။

ဖြုန်းဖြုန်း (*pron.* ဖြုန်းဖြုန်း), *adv.* expressive of the noise which it imitates, ဖြုန်းဖြုန်းဖြုန်းဖြုန်းကြားသည်, ရေးချီးလိုက်သည်မှာတဖြုန်းဖြုန်းနှင့်, မီးသဘော်ခစက်ကိုအဝေးကဖြုန်းဖြုန်းဖြုန်းဖြုန်းကြားသည်။

ဖြုန်းဖြုန်းချဉ် (*pron.* ချဉ်), ဖြုန်းဖြုန်းရှိ, *v.* to be moderately sour, subacid, ချဉ်ဖြုန်‌ဖြုန်း; ကနစိုးသီး၊မင်းကွတ်သီးဖြုန်းဖြုန်းချဉ်သည်, or ဖြုန်းဖြုန်းရှိသည်။

ဖြို, *v.* to be affected, moved, shaken, changed, ruffled, agitated, disconcerted; *used in the negative only,* with reference to disregard of another's animosity, dislike, ခင်ဗျားသည်ထိုသို့ပြောပါသော်လည်း၊ငါမဖြိုပါဘူး, though you speak thus, I am not disconcerted; လားလားမျှမဖြိုပါဘူး။

ဖြူ, 1, *n.* a porcupine, the *Hystrix cristata,* ငွေ့ဖြူတောသမတိုးဝံ့သလိုတဲ့, said of persons who fear to encounter danger.

ဖြူဆူး, *n.* a porcupine quill.

ဖြူ, 2, *v.* to be white; with reference to the mind, to be pleased with, to be kindly disposed; *opposed to* ညို; used as a euphemism with reference to leprous persons, ထိုကလေးများဖြူကုန်ပြီ။

ဖြူစင်, *v.* to be white, clean, pure, စင်ကြယ်, သန့်ရှင်း, သဘောဖြူစင်သည့်လူ, a person of guileless disposition.

ဖြူဆွတ်, *v.* to be very white, snow white; *used adverbially in the colloquial,* ဖြူဖြူဆွတ်ဆွတ်, ဖြူဖြူဖွေးဖွေး, ဖြူဖြူလွလွ။

ဖြူတူတူ, *a.* whitish.

ဖြူနွဲ့, *v.* to be tall, slender, and fair; *commonly used adverbially,* ဖြူနွဲ့နွဲ့; only applied to human beings, လူပုံဖြူဖြူနွဲ့နွဲ့။

ဖြူဖတ်ဖြူရော်ရှိ, *v.* to be sallow in complexion; သည်လူဖျားပြီးကာကလေး မှို၊မျက်နှာဖြူဖတ်ဖြူရော်ရှိသည် (*Colloq.*).

†ဖြူဆံမြက်, *n.* a kind of grass.

ဖြူး, 1, *v.* to sprinkle, scatter in fine particles, ဆရာဝန်မရောက်မချင်း သည်အလောင်းကိုမီးသွေးမှုန့်နှင့်ဖြူးထားလိုက်ပါ, sprinkle this body with charcoal powder till the civil surgeon arrives; လေတဖြူးဖြူးလာသည်, to come in puffs, as the wind.

ဖြူး, 2, *v.* to be high and slender, သည်ကျွန်းပင်ချောလိုက်သည်မှာဖြူးနေရော့။

ဖြူးသွန်း, *v.* same as ဖြူး, (*rare*); *used adverbially.*

ဖြေ (from ပြေ, to be loosed), *v.* to untie, loose, unroll, unfold; to answer (a question); to guess (a riddle), စကားထာဖြေ; *opposed to* မေး, to enquire; to appease, as the mind, စိတ်ကိုဖြေသည်; သည်သူ့ညီမကလေး သေဆုံးသည့်အခါ၊ သူ့ကိုအင်မတန် ဖြေဖျော်ရသည်; to drive away *ennui,* အပျင်းကိုဖြေသည်; to settle a difficulty or dispute, အမှုပြေအောင်ဖြေသည်; သည်ပုစ္ဆာကိုဖြေပါ, answer this question, please; to do away, to cancel, as sin, အပြစ်ကိုဖြေသည်။

ဖြေဆည်း, *v.* to refute (*infreq.*); to quiet, as the mind, အလွန်တရာလွမ်းဆွတ်သည်၊ဖြေဆည်းလို့မရနိုင်ဘူး။

ဖြေဖျက်, *v. see the parts*; chiefly used with reference to soldiers or

rebels destroying towns and levelling them to the ground; ဖြိုဖျက် is a stronger expression; to disannul.

ဖြေဖျှန်, *v*. to settle (a quarrel).

ဖြေဖျောက်, *v*. to clear away, ဖြေဖျော်။

ဖြေဖြန့်, *v*. to unfurl, ဖြန့်သည်, အထဲကိုဖြေဖြန့်လိုက်ပါ။

ဖြေရှင်း, *v*. to cleanse, to pardon.

ဖြေလွှတ်, *v*. to forgive freely; to loose horses or domestic cattle (generally after being tied up), မြင်းကိုဖြေလွှတ်သည်။

ဖြဲ (from ဖြဲ, to gape), *v*. to open, pull open, to make gape.

ဖြော, *v*. to parboil, ကြက်ကိုရေနွေးဖြော၍အမွေးနုတ်လိုက်။

ဖြောဖြော, *adv*. freely, plentifully, ရေဖြောဖြောကျ, ဝမ်းဖြောဖြောသွားသည်။

ဖြောက်, *see* ဖျောက်, *v*. to scratch, in order to allay itching.

ဖြောက်ဆိပ်, *see* ဖျောက်ဆိပ်, *n*. the Pleiades or seven stars.

ဖြောက်ဖြောက်, *adv*. expressive of the sound which it imitates, စရိတ်စေ့ သစ်ပင်ပေါ်မှာဖြောက်ဖြောက် ဖြောက်ဖြောက် ကျသည်, မိုးဃိုးဖြောက်ဖြောက်, ဖြောက်ဖြောက် ရွာသည်။

ဖြောင့်, *v*. to be straight; to make straight; when applied to the mind, to be upright; to be true in aim, လက်ဖြောင့်; သည်လမ်းမ ဖြောင့်ဘူး၊ကောက်ကောက်ကွေးကွေးရှိသည်, this road is not straight, it is crooked; သည်မုဆိုးလက်ဖြောင့်သည်၊ပစ်တိုင်းထိသည်။

ဖြောင့်စင်း, *v*. to be upright; to be straight, as a road; to lie straight, as a serpent, မြွေကြီးလမ်းမှာကန့်လန့်ဖြောင့်စင်းနေသည်။

ဖြောင့်တန်း, *v*. to be straight; to be rectilinear; applied also to the mind; တွံ့တေးတူးမြောင်းဖြောင့်တန်းသည်; စိတ်နှလုံးဖြောင့်တန်းသည်။

ဖြောင့်မတ်, *v*. to be upright, honest, ရိုး, အစိုးရအလုပ်ကိုဖြောင့်မတ် စွာလုပ် သည့်အတွက်၊မိမိအထက်လူကြီးများအလွန်အားကိုးသည်။

ဖြောင့်သား, *v*. to be straight; to make straight.

ဖြော်ဖြော်, *see* ဖျော်ဖျော်, *adv. intensive.*

ဖြို (from ပြို, to fall to pieces), *v*. to break down (*trans*.), demolish, destroy; to correct the chronology or calender, ကိန်းဖြို, ကောဇာဖြို, ပြက္ခဒိန်ဖြို, သင်္ကရာဇ်ဖြို; သာသနာဖြို; တွင်းဖြို, to aim at a hole, as in throwing for the first chance at play.

ဖြိုဖျက်, *v*. to overthrow; to demolish, annihilate; to raze to the ground, အိမ်လမ်းနှင့်နီးလှသည်၊ဖြိုလိုက်ပါ, the house is very close to the road; demolish it; ပုန်းထိမ်းမင်းသားပုန်ကန်သည့်အတွက်၊ မင်းထုန်းရှင်ဘုရင်က၊ ရတနာသိဂ်မြို့ကိုဖြိုဖျက်သည်။

ဖြိုး, *v*. to be full in flesh, fat, corpulent, ဝသည်; to swell up, be heaping, convex; သည်လူဝလိုက်သည်မှာတဖြိုးတည်း; သည်သူ့ခါးမရှိ၊ တဖြိုးတည်း,

this person has no waist; he is of a uniform breadth throughout.

ဖြိုးမောက်, *v.* to swell up, be heaping, convex, သည်သူ့အသားသည်ဖြိုးဖြိုးမောက်မောက်ရှိသည်။

ဖြိုးမျှ, *v.* to be symmetrically rounded out, သည်ဖိနပ်တိုင်များအလွန်ဖြိုးမျှသည်။

ဖြိုးဝေ, *v.* *see the parts*; သည်အရပ်တွင်သစ်ပင်များဖြိုးဖြိုးဝေဝေရှိကြသည်။

†ဖြိုးဖြိုးဖြန်းဖြန်း (*often pron.* ဖြိုးဖြိုးဖြုန်းဖြုန်း), *see* ဖျိုးဖျိုးဖြန်းဖြန်း, *adv.* with a crushing or rumbling noise.

ဖွက်, *v.* to hide, secrete, conceal; *see* ဝှက်; ကြောင်လက်သည်းဖွက်တတ်သည်; *in writing,* ဝှက် *is used*; ကျွန်ုပ်နာရီကိုဘယ်သူဖွက်ထားပါလိမ့်မည်လဲ, ခင်ဗျားရွာမှာသူခိုးဖွက်ထားလို့ကြားသည်, I hear that you are secreting a thief in your village.

ဖွင့် (from ပွင့်, to be open), *v.* to open, လှစ်, တံခါးဖွင့်, မျက်စိဖွင့်, ဈေဝမ်းဖွင့်သည်။

ဖွင့်လှစ်, *v.* to open and expose to view; with ပြော, to speak aloud, ဖွင့်လှစ်ပြော၊ စကားတိုးတိုးမပြောနှင့်, ကျယ်ကျယ်ဖွင့်လှစ်ပြောပါ; အဝတ်အစားကိုဖွင့်လှစ်ပြသည်။

ဖွတ်, *n.* a species of guana; the water lizard. The Burmese consider it very unlucky to have this reptile come into the house; its arrival is a sure omen of poverty and misery; hence the saying, ဖွတ်တက်သည်ထက်မွဲသေးသည်, in describing a very poor person (108).

ဖွတ်ဥကျည်, ဖွတ်ကျား, ဖွတ်ညှင်း, ဖွတ်မွဲ, *n.* varieties of the guana.

ဖွတ်မိကျောင်း, *n.* the monitor crocodile, ဖွတ်မိကျောင်းရှိလျှင်၊မြစ်မချမ်းသာ။

ဖွတ်မိန်, *n.* a species of aquatic varan or monitor lizard, said to have a red head.

†ဖွတ်စဆိုနာ, *n.* a disease affecting the nose, ဖွတ်သိုနာ။

ဖွတ်စဆိုနာစွဲ, *v.* to be affected with such disease, ဖွတ်စဆိုနာလိုက်သည်, ဖွတ်စခြောက်, ဖွတ်စိုး။

ဖွပ်, *v.* to cleanse, make clean, စင်စေ, သန့်ရှင်းစေ; to clean rice by pounding, ဆန်ဖွပ်, or clothes by beating, အဝတ်ဖွပ်; to cleanse honey from bees, ပျားဖွပ်, or ants from the debris of their nests, ခါချဉ်ဖွပ်။

ဖွပ်ဆောင့်, *v.* to wash clothes by beating.

ဖွပ်လျှော်, *v.* to wash clothes by scrubbing.

ဖွယ်, 1, *n.* Shan silver money, ဖွယ်ငွေ။

ဖွယ်, 2, *see* ဘွယ်, *v.* to be meet, suitable, fit, proper, comely, desireable.

ဖွယ်, 3, *v.* to be inadhesive, မစေး; to be devoid of natural richness; အင်္ဂတေထန်းလျက်ကျွဲကော်နည်းလို့ဖွယ်နေသည်; အရသာဖွယ်သည်။

ဖွယ်, 4, *int.* expressive of dislike, disgust; pish! သည်လူကိုမြင်ရလျှင်တယ် ဖွဲ့စရာကောင်းသည်၊ ဖွယ်; the Burmese usually spit when making use of this and other interjections expressive of disgust, ထွီ, ဖီ။
ဖွံ့, *v.* to be fat, plump; applied to the young of animals, ကိုယ်လုံးဖွံ့သည်။
ဖွံ့ဖြိုး, *v.* same; to be very plentiful, abundant; *in combination with* အကျိုး, *and in an extended sense*, to be beneficial, advantageous.
ဖွာ, 1, *v.* to spread out into many minute parts, as the roots of a tree, or as a spray of water, ရေပန်းဖွာကျသည်; not as divergent and extended as ဖြာ; မြင်းကြမ်နှင့်ရိုက်သို့အဖျားဖွာကုန်ပြီ။
ဖွာဆန်ကြဲ, *v.* to be talkative; *used in a continuative form*; to be divided, or spread out into many minute parts, from violent contact, ရွက်ကိုလေတိုး၍ဖွာဆန်ကြဲစုတ်သွားသည်, မိုးဆန်မှန်၍သစ်ပင်ဖွာဆန်ကြဲဖြစ်သွားသည်။
ဖွာဆန်လိကြဲ (*pron.* ဖလိကြဲ) (*rare*), *v.* same, စကားဖွာဆန်လိကြဲပြောနေသည်။
ဖွာ, 2, *v.* to puff out of the mouth, မှုတ်သည်; ဆေးလိပ်တဖွာ, a whiff of a cheroot; ဆေးလိပ်တဖွာသောက်ပါရစေ, let me smoke a whiff of your cheroot, please; သူခိုးကိုဆေးလိပ်မီးနှင့်ဖွာ၍ကြည့်သည်, he puffed at his cheroot, and with the light of it, looked at the thief.
ဖွား, 1, *see* သွား, *v.* to bear, bring forth.
ဖွား, 2, *v.* to be loose, not compact, မကျစ်မလစ်; to be profuse, lavish, prodigal, အသုံးဖွားသည်; *comp.* ထက်ကြီး; to have shaggy hair, as a dog, or other animal, အမွေးဖွားသည်။
ဖွားလျား, *v.* same; ခင်ဘျားအဝတ်အစားအလွန်ဖွားလျားသည်။
ဖွား, 3, *see* သွား, *v.* to happen all at once; as in suddenly and repeatedly rising from under water.
ဖွားဖေ, *see* သွားဖေ, *n.* a grandmother, အသွား (*more elegant*).
ဖွားတက် (ပင်), *n.* a kind of tree. The bark of this tree is used medicinally with the bark of the သက်ရင်းကြီး, and is said to be efficacious in cases of တူလာ။
ဖွိုက်မ, *n.* a species of *Calamus*.
ဖွီ, *int.* expressive of dislike, disgust; pish! *see* ထွီ, and ဖွယ်။
ဖွေ, *v.* to seek, search for, ရှာ, ဖွေရှာ, ရှာဖွေ။
ဖွေး, *v.* to be very white; *used in adverbial forms as an intensive*; ဖြူလိုက်သည်မှာဖွေးသို့။
ဖွဲ, 1, *n.* the husks or chaff of grain, စက်ဖွဲ, နေသွေ့ဖွဲ, လှော်ဖွဲ။
ဖွဲကြမ်း (*pron.* ဖြမ်း), *n.* the coarser part of the husks of grain, which is rubbed off in the mill.

ဖွဲ့နု, *n.* the finer part which is separated from the grain by pounding, shaking, etc., bran.

ဖွဲ, 2, *v.* to be small, fine; implying many particles, နုပ်; *comp.* သေး; *seldom used assertively*, မိုးဖွဲဖွဲရွာသည်, to drizzle; *less than* ဖြောက်ဖြောက်ရွာသည်; ဖွဲ့နှင့်ပက်သလိုတဲ့; this is an expression used with reference to the swarming manner in which mosquitoes and sand flies attack a person. *Der.* အဖွဲ; *see* အသေးအဖွဲ။

ဖွဲပေါင်း, *n.* the Tavoy name for hog plum.

ဖွဲ့, *v.* to bind together, ချည်, နှောင်, စည်း; to connect by some bond of union; to unite, connect, weave together, ပေါင်းရုက်; to string together, one after another, ဆက်, စီ; to connect in verse or song, or in continuous discourse, ဖွဲ့ဆို; to compose poetry, ကဗျာလင်္ကာ များကိုဖွဲ့သည်။

ဖွဲ့ကြိုး, *n.* a harness.

ဖွဲ့ချီး, *v.* to extol in song.

ဖွဲ့စည်း, *v.* to bind together.

ဖွဲ့တုပ်, *v.* to tie together, as the hands and feet.

ဖွဲ့နွဲ့, *v.* to connect in verse or song, or in continuous discourse, စီကုံး ဖွဲ့နွဲ့သည်, သီပေါရှင်ဘုရင်ဖွဲ့နွဲ့၍တေးစပ်သည်။

ဖွဲ့နှောင်, *v.* to connect by some bond of union (နှောင်ဖွဲ့ *more common*).

ဖွဲ့သက်, *v.* to associate (in numbers), ဖွဲ့သက်၍လုပ်သည်; *n.* one of a number given in dowry, on the marriage of a prince, ဖွဲ့သက်ကျွန်, လက်ဖွဲ့တော်ကျွန်; *see* လက်ဖွဲ့။

ဖွဲ့ရုက်, *v. see the parts*; ဖွဲ့ရုက်၍ရောင်း, to sell in partnership with others; လက်ချင်းဖွဲ့ရုက်, to cross the arms. It is considered very disrespectful to sit before an official with the arms crossed; လက် အာရောကပတ်ဖွဲ့သည်, *a term used in writings only.*

†ဖွဲ့မြွ (ပုဆိုး), *n.* the white waistcloth worn by the King, as a badge of royalty; ဖွဲ့မြွလက်နက်ဖြင့်နိုင်သည်, a Burmese euphemism for buying off an enemy.

## ဗ

ဗ, the twenty-third consonant in the Burmese alphabet, and the third in the class of labials.

ဗမိဗလျှန်, *adv.* incorrectly, roughly; ဗရမ်ဗရလျှန်, in a slovenly manner.

ဗတောဗမိုက် (*pron.* ဗဒေါဗယိုက်), *adv.* headlong, hitting here and there without purpose, ဗတောဗမိုက်နှင့်ထွက်ပြေးလာရသည်; ကတိုက်ကမိုက်။

ဗန်, *n.* a plant, the stems of which produce a substance similar to hemp, the *Crotalaria juncea.*
ဗန်ချည် (ကြိုး), *n.* a string slightly twisted; pack thread.
ဗန္ဒတ် (ကျွန်း), *n.* the Bandat (Cocoanut Island).
ဗန္ဒတ်အုန်းသီး, *n.* the Bandat cocoanut; smaller than the common kind.
ဗန္ဒတ်ခွေး, *n.* a small mongrel breed of dogs; from this is derived the figurative expression ဗန္ဒတ်, which is the equivalent of the word ကပြား, and is applied to persons of mixed races.
†ဗန္ဒတ်သလို (*pron.* ဗန်တတ်), *adv.* luckily, in the way of a lucky hit; opportunely, အခန့်သင့်, အရှိသင့်, ခင်ဗျားကျွန်တော်နှင့်ရန်ကုန်မြို့မှာဗန္ဒတ်သလိုဘဲတွေ့ကြသည်; said to be derived from a kind of carpenter's tool.
ဗန္ဒုလိဗန္ဒုလာ, *adv.* deceitfully, falsely; *see* ပလိမ်ပလိစ်; *not used in colloq.*
ဗန္ဓုလ, *n.* the famous Burmese Commander-in-chief in the first Anglo-Burmese war, killed at Danubyu by the bursting of a shell; original name Maung Yit, native of Ngapayin, Lower Chindwin.
ဗန်းမော် (ပင်), *n.* a kind of tree, the wood of which is used for making *da* scabbards, cooking ladles, and boat paddles.
ဗန်းမော်မြို့, *n.* Bhamo, a city north of Mandalay.
ဗရမ်းတ်ဗရဖွာ (*pron. by some* ဗရမ်းတ်ဗလဖွာ), *adv.* in atoms, ဗရမ်းတ်ဗရဖွာကွဲသွားသည်။
ဗရမ်းန်း (*pron.* မိန်း), *adv.* throughout, all over, မြက်တောဗရမိန်းထူသည်, ဝှုိးအသားဗရမိန်းထူသည်; ဥာဏ်ဗရမိန်း, a blockhead; သနပ်ခါးဗရမိန်းလိမ်းသည်။
ဗရပြစ် (*pron.* ဖျစ်), *adv.* crowdedly, မန္တလေးမြို့မှာကျွတ်များဗရပြစ်ခတ်နေရော့သည်၊ခြေချစရာမရှိပါ, ရုံ့မှာလည်းဗရပြစ်ထူလို့သွားစရာမှမရှိဘူး။
ဗရပွေ (*pron.* ဖွေ), *adv.* confusedly, ခင်ဗျားတို့အမှုဗရပွေရှုပ်ထွေးသည်, ချည်ခင်အသိုအထားမတတ်လို့ဗရပွေရှုပ်ထွေးသည်, သည်ပွဲမှာလူများဗရပွေရှုပ်ထွေးသည်။သတိထားကြပါ။
ဗရဖွာစောင်ရင်း, *adv.* in a violent, noisy manner, ဗရဖွာစောင်ရင်းဆဲဆိုကြလို့၊နားမထောင်ဝံ့အောင်ဖြစ်သည်; ဗရဖွ။
ဗရမ်းဗတာခွဲ, *v.* to break in pieces; *comp.* ပရမ်းပတာ။
ဗရုတ်, *adv.* in a silly, inane manner, သည်လူဗရုတ်စကားပြောသည်။
ဗရုန်းဗရင်း, *adv.* in disorder, မြို့ရွာဗရုန်းဗရင်းဖြစ်နေကြသည်။
ဗရုန်းသုံးကား, *adv.* same as ဗရုန်းဗရင်း။
ဗရောက်ဗရက်. *see* ဗယောက်ဗယက်, *adv.* from ယောက်ယက်, in a restless, meddlesome, disorderly manner. as children.

ဗလ (Pali), *n.* strength, ခွန်အား, ဗလခွန်အား; ကာယဗလ, strength of body; ဉာဏ်ဗလ, strength of intellect; ဗလခွန်အားကြီး, ဗလခွန်အား အလွန်သေးငယ်။

ဗလက္ကာရ, *adv.* in the way of open violence and robbery; usually preceded by အတင်း, အတင်းဗလက္ကာရပြုကျင့်သည့်, ကျွန်တော်မကိုငြေသည့် အတင်းဗလက္ကာရပြုကျင့်သည့်များကိုခံနေရပါသည်။

ဗလာဝါမုခ (Pali), *n.* a violent whirlpool, ဗလာဝါမုခဝဲကြီး. "Buddhists believe that it is situated just above the infernal regions, and that as ebullition in a rice cooking-pot is caused by the heat of the fire underneath it, so the boiling over, as it were, of this whirlpool, (thereby causing tides) is due to the heat of hell-fire below." T.K.

ဗလိဗောဓ (Pali), *n.* business; difficulty; *combined with* များ, *equivalent to* အမှုများ, လုပ်ဆောင်ရန်ကိစ္စ; chiefly used by *pongyis*, ဗလိဗော ဓအလွန်များသည်၊စာကောင်းကောင်းမချရဘူး။

ဗလိမ်းဗလုံ (from လိမ်းလုံ), *adv.* confusedly, in a manner tending to puzzle and confound; *always used in a bad sense*, လူမိုးနှင့်မင်းဗလိမ်း ဗလုံပြုနေကြသည်။

ဗလီ, 1 (Eng.), *n.* a playing ball.

ဗလီကစား, *v.* to play at ball; to play cricket, lawn tennis, or any game in which a ball is struck, ဗလီရိုက်ကစား; မြင်းဗလီကစား, to play polo, မြင်းဗလီရိုက်။

ဗလီတံ (*pron.* ဒံ), *n.* a stick used in playing baseball, cricket, etc., a bat.

ဗလီတောင်, *n.* a shuttlecock.

ဗလီရိုက်ခွက်, *n.* a battledoor; a racket, a network bat, used in tennis.

ဗလီလုံး, *n.* any ball used in play.

ဗလီ, 2, *n.* a mosque, a Mohammedan place of worship, ဗလီတိုက်, ဗလီရုံ။

ဗလီဆရာ, *n.* a Moolah or Mohammedan priest.

ဗလီတိုက်မျှော်စင်, *n.* a minaret, ဝသီကျောင်းမျှော်စင်။

ဗလုံ, *n.* a bubble while rising in water; *comp.* ရေပေါင်း။

ဗလုံစီထ, ဗလုံထ, ဗလုံထိုး, *v.* to rise in bubbles.

ဗလုံစီစီထ, *v.* same as ဗလုံစီထ, ရေဗလုံစီစီထသည်။

ဗလုံဆူထ, *v.* to be disturbed in mind, be in mental commotion, သည် စကားကြားရလျှင်၊စိတ်ထဲကဗလုံဆူထသည်။

ဗလုံးဗထွေး (from လုံးထွေး), *adv.* confusedly, mixed together; usually applied to language, မင်းစကားပြောသည်မှာ၊ဗလုံးဗထွေးနှင့်ပြောသည်။

ဗလေဗစာ, ဗလေဗလွှင့်, *adv.* idly, of no use; applied to language; applied to conduct, vagrantly; ဗလေဗစာအကျိုးမရှိသည့်စကားမပြောပါနှင့်, အလကားဗလေဗစာသွားနေသည်၊ထာမျှအကျိုးမရှိ။

ဗလောဗလောစကား, *n.* idle gossip.

ဗလောဗလွှင်စကား, *n.* tittle-tattle, စကားဖျင်း။

ဗလောင် (*not used alone*).

ဗလောင်ခွေ, ဗလောင်ဝှေ, *v.* to be in a confused, tumultuous state; *adv.* veeringly, as the wind, လေဗလောင်ဝှေလာသဖြင့်၊မီးထဲပါသွားသည်; တက်မကိုင်သတိထားကိုင်၊ရေဗလောင်ဝှေမိနေသည်။

ဗလောင်ဆန်, *v.* same, attended with noise; *not used assertively.*

ဗလောင်းဗလဲ (from လောင်း, to pour, and လဲ, to change), *adv.* changingly, unsteadily; putting one thing for another; ဗလောင်းဗလဲနှင့်သည်။

ဗဝက် (from ဗဟို, and ဝက်), *n.* a half, one half, အထက်ဗဝက်အောက်အဝိစိရှိသမျှသတ္တဝါအပေါင်းတို့အားအမျှဝေပါ၏; ဗဝက်ခွဲသည်, to divide into two equal parts; ငွေတထောင်ဗဝက်ခွဲလျှင်၊ငါးရာစီရသည်။

ဗဝါနုတ် (ပင်), *n.* a species of *Gendarussa*, sometimes planted for borders in gardens.

ဗတာန်း, *n.* pyrite.

ဗတာန်းကျောက်, *n.* sulphuret of iron.

ဗတာန်းကြက်ချေး, *n.* iron pyrites.

ဗတာန်းနီ, *n.* magnetic pyrites, pyrrhotite.

ဗတာန်းရွှေဝါ, *n.* yellow pyrites, fool's gold.

ဗဟု (Pali), *a.* many, အများ။

ဗဟုမိုက်, *a corruption of* ဂရုမိုက်, *v.* to treat with deference, respect; to regard as weighty.

ဗဟုဝုစ် (Pali ဝစနံ, word), *n.* the plural number: *a.* uncertain, indefinite, indeterminate, ဗဟုဝုစ်စကားမပြောပါနှင့်၊ဧကဝုစ်ပြောပါ။

ဗဟုသုတ, *n.* much knowledge, experience, သည်ဆရာကြီးဗဟုသုတများသည်, အကြားအမြင်ပညာဗဟုသုတများသည်။

ဗဟို, *n.* centre, ချက်မ, အလယ်ချက်မ။

ဗဟိုကျ, *v.* to be in the centre, to be central.

ဗဟိုစင်, *see* ပဟိုရ်စင်, *n.* the frame on which the ပဟိုရ်စည် was placed.

ဗဟိုစည်, *see* ပဟိုရ်စည်, *n.* the great drum of the palace at Mandalay.

ဗာတန် (ပင်), or ဗာတံ, *n.* almond, ဗာတန်သီး; this name is also applied to the "country almond," the *Terminalia catappa*,

ဗာလ (Pali), *n.* a fool, လူမိုက်, လူဗာလ; မင်္ဂလာသုတ်၊ ဗာလနံပုဒ်, Mingala Sutra, the verse regarding foolish persons.

ဗာလည်ထွေ, *n.* a kind of military accoutrement, worn round the shoulders.

ဗာဟိရ (Pali, အပြင်), *a.* outer, on the outside; foreign, irrelevant, အပြင်စကား။

ဗာဟိရဂြိုဟ်, *n.* the planet Herschel or Uranus.
ဗာဟိရစကား, *n.* language irrelevant to the subject under discussion.
ဗာဟိရဝီဇိ, *n.* the outer path of the sun.
ဗာဟိရာယတန, *n.* an object of one of the six senses; *see under* အာယတန။
ဗီဇ (Pali), *n.* the private parts, male or female, အင်္ဂါဇာတ်; the testicles in a male, ပုရိသဗီဇ; the ovary in a female, ဣတ္ထိဗီဇ။
ဗိတ်, *adv.* at all, ဗြဲဗြဲ, အလျှင်း; *used in negative sentences*, as ဗိတ်မသိ, he knows nothing at all (about the matter).
ဗိတ်ကွယ် (*a corruption of* ဗိတ်ကွယ်), *v.* to deny a charge, *in toto*, အသိသားနှင့်ဗိတ်ကွယ်သည်။
ဗိန္ဒု, *n.* the small circle, သေးသေးတင် (°), နိဂ္ဂဟိတ်; a dot; said to be derived from the legend of the ဗိန္ဒုသာရမင်း။
ဗိန်း (from ဗိန်း, to be continuous), *a.* continuous; *adv.* wholly.
ဗိန်းကွပ်, *v.* to plate, overlay with plate.
ဗိန်းကွယ်, *v.* to deny (a charge) constantly.
ဗိန်းပြကိုယ်ရောင် (*pron.* ဗိန်းပြ), *n.* a swelling of the whole body.
ဗိမာန် (*pron.* ဗိတ်မှန်) (Pali ဗိမာနော), *n.* a house, mansion; a temple, a building devoted to worship; the abode of a Brahma, a *nat*, a sylvan deity or dryad; the chamber of the sun and moon, နေဗိမာန်, လဗိမာန်; ဘုန်းကြီးနေသည့်ဗိမာန်, ဗိဟာရ; လူနေသည့်ဗိမာန်, အိမ်။
ဗိမာန်တော်မှူး, *n.* a captain of the temple.
ဗိသုကာ (*pron.* ဗိဿုကာ) (Pali), *n.* a master workman, chief artist, architect, ဗိသုကာဆရာ; ဗိသုကာလက်သမား, a master carpenter.
ဗီဇဂံ (Pali ဗီဇ, a seed), *a.* produced from seed sown; *comp.* တူတာဂံ; ဗီဇနိယာမမျိုးစေ့မြေသို့ကျလျှင်၊အလိုအလျောက်ပေါက်သည်။
ဗီဇနာ, *n.* a measure of time equal to six *pyans* (ပြန်).
ဗုကြိုး (ပင်), *n.* the fragrant *Clerodendron.*
ဗုကြိုးနီ, *n.* the scarlet variety of the ဗုကြိုး။
ဗုတ်, *see* ဘုတ်, *n.* the crow pheasant; the coucal.
ဗုတ်မွေးရောင် (ဘုတ်), *n.* the color of the crow pheasant.
ဗုတ်မွဲစာ, *n.* the *Kydia calycina*, the saplings of which are very strong and pliant.
ဗုဒ္ဓ (Pali), *n.* a Buddh, a being who (according to the Buddhist Scriptures) for wisdom and virtue is unrivalled throughout the *sekya* system, and is the supreme object of veneration, both during his existence, and after his annihilation, until the appearance of another Buddh; သဗ္ဗာသော်ပါးကိုသိတော်မူသောသူ (105).

ဗုဒ္ဓဂယာ, *n.* Buddha Gaya, a locality in Magadha (Behar, India), famous for its *Ficus religiosa*, under which Gautama, the Buddh, was perfected.

ဗုဒ္ဓဂိုဏ်းသင့်, *v.* to be guilty of irreverence to a Buddh.

ဗုဒ္ဓဃောသ, *n.* a celebrated Brahmin who transcribed the Buddhist Scriptures into Talaing, from which they were ultimately transcribed into Burmese (106).

ဗုဒ္ဓရက္ခိတ, *n.* one who observes and maintains the teachings and doctrines of a Buddh.

ဗုဒ္ဓဝင်, *n.* a history of the Buddhs.

ဗုဒ္ဓဝစန, *n.* words uttered by a Buddh, ဘုရားစကားတော်။

ဗုဒ္ဓသရကာ (ပင်), *n.* the *Canna Indica*, Indian shot, of which there are many varieties; rosary beads are made of the seeds of this plant.

ဗုဒ္ဓဟူး, *n.* the planet Mercury; the fourth day of the week, Wednesday, ဗုဒ္ဓဟူးနေ့, ဂဟူး; ဗုဒ္ဓဟူးသား၊ဗုဒ္ဓဟူးသမီး, a male or female child born on a Wednesday.

ဗုဒ္ဓဟူးဆန်း, *v.* to begin (as a month) on Wednesday.

ဗုဒ္ဓေါ, *int.* made use of by Burmese when surprised, or startled.

ဗုံဗိုင်, 1, *n.* a pump; ဗုံဗိုင်ထိုး, to raise water by means of a pump.

ဗုံဗိုင်မောင်းလက်, *n.* a pump handle.

ဗုံဗိုင်, 2, *n.* a coarse woollen cloth.

ဗုံဗိုင် (မြို့), 3, *n.* the city of Bombay.

ဗုံဗိုင်ကွမ်းသီး, *n.* betel nut imported from Bombay.

ဗုံဗိုင်ပုဆိုး, *n.* a kind of *pukso* made at Surat, Bombay Presidency.

ဗုံဗိုင်သားရေ, *n.* a kind of leather.

ဗုံလုံ (ပင်), 1, *n.* a tree, the fruit of which is cooked with curry.

ဗုံလုံ, 2, *n.* a fish trap.

ဗုံလုံ (ပင်), 3, *n.* a kind of creeper with a very pretty white flower.

ဗုံး (Eng.), *n.* a mortar.

ဗုံးဆန်, *n.* a bombshell; an infernal machine.

ဗုံးသား, *n.* a bombardier.

†ဗုံးခနဲ, *adv.* with a dull, heavy thud, ဖိုင်ဗုံးခနဲမြည်သည်, ထန်းပင်ကြီး ဗုံးခနဲလဲသည်။

ဗေ, *n.* an induration in the viscera, in consequence of fever, ဗေလုံး. The leaf of the ပိုးစာပင် (mulberry tree), eaten with curry, is said to be beneficial in reducing such indurations.

ဗေကာင်, ဗေစွဲ, ဗေထ, *v.* to have such an induration.

ဗေကျ, *v.* to be reduced in size or to subside, as such induration.

ဗေကြီး: have enlarged spleen (KKG) [takes ဗေ = spleen, but cp. above and 1018 [illegible]. KKG is unfamiliar with combinations of ဗေ here]

ဗေဒင် (Pali ဝေဒေါ), *n.* the Vedas, in three books, *viz.*, သာမ (Saman), ယဂု (Rig), and ယဇုဗ္ဗ (Yajur); a fourth, အာထဗ္ဗန် (Atharva) was lost, အာထဗ္ဗနဗေဒင်ကွယ်သည်. According to some Burmese authorities, this book was burned, as containing knowledge which would have been too dangerous for human beings to possess, such as a knowledge of the exact time of any person's death, and of many other things not now revealed to man. Buddhists are of the opinion that had this book not been destroyed, Buddhism could not have existed; mathematics (107).

ဗေဒင်ကျမ်း, *n.* the collective books of the Vedas.

ဗေဒင်ကြည့်, *v.* to observe a horoscope, as an astrologer.

ဗေဒင်ဆရာ, *n.* an astrologer, a fortune teller.

ဗေဒင်တွက်, *v.* to make astrological calculations, to cast a horoscope; ကြောင်ဗေဒင်တွက်, to claw the posts or walls of a house, a bedstead, curtain, etc., in a rampant position, as a cat.

ဗေဒင်မေး, *v.* to ask concerning one's horoscope.

ဗေဒင်မှန်, *v.* to be correctly cast, as a horoscope.

ဗေဒင်ဟော, *v.* to declare a horoscope.

ဗောက် (ပင်), 1, *n.* a kind of plant, generally found on cultivated land after the paddy has been cut, and when the ground is dry; said to derive its name from the fact that its seed makes a crackling sound when pressed between the fingers, ဗောက်ဗောက်နှင့်မြည်သည်။

ဗောက်, 2, *n.* dandruff, ဗောက်ကျသည်, ခေါင်းမှာဗောက်ကျလို့ဆံပင်ကျွတ်ကုန်ပြီ; ဖေါက်ဖေါက်။

ဗောက်သတ်, *v.* to free human hair from dandruff.

†ဗောက်ခနဲ (from ဖေါက်, to come through or out), *adv.* of a sudden, with a jerk, မီးဆိုးဗောက်ခနဲကွဲသည်။

ဗောက်မြိတ်, *n.* a kind of official cap, ဗောက်မြိတ်ဆောင်းသည်။

ဗောက်ခွေး (ပင်), *n.* a kind of tree, also called by Burmese doctors, ငမြွေကြီးပင်, and မရိုးပင်။

ဗောက်လောက် (ပင်), *n.* a kind of tree.

ဗောက်ဝါး, *n.* a kind of bamboo.

†ဗောက်ဆီးဗောက်ဆတ်, *adv.* up and down; applied to the gait in walking, လူဗောက်ဆီးဗောက်ဆတ်သွားသည်, မြင်းဗောက်ဆီးဗောက်ဆတ်သွားသည်။

ဗောက်ဗက်, *a.* or *adv.* dashing from side to side, as water; swaying from side to side, rolling about, unsteady; reckless, inconsiderate; ရေမပြည့်သောအိုးဗောက်ဗက်ခတ်သည်; စိတ်ဗောက်ဗက်ခတ်တတ်သည်။

ဗောက်မီးဗောက်ဗက်, *adv.* same as ဗောက်ဗက်။

ဗောင်ခနဲ, *adv.* indicative of the noise which it imitates, လက်ဝံပင် ဗောင်ခနဲလဲသည်။

ဗောင်ထုပ် (*pron.* ဒုတ်), *n.* a kind of bird, the water cock. The ဗောင် ထုပ် frequents paddy fields before the paddy is reaped.

ဗောင်ဗောင်, *adv.* indicative of the noise which it imitates, လူဆိုးများသူ ခိုးပူသည့်အခါ၊တံ့းကိုဗောင်ဗောင်ဗောင်ဗောင်ခေါက်တတ်သည်။

ဗောင်း, *n.* a kind of cap, a badge of rank, မင်းသား မှူးမတ်များဆောင်း သည့်ဗောင်း; ဗောင်းဆင်, to wear such a cap.

ဗောင်းစောက်, *n.* same; *a.* oblong; applied to fruit which, though usually round, is sometimes oblong, သည်ရှူးရည်းသီးအဝိုင်းမဟုတ်ပါ၊ ဗောင်းစောက်ဘဲ; usually applied to the fruit of the ဆီး, ထန်း, ရှူး ရည်း, ဗံ့နဲ, but more particularly to the fruit of the သီး, as there are two kinds, one which bears a round, and the other an oblong, fruit, သီးဗောင်းစောက်။

ဗောင်းလန်, *v.* to be more than full, heaping, ready to run over, မိုးသည်းကြီးစွာ ရွာသောကြောင့်၊ ကန်သင်းရေ ဗောင်းလန်နေသည်, ကျီထဲမှာစပါး ဗောင်းလန်နေသည်, ပုကန်ထဲမှာဟင်းဗောင်းလန်နေသည်။

ဗောဓိ (ပင်), *n.* the species of tree under which a Buddh is perfected; in the case of Gautama, the *Ficus religiosa*, ညောင်ဗုဒ္ဓဟေ (108).

ဗောဓိသတ် (Pali ဗောဓိသတ္တော), *n.* a Bodhisat, a being who will in due course become a Buddh (ဘုရားလောင်း) (109).

ဗော်ကျော့ (from အပေါ်, and ကျော့), *adv.* in a vain, idle, affectedly polite manner; *comp.* တလလ; ထမ်းရှောက်ဗောက်ကျော့နေချင်သည်၊ ဘာမှ မလုပ်ချင်ဘူး။

ဗော်ရာ (Eng.), *n.* a buoy, ဗေါ့, ဗော်ရာအရှေ့ဘက်သို့ရုပ်ပါ၊အနောက်ဘက်သို့ ရုပ်လျှင်သောင်တင်လိမ့်မည်, steam to the east of the buoy; if you steam to the west of it you will run on the sandbank.

ဗော်လုံး, *n.* a ball for playing cricket, football, etc.

ဗော်လုံးကန်, *v.* to kick a football.

ဗိုင်း, *n.* cotton made up in rolls for spinning.

ဗိုင်းငင်, *v.* to spin cotton, ဗိုင်းရက်ကန်းရှိသည့်မိန်းမလူကြိုက်များသည်။

ဗိုင်းတောင့်, *n.* same as ဗိုင်း; a kind of tree.

ဗိုင်းလိမ်တံ, *n.* the stick on which ဗိုင်း is made; a kind of tree.

ဗိုင်းဝင့်, *v.* to spin cotton, ဗိုင်းငင်။

†ဗိုင်းတာ, 1, *n.* a kind of bird, which is considered unlucky.

ဗိုင်းတာ, 2, *n.* a light, wanton woman; used as an appellative of reproach.

ဗိုင်းတာမ, *n.* same, a term of reproach.

ဗိုလ်, 1 (Pali ဗလ), *n.* force, military force, soldiers, troops, စစ်သူရဲ; a commander of a regiment, colonel; a military officer.
ဗိုလ်ကတော်, *n.* the wife of a military officer; *in a secondary sense*, the mistress of a European.
ဗိုလ်ကတော်ကျ, *n.* a semi-contemptuous term applied to the cast-off mistress of a European.
ဗိုလ်ကြီး, ဗိုလ်ချုပ်, ဗိုလ်မှူး, *n.* a general, commander-in-chief. ဗိုလ်ချုပ်ပေါင်
ဗိုလ်ခြေ, ဗိုလ်ပါ, *n.* military forces, troops, စစ်သည်ဗိုလ်ပါ။
ဗိုလ်စားငှက်, *n.* the snipe.
ဗိုလ်စားပဲ, *n.* French peas.
ဗိုလ်တဲ, *n.* a marquee; a *dak* bungalow. /bo-de/
ဗိုလ်ထု, ဗိုလ်ထုဗိုလ်ထင်, ဗိုလ်ထုဗိုလ်ထ, *n.* same as ဗိုလ်ပါ။
ဗိုလ်ထောက်, *n.* a subaltern. စစ်ဗိုလ်ကလေး။
ဗိုလ်မှူးဝန်ကြီး, *n.* the Minister of War.
ဗိုလ်ရှုခံ, *v. lit.* to receive the gaze of the military officers. "In the afternoon there is another informal audience termed ဗိုလ်ရှုခံ, because military officers are then admitted with the *Adwin Wuns* to see the King." *Pilcher*.
ဗိုလ်, 2, *n.* rules in astrology, of which there are six, as ဗိုလ်တွက်, ဗိုလ်ပြေး, ဗိုလ်လကိုး။
ဗျဂ္ဃစရိယာပြု, or ဗျဂ္ဃစာပြု (Pali ဗျဂ္ဃ, a tiger, and စရိယာ, a deed, practice), *v.* to retrograde, as the heavenly bodies; *comp.* သိဟစာပြု။
ဗျစ်ထူကြီး, *see* ပြစ်ထူကြီး, *a.* stupid, thick-headed; very thick and coarse, as cloth.
ဗျည်စင်, *see* ပြည့်စင်, *n.* a low tree, bearing a red, sour fruit.
ဗျည်း (Pali ဗျဉ္ဇန), *n.* a consonant, ဗျည်းသုံးဆယ်သုံး။
ဗျည်းဥဘတော, *n.* a kind of hermaphrodite.
ဗျပ်, 1, *n.* a flat, wooden dish, platter, tray, trencher.
ဗျပ်ခွက်, *n.* a wooden bowl, တောင်သူလယ်လုပ်များပုကန်နှင့်မစား၊ဗျပ်ခွက်နှင့်ထည့်စားသည်။
ဗျပ်ထိုးရောင်း, *v.* to expose edibles (chiefly fish and vegetables) for sale on a tray.
ဗျပ်, 2, *n.* a flat piece of bamboo used for throwing small stones, ဗျပ်နှင့်ပစ်သည်။
ဗျာဒိတ် (Pali ပါဋိဟာ), *n.* a divine communication of any kind; frequently a prophetical intimation; by courtesy applied to kings, as in replying to a king it is customary to say, ဗျာဒိတ်တော်မြတ်အထိုင်းပါဘုရား။

ဗျာဒိတ်ခံ, *v.* to crave a divine communication of a Buddh, as to the time when the suppliant himself (a Bodhisat) shall become a Buddh.
ဗျာဒိတ်ထား, *v.* to utter a divine communication.
ဗျာဒိတ်ပေး, *v.* to give utterance to a divine, prophetical intimation, ဘုရားတော်ကြီးမင်္ဂလာလေးမြို့တည်ရာကိုဗျာဒိတ်ပေးတော်မူသည်။
ဗျာဒိတ်ပြ, *v.* to make a display of any divine or kingly attribute.
ဗျာဒိတ်ရ, *v.* to receive a divine communication from a Buddh, as a Bodhisat, intimating the time when the latter will become a Buddh; to receive any divine communication.
ဗျာပါ (Pali ဗျာပါရ), *n.* anxiety, trouble, စိုးရိမ်ခြင်း, စိတ်ပူပန်ခြင်း, ဗျာပါ ရများသည်, စိုးရိမ်သောကဗျာပါရ, ကြောင့်ကြဗျာပါရ, ကျွန်တော်စိတ်ထဲမှာ ဗျာပါအလွန်ကြီးသည်, ဗျာပါမကင်းကိုယ်တွင်းမသက်သာ။
ဗျာပါဆံ (*pron.* ဗံ), *n.* forelocks worn by young women; sometimes called လင်ခေါ်ဆံ။
ဗျာပါဆံချ, *v.* to wear forelocks or curls, ဗျာပါဆံပါးရိတ်ချ။
ဗျာပါဆံဝေ, *v.* same; to distribute such curls over the back of the head.
ဗျာပါမိုး, *n.* same as ဗျာပါ, သောကမိုး, ဗျာပါမိုးလောင်, ပရိဒေဝမိုးလောင်သည်။
ဗျာပါသောက, *n.* worry and anxiety.
ဗျာလောင်, *adv.* hurriedly, confusedly; anxiously, in a sad, distressed, perplexed manner; ဗျာလောင်အောင်ပူပန်သည်, နှလုံးသည်းအူဗျာလောင်ဆူ အောင်၊အလွန်ပူပန်လှချေသည်။
ဗျာလှိုင်, *adv.* same, သောကဗျာလှိုင်အောင်ပူပန်သည်။
ဗျူဟာ, *n.* a book on military tactics, သေနင်္ဂဗျူဟာကျမ်း, ပဒုမဗျူဟာ။
ဗျူး (ပင်), *n.* a kind of tree growing to the height of forty feet, bearing yellow flowers four inches in diameter.
ဗျော, *see* ပြော, *n.* a kind of drum used at a ရှင်ပြုပွဲ, and at funerals.
ဗျောက်အိုး, *see* ပြောက်အိုး, *n.* a cracker, squib, မီးအိုး။
ဗျောက်ခနဲမြည်, *see* ပြောက်ခနဲမြည်, *v.* to crack, emit a sharp, sudden sound.
ဗျောက်ဆန်း, *see* ပြောက်ဆန်း, *adv.* with confused sounds, in confusion.
ဗျောက်တန်း, *see* ပြောက်တန်း, *n.* a squib so prepared as to make a succession of reports.
ဗျောက်ဗျောက်, *see* ပြောက်ပြောက်, *adv.* cracklingly.
ဗျောင်းဆန်, *adv.* tumultuously, ပရုန်းပရင်း။
ဗျောင်းဗျောင်း, *adv.* indicative of the sound which it imitates, ဗျောင်း ဗျောင်းမြည်၍ရွာသည်။
ဗျိုင်း, *see* ဥဗျိုင်း, *n.* the pond heron.

မျှိုင်းဘောက်, *n.* the brown paddy bird.
မျှိုင်းတောင်, *n.* a kind of drum, chiefly used at the funerals of persons of rank.
မျှိုင်းနှံ, *n.* a kind of speckled heron, မျှိုင်းနက်, မျှိုင်းနီ (Pali ပလာက).
မျှိုင်းဖြူ, *n.* the white heron or paddy bird.
မြက်, *see* ပြက်, *n.* breadth, width; applied to hard surfaces.
မြတ်မြတ်, *adv.* indicative of the sounds which it imitates, ဘိနပ်မြတ်မြတ်မြတ်မြတ်နှင့်မြည်သည်။
မြန္ဒီ (Eng.), *n.* brandy.
ဗြဟ္မစရိယ, ဗြဟ္မဝိုရတရား (Pali ဗြဟ္မ, excellent, and စရ, to perform), *n.* a cardinal virtue, of which there are four kinds, *viz.*, မေတ္တာ, kindly affection; ကရုဏာ, kindly regard; မုဒိတာ, benevolence; ဥပေက္ခာ, freedom from all kinds of desire (110).
ဗြဟ္မဏာ, *n.* a Brahmin, ပုဏ္ဏား။
ဗြဟ္မဝိဟာရ, *n.* same as ဗြဟ္မစရိယ။
ဗြဟ္မာ (Pali), *n.* a Brahma, a being superior to men and *nats*, inhabiting the higher celestial regions (ဗြဟ္မာလောက) (111).
ဗြဟ္မာပြည် or ဘုံ, *n.* the abode of Brahmas, the superior celestial regions, of which there are twenty stages or stories (*comp.* နတ်ပြည်), sixteen of which are material (ရူပဘုံ), and four are immaterial or invisible (အရူပဘုံ); they are named as follows; ဗြဟ္မပါရိသဇ္ဇာ, ဗြဟ္မပုရောဟိတာ, မဟာဗြဟ္မာ, ပရိတ္တာဘာ, အပ္ပမာဏာဘာ, အာဘဿရာဘာ, ပရိတ္တသုဘာ, အပ္ပမာဏသုဘာ, သုဘကိဏ္ဏ, ဝေဟပ္ဖိုလ်, အသညသတ်, အဝိဟာ, အတပ္ပာ (or အာတပ္ပာ), သုဒဿာ, သုဒဿီ, အကနိဋ္ဌာ (or အကဏိဋ္ဌာ), အာကာသာနဉ္စာယတန, ဝိညာဏဉ္စာယတန, အာကိဉ္စညာယတန, and နေဝသညာနာသညာယတန (112).
ပြား (*from* ပြား, to be flat), *adv.* flatwise, ပြားလိုက်; ပြား (or ပြားလိုက်) ခင်း, ပြား (or ပြားလိုက်) ခီ, to pave with bricks flatwise.
ပြားခတ်, *v. see the parts*; ရွှေပြားခတ်, to beat out gold leaf.
ပြားစီး (from ပြား, to be flat, and စီး, to flow), *adv.* spreadingly, overwhelmingly; irregularly, here a little and there a little, like a crazy person's talk, စကားပြားစီးမပြောပါနှင့်။
ပြားမင်းညီနောင်, *adv.* same as ပြားစီး။
ပြားရိုက်, *v. see the parts*, ပြားပြားရိုက်သွားသည်။
ပြားလိုက်ထား, *v.* to place flatwise.
ဗြိစ္ဆာ (Pali, a scorpion), *n.* Scorpio, the eighth sign of the zodiac, ဗြိစ္ဆာရာသီ, ဗြိစ္ဆာခွင်, ဗြိစ္ဆာစနီး, ဗြိစ္ဆာရာသီနှင့်ယှဉ်သောတန်ဆောင်မုန်းလ။
မြုန်းခွေး, *n.* a kind of grass, မြုန်းခွေးမြက်။

the three grand divisions of the Buddhist Scriptures (သုတ်) is sometimes divided, မဇ္ဈိမပဏ္ဏာသ။

**မဇ္ဈိမအရွယ်**, *n.* middle age; ပဌမအရွယ်, from infancy to middle age; မဇ္ဈိမအရွယ်, from the age of thirty-three years and four months to sixty-six years and eight months.

**မဇ္ဈိမဝိထိ**, *n.* the middle path of the sun; *see* ဝိထိ။

**မဇ္ဈိမတိုက်**, မဇ္ဈိမဒေသ (Pali မဇ္ဈိမ, middle, and ဒေသ, place), *n.* the middle part of the world, including the sixteen countries of India, famous in Buddhist history.

**မည်**, 1, *v.* to be named, have a name, be called, be termed; hence, အမည် and မှည့်; မိန်းမတို့မည်သည်မှာများစွာသော လှည့်ပတ်ထတ်သောမာယာလည်းရှိ၏, and as for those who are designated women, they are in the habit of beguiling by many artifices; မည် *is not much used in colloq.*; သည်လူမျိုးတရုပ်လည်းမမည်နိုင်၊ ရှမ်းလည်းမမည်နိုင်, this race of men cannot be called Chinese or Shan.

**မည်ထား**, *v.* to be named; to give a name.

**မည်**, 2, *pron. a.* what? (*interrogative*); whatever, မည်သည့်အကြောင်းကိစ္စရှိလျှင်၊ ကျွန်ုပ်ဆီကိုသာပြေးလာခဲ့။

**မည်ရွေ့**, မည်ဝါ, *pron. a.* same; *variously reduplicated.*

**မည်သည်**, *pron. a.* same as မည်။

**မည်သို့**, *pron. a.* of what sort? (*interrogative*), အဘယ်သို့။

**မည်သို့မည်ညာ**, *pron. a.* same, ခိုးထုပ်ခိုးထည်နှင့်မိပြီးသည့်နောက်၊ မည်သို့မည်ညာအစစ်ခံသော်လည်းအကျိုးမရှိ, after having been apprehended with stolen property, whatever the nature of your examination, nothing will benefit you.

**မည်**, 3, *verb. affix*, shall, will, သူရောင်းမည်ပြောသည်, သူလာမည်မလာမည်ကိုမသိ, I do not know whether he will come or not. *In colloquial* မည် *is often corrupted into* မယ် *and* ့; it appears to imply that the person spoken of is wayward in doing a thing, or is pursuing a course of conduct from sheer wilfulness, သူကောင်းမှန်ပါလျက်သားနှင့်တမင်ဆိုးခဲ့ဆိုးသည်, သည်အမှုကို မပြောဘဲ ခင်ဗျားအနေနိုင်သားနှင့်၊ တမင်ပြောခဲ့ပြောသည်။

**မည်အကြောင်း**, *verb. affix, expressive of the infinitive or potential mood,* as အမှုကိုဆုံးဖြတ်မည်အကြောင်းလာသည်, he came to decide (the case), ရအောင်။

**မဉ္ဇူ** (*pron.* မြည်ရူ), *n.* a kind of plant, the four-o'clock; မဉ္ဇူပန်းပင်, a kind of tree.

**မဉ္ဇူသာက**, *n.* a kind of plant, မဉ္ဇူသာကပန်းကဲ့သို့ဂုဏ်သိတင်းနံ့တည့်ပျံ့မွှေးပေ

သည့်, မဋ္ဌူသကနတ်ပန်းကိုထသောသည့်အခါ၊ အားရစွာနမ်းရသကဲ့သို့ချမ်းသာ စွာရှိကြောင်း။

**မည်း**, *v.* to be dark, black, နက်; also applied to language containing veiled inuendoes, စကားပြောသည်မှာ၊အဖျားမည်းလှသည်; မိတ်ဆိုးထို့ မျက်နှာများမည်းနေရော့, ကြောက်လွန်းလို့မျက်နှာများမည်းနေပြီ, မည်းချည်, မည်းတပက်, မည်းဝုဆိုး။

**မည်းတည်းတည်း**, *a.* blackish.

**မည်းနက်**, *v.* same as မည်း, မည်းနက်သောဆံပင်ရှိသည်။

**မည်းပန်း**, *n.* a species of amaranth.

**မဏိ** (Pali), *n.* a precious stone, ကျောက်မြတ်; the head of a priest, မဏိတော်ပြောင်သည်, or idol, မဏိတော်ပြည်းသည်, မဏိတော်ရောက်အောင် အရုပ်တော်ရှစ်တောင်ရှိသည်, မဏိတော်ကိုရွှေချသည်။

**မဏိဩဇာ**, *n.* the *Carallia lucida*, an evergreen tree, attaining to the height of from fifty to eighty feet, and a girth of from four to ten feet; the wood, which is red-brown and variegated, heavy and close-grained, is used for rice-pounders, etc; the bark and root have medicinal properties, and are included in the Burmese pharmacopœia (တိဆေး).

**မဏိမေခလာ**, *n.* the (female) guardian *nat* of the sea, ပင်လယ်စောင့်။

**မဏ္ဍပ်** (*pron.* မန်းဒပ်) (Pali မဏ္ဍပ), *n.* a large shed or booth, a building erected for a temporary use, as for the performance of a *zat* or *yotthe pwe*, or for a feast; ပွဲတကာမှန်းသိအောင်၊မဏ္ဍပ်တိုင်တက်သည်, in order that (every one) may know that he is the giver of the feast, he ascends a post of the *mandat*; said allusively of a person who is ostentatiously liberal.

**မဏ္ဍပ်ဆောက်**, မဏ္ဍပ်ထိုး, *v.* to erect such a booth.

**မဏ္ဍိုင်** (Pali မဏ္ဍလ, a circle, and တိုင်, a post), *n.* an upright pivot in the centre of a circle; *fig.*, the tree under which a Buddh is perfected (*see* ဗောဓိပင်), which is in the centre of the great southern island, ဇမ္ဗူဒိပ; နာရီမဏ္ဍိုင်, the pivot of a watch.

**မတ်**, 1, *n.* a husband's younger brother; a woman's younger sister's husband; *comp.* ခဲအို။

**မတ်**, 2, *n.* a weight equal to four great *pes* (ပဲ), or five small ones; ၁, တမတ်, four annas.

**မတ်စေ့**, *n.* a four anna bit; မူးစေ့၊မတ်စေ့, small change.

**မတ်ပြား**, *n.* a pie, ပိုင်။

**မတ်**, 3, *n.* *see* အမတ်, a person of rank.

**မတ်**, 4, *v.* to be erect, upright, perpendicularly straight; to make erect,

upright, etc.; *also used figuratively*; to be plumb, တံခါးပေါင်များမတ်သလား, are the cheeks of the door plumb? ယိုပါတော့ခင်ဗျား၊ တယ်မတ်သည့်လူ, trust him, sir; he is a very upright man; သည်တိုင်ကိုမတ်မတ်ထားပါ၊မယိုင်စေနှင့်, please place this post upright; do not let it lean to one side.

မတ်စောက်, *v.* to be perpendicularly straight, မတ်စောက်စောက်။

မတ်တတ်, မတ်ထတ်, *adv.* in an upright posture, ကျွန်တော်သားကလေးမတ်တတ်ပြေးနိုင်ပြီ; မတ်တတ်ကြွ, come for a moment, ကျွန်တော်ဇိမ်ကိုခဏမတ်တတ်ကြွပါ; မတ်တတ်ပုံ, an elevation (*Engin.*); မတ်တတ်သေတ္တာ, an almira.

မတ်တတ်တော်, မတ်ရပ်တော်, *n.* an erect image of a Buddh.

မတ်တတ်နာ, *n.* a disease which does not confine the patient to his bed.

မတတ်, *verb. formative*; *see Gram. sec.* 125, 4th; *the terminations* ခမန်း, *and* မတတ် *form verbals* denoting nearness of accomplishment, and occasionally take လု before them, as မြုပ်လုမတတ်, what is near sinking; *see Gram. sec.* 124; ရွာသို့ရောက်လုမတတ်ရှိပြီ, we are near arriving at the village; လှေလှော်သည်မှာကျွန်ုပ်သေမတတ်ပင်ပန်းသည်, I was nearly dead tired with paddling the canoe.

မတန် (*pron.* မဒန်) (from တန်), *a.* produced out of season, whether early or late, as မတန်သီး; *adv.* unseasonably, မတန်သီးသည်; ထန်းမတန်သီး, မန်ကျည်းမတန်သီး, နာနတ်သီးပေါ်ချိန်လားမထုတ်ပါ၊မတန်သီးသို့ပါး

မတန်မလောက်, *v.* to be inadequate.

မတူတရူ, *adv.* in an unusual, suspicious, odd, queer manner; *also used as an a.*, မတူတရူလူ, a suspicious character.

မတော့, *n.* the *Xanthochymus pictorius*, a tree having yellow flowers an inch in diameter. The fruit when ripe is of a deep yellow color, and the size of a lime or small orange. It yields gamboge of an inferior quality.

မတော်တဆ, *adv.* happening unluckily, accidentally (arising from inadvertence), ကျွန်တော်မတော်တဆ ပြောမိသမျှ၊ပြုမိသမျှသည်းခံပါခင်ဗျား, မင်းလှေမီးသည်အခါသတိနှင့်မီး၊မတော်တဆကျသွားလျှင်သေတတ်သည်။

မတ္တ, *adv.* slightly, a very little; not in earnest; *combined generally with* ကာ, as ဆေးစားကာမတ္တအနာမပျောက်, by merely taking a little medicine now and then, you will not recover; သွားသည်မှာဘယ်လောက်ကြာပြီလဲ၊သွားကာမတ္တကလေးရှိပါသေးသည်။

မထီတရိ, မထီမဲ့စား, မထီမဲ့မြင်, မထီလေးစား, *adv.* disrespectfully, irreverently, saucily, မရိုမသေ; ပြောပေဆိုပေသော်လည်းမထီတရိနှင့်နေတတ်သည်, though spoken to and admonished, he is in the habit of acting

disrespectfully; သည်သူအာဏာပိုင်းရမင်းများကိုမထီမဲ့မြင်ပြုတတ်သည်, this person is in the habit of acting disrespectfully towards the authorities.
**မထေရ်** (Pali မဟာ, great, and ထေရော, a priest), *n.* a Buddhist priest of ten or more years' standing; ထေရ်စည်ဝါစည်အတိုင်း, as in inviting Buddhist priests to be seated.
**မထေရ်မ**, *n.* a priestess (Buddhist) of ten years standing (*obs. in colloq.*).
**မထောင်းတာ** (*pron.* ဒါ), *v.* to be pretty well in health, or other circumstances; *used only in the negative form,* ကျွန်တော်ကိုယ်၌ရှိကပ်သော ဝေဒနာသည်၊ ဤဆေးကိုစားကတည်းကမထောင်းတာရှိပါသည်, ဆေးသမားမထောင်းတာ၊လူနာမှာမခံရှိ, it is pretty well for the doctor; for the sick person, it is beyond endurance.
**မထောင်းတာရှိ**, *v.* same as မထောင်းတာ။
**မဒမ** (ပင်), *n.* a tree growing to the height of thirty or forty feet, bearing a very flat pod, containing only one or two seeds. Two species or varieties are named, the *Dalbergia glauca* and the *Dalbergia ovata*; the bark produces a mordant for indigo; boat sails used by the Burmese are frequently colored with a dye made from the bark of this tree.
**မဒရတ်ဖိတ်**, *n.* Madras muslin.
**မန** (Pali), *n.* mind, စိတ်။
**မနက်** (*a corruption of* နံနက်), *n.* the morning.
**မနသိကာရ** (Pali), *n.* meditation, နှလုံးသွင်းခြင်း။
**မနာယတန** (Pali မန, and အာယတန), *n.* the faculty of thinking.
**မနိုဓြေ**, *n.* a mental condition.
**မနိလ**, *n.* Manilla; a native of Manilla, မနိလလူမျိုး။
**မနီးမကမ်း** (from နီး, and ကမ်း), *adv.* rather distant, အိမ်ချင်းမနီးမကမ်းရှိကြသည်, သဘောချင်းမနီးမကမ်းရှိသည်, မနီးမကမ်းလိုက်ပါသည်။
**မနုဿ** (Pali), *n.* man, လူ; မနုဿဘုံ။
**မနုဿသီဟ** (Pali), *n.* a fabulous monster, a compound of man and lion, a sphinx.
**မနေ့**, *n.* yesterday, ယမန်နေ့။
**မနော** (Pali), *n.* the mind, စိတ်, မနောကမျှမဖြစ်မှားပါ။
**မနောကံ**, *n.* a deed performed by the mind; the action of the mind, thought; *comp.* ကာယကံ, and ဝစီကံ။
**မနောဆိုး**, *v.* to be evil-minded, malicious, malignant.
**မနောသန့်**, *v.* to have a clean, *i.e.*, a strong stomach, to be not squeamish or easily nauseated, နှလုံးသန့်။
†**မနောမယာဓါန**, *n.* a gift made in order to attain the Buddhaship.

မနော့လင်ပန်း, *n.* a kind of salver, set with precious stones.
မနှိုင်မကန်, *adv.* familiarly, on such terms as admit any liberties being taken without giving offense.
မနှိုင်ယည့်ကန် (*pron.* ယည်ဂန်), *adv.* same, but more frequently used, ဦးမိုးစံဆိုနှင့် မောင်ဝက်ကလေး အရွယ်ချင်းမမျှသော်လည်း၊ ဝါသနာချင်းတူခြင်းကြောင့်မနှိုင်ယည့်ကန်နေကြသည်။
မန်ကျည်း (*pron.* မကျည်း), *n.* the tamarind, မန်ကျည်းပင်နှစ်ပြုပြီလား။
မန်ကျည်းကြက်ဆူး, *n.* the tamarind fruit, not quite ripe (ရွမ်းဖျည်း).
မန်ကျည်းစေ့ (မွေး) (ရောင်), *a.* red or reddish, inclining to a dark bay color; applied to horses.
မန်ကျည်းဟော်, *n.* a species of soapwort.
မန္တန်, *n.* a *muntra*, a charm or spell.
မန္တရား, *n.* same, ဗိဒ်ကဆရာသည်ဆေးမန္တရားအရာ၌အလွန်လိမ္မာသည်။
မန္ဓာတ်မင်း, *n.* a sovereign of the four grand islands, ကျွန်းကြီးလေးကျွန်းကိုအစိုးရသည့်စကြဝတေးမင်း။
မန်း, 1, *n.* a kind of humor, producing a swelling or sore.
မန်းရည်, *n.* the thin matter discharged from such a sore.
မန်းလိုက်, *v.* to secrete such matter.
မန်း, 2 (*a contraction of* မန္တလေး), *n.* စကားတော်တော်မန်းဆန်သည်။
မန်း, 3, *v.* to charm, infuse virtue, by repeating a *muntra*, ရွတ်။
မန်းမှုတ်, *v.* to blow upon while repeating a *muntra.*
†မန်းမကမ်း, *adv.* rather distant, မနီးမကမ်း။
မနှစ်, *n.* last year, လွန်ခဲ့သောနှစ်။
မမ, *n.* a mistress, madam; a mother or elder sister is often addressed as မမ။
မမှိတမှိ, *adv.* hardly, scarcely, တော်တော်ပင်။
မယ် (from အမယ်, mother), *n.* mother; prefixed to names of women, indicative of seniority or expressive of respect.
မယ်တော်, *n.* the mother of a Buddh, a monarch, a *pongyi* or a high official; မယ်တော်မာယာ, the mother of Gautama; ဘုန်းကြီးမယ်တော်, ရှင်ဘုရင်မယ်တော်, ကင်းဝန်မင်းကြီးမယ်တော်။
မယ်မင်း, *pron.* you, *fem.*; addressed to a woman; indicative of disrespect or anger; women are usually addressed as မယ်မင်း in court by the Judges.
မယ်ရှင်, *n.* a madam, respectable matron (*rare*).
မယ်လျှ, *pron.* you, *fem.*; addressed to a young woman; indicative of polite consideration; a dramatic term, နတ်မယ်လျှ။
မယ်သီလရှင် (*pron.* ယင်), *n.* a vestal, nun, unmarried deaconess or

priestess. In speaking to nuns it is usual to address them as ဆရာ, or သွားသီလ။
မယ်သီလရှင်ကျောင်း, *n.* a nunnery.
မယ်သူတော်, *n.* same as, မယ်သီလရှင်, သူတော်မ; *comp.* သူတော်။
မယား, *n.* a wife. When speaking of the wife of another, it is not considered polite to say မယား; ဇနီးမ is preferable.
မယားကြီး, 1, *n.* the principal wife, *i.e.*, the first one taken of two or more.
မယားကြီး, 2, *n.* a kind of tree.
မယားခိုး, *v.* to commit adultery (as a man); မယားခိုးမှု, an adultery case, ပရဒါယိကကံမြစ်မှားသည်။
မယားခြေသားခြေ, *n.* the married state.
မယားငယ်, *n.* an inferior wife, မယားသိမ်မယားငယ်။
မယားစံရွေး, *v.* to be fastidious in the choice of a wife.
မယားနှင်း (ပင်), *n.* the *Zanthoxylyon budrunga*, a tree armed with prickles; it sometimes grows to the height of fifty or sixty feet; the wood is yellowish, with a silvery lustre.
မယားနေ, *v.* to have a wife.
မယားပါသား, *n.* a wife's son by a former husband.
မယားဝတ်ငါးပါး, *n.* the five duties incumbent on a wife.
မယားသိမ် (ပင်), *n.* a kind of plant; *see* ဗဝါနတ်; မယားကြီးပင်။
မယ်ကယ်, *n.* a kind of tree, the *Murraya exotica*, which abounds in the Tavoy and Mergui districts; ဆင်ရွယ်သား။
မယ်နှ, *n.* a large iron nail, a spike, သံချွန်ကြီး; သင်္ဘောတည်မည်ကြံလျှင်၊မယ်နှကြောက်လို့ဖြစ်ရိုးလား, when about to build a ship, will it do to be daunted by (the price of) spikes?
မယ်ဝက်, *n.* a kind of bird, found in dense forests, whose note the Burmese aver has a resemblance to the sound of the words မယ်ဝက်ကျောင်းဆောက်ပါဆို၊မဆောက်လို့၊တခွက်သိုး၊တခွက်သိုး။
မရဏ, မရဏာ (Pali), *n.* death, သေမင်း။
မရဏာသန္န (Pali အာသန္န, near), *n.* the near approach of death.
မရန်း, *n.* the *marian* tree, *Mangifera oppositifolia.*
မရန်းရောင်, *n.* yellow color, like that of the မရန်း fruit; မရန်းရောင်, မရန်းသွေး, applied to certain kinds of piece goods.
မရမနေ, *adv.* persistently, လက်မလျှော့ဘဲ။
မရီး, *n.* a wife's elder sister; a man's elder brother's wife; *comp.* ခယ်မ။
မရောင်မထည် (လိုက်), *v.* to follow or "shadow" another in an unconcerned manner, for the purpose of watching his movements.
မရှိုး, *see* မုရှိုး, *n.* the mudar, a kind of shrub.

မရိုးစည်, *see* ရှုရိုးစည်, *n.* a kind of drum.
မရှင်, *n.* a mistress, madam; younger than မယ်ရှင်။
မလာဲ, *n.* heartseed.
မလိမ် (ပင်), *n.* a kind of tree, လိမ်ပင်။
မလိ, *n.* the common jasmine; *see* စပယ်။
မလေးပွား, *n.* paper ornaments, streamers, etc., attached to flags, တံခွန်; these streamers are often attached to the roofs of boats in which dramatic troupes travel, မလေးပွားနှင့်လှေ၊ ထားလှေပါလိမ့်မည်လော။
မလေးမစားပြု, *v.* to treat with indignity.
မလိုင်, *n.* cream, နို့ဆီ, မလိုင်ခဲ။
မလိုင်တက်, *v.* to rise, as cream.
မလိုတမ, *adv.* with ill-will, မနာလိုသည်နှင့်, မလိုတမပြုတတ်သည်။
မလ္လာ, *n.* a kind of plant or tree.
မလ္လိကာ (*pron.* မန်လိကာ), *n.* a certain costly, ornamented dress, worn by queens, မလ္လိကာတန်ဆာ။
မလှ္ဃယ်, *n.* a postern, a small entrance or side door, used occasionally, when the larger gate is closed; a small backdoor; a sally port.
မလှ္ဃယ်ပေါက်, *n.* same; a wicket, မလှ္ဃယ်တံခါး။
မလှုတမ (from လှု), *adv.* frightfully, as from wounds, or the near approach of death.
မသျှိုင် (ပင်), *n.* a large creeper, from which the Burmese manufacture paper for umbrellas and *purabaikes* (ပုရပိုက်); the *Morus lævigata*; မသျှိုင်စက္ကူ။
မလွှ (ပင်), *n.* a kind of trumpet-flower, the *Spathodea serrulata.* The Burmese make a curry of the flowers, and also eat them with အမည်းခြောက်။
မလွှဲသာ, *a.* urgent, pressing; *v.* to have no alternative, to be inevitable.
မသကာ, 1, *n.* fresh butter, အစိမ်းစားထောပတ်။
မသကာ, 2, *adv.* lest, perchance, peradventure, lest haply, မသကာသေသွားလျှင် ကျွန်ုပ်သားသမီးများကို မည်သူကျွေးရမည်လဲ, မသကာသူခိုးများနှင့်တွေ့လျှင်ဘဲ့နှယ်ကြံရမည်လဲ။
မသာ (from မ, negative, and သာ, to be pleasant), *n.* a funeral, မသာသွက်နှင့်လက်ဆောင်တက်သည်။
မသာအိမ်, *n.* the house in which a corpse is kept previous to the funeral.
မသာခမ်း, *n.* same as မသာ; preparations, ceremonies, or appendages of a funeral, သေခမ်းသေနား, သေသည့်အခမ်းအနားကိုရွက်ဆောင်သည်။
မသာချ, *v.* to convey a corpse to the place of interment or burning.
မသာပို့, *v.* same as မသာချ, မသာလိုက်ပို့သည်။

မသာလောင်း, *n.* a corpse.

†မသာရကန်, *n.* a kind of precious stone, မသာရကန်ကျောက်။

မသူတော်, *n.* a bad man, လူမသူတော်, မသူတော်နှင့်ပေါင်းလျှင်၊မသူတော်ဖြစ်လိမ့်မည်; *see* သူတော်။

မသိုးမသန့်, *adv.* disgustingly.

မသိုးသက်နီး, *n.* a priest's garment made all at once. This garment has to be woven on the night of the full moon of Tazaungmon (within the period of night), မသိုးသင်္ကန်းလှူသည်။

မဟဂ္ဂုတ် (Pali မဟဂ္ဂတော), *n.* excellent mental attainment, မဟဂ္ဂုတ်စိတ်နှစ်ဆယ်ခုနစ်ရ, ဖြတ်သောအဖြစ်သို့ရောက်ခြင်း။

မဟလ္လတာ (*pron.* မဟန်လတာ), *n.* a certain ornamental dress worn by females of rank; a kind of creeper. မဟလ္လတာနွယ်။

မဟာ (Pali), *a.* great, အကြီး; excellent, အမြတ်, မဟာကုသိုလ်စိတ်, မဟာကရုဏာမေတ္တာတော်။

မဟာကပ် (Pali မဟာ, great, and ကပ္ပ, a period, a *kalpa*), *n.* the period of time in which an entire revolution of nature is accomplished, subdivided into four cardinal periods (အသင်္ချေယျကပ်), *viz.* သံဝဋ္ဋကပ်, သံဝဋ္ဋဋ္ဌာယီကပ်, ဝိဝဋ္ဋကပ်, and ဝိဝဋ္ဋဋ္ဌာယီကပ်; each of these is subdivided into sixty-four intermediate periods (အန္တရကပ်); the present, or Maha Bhadra *kalpa*.

မဟာကာ (*pron.* ဂါ), *n.* a kind of plant, which has medicinal properties.

မဟာဆတ်အဝါ, *n.* yellow jasper.

မဟာဆီ (*pron.* ဇီ), *n.* lymph, လူဆီ; a colorless fluid in animal bodies, contained in certain vessels called lymphatics.

မဟာဆီအကြော, *n.* a lymphatic.

မဟာတာပန, *n.* one of the eight stages or stories of hell, *see* ငရဲ။

မဟာဒါန်, *n.* formerly an inspector-general of priests, မဟာဒါန်ဝန်။

မဟာပထဝီ, *n.* the earth.

မဟာဘုတ် (Pali မဟာ, great, and ဘုတ်, matter), *n.* one of the four material elements (earth, water, fire, and air), to which some add space (ပဉ္စမဘုတ်); *see* ဘုတ်, and ဓာတ်။

မဟာမိတ် (စာ), *n.* a letter written by a high official of one country to a high official of another country, မဟာမိတ်ပေး, ရာဇာမိတ်။

မဟာရံ, *n.* a brick wall around a pagoda, တံတိုင်း, မဟာရံတံတိုင်း။

မဟာရောရုဝ, *n.* one of the eight stages or stories of hell; *see under* ငရဲ။

မဟာလတာ, *n.* a certain fabulous creeper.

မဟာလတာတန်ဆာ, *n.* a certain court dress, worn by the queen and other members of the royal family; *see* မာလီကာတန်ဆာ။

မဟာသွေကား (ပင်), *n.* the *Bauhinia*; မဟာသွေကားနီ, the purple variety; မဟာသွေကားဖြူ, the white variety; မဟာသွေကားဝါ, the yellow variety; *see* သွေကား။

မဟာဝင်, *n.* universal history; the history of the Buddhs and *Rahandas.*

မဟာသာဝက (Pali မဟာ, great, and သာဝက, disciple), *n.* select cardinals of a Buddh, either အဂ္ဂသာဝက, or အသီတိသာဝက။

မဟုတ် (Pali မဟုတ္တော), *n.* an instant, ခဏ; commonly used with တ, as တမဟုတ်, same.

မဟုတ်ကဟုတ်က, *adv.* rightly or wrongly.

မဟုတ်တန်းတယာမ်း, *adv.* at random.

မဟုတ်တရုတ် (from ဟုတ်), *adv.* not right, မဟုတ်တရုတ်ပြောသည်, မဟုတ်တရုတ်လုပ်ထားသည်။

မဟုတ်မရေး, မဟုတ်မဟောင်, *adv.* same.

မဟူရာ, *n.* agate, chalcedony, cornelian, onyx, opal (မဟူရာဓလား).

မဟူရာကြောင်ဝင်, *n.* onyx.

မဟူရာနီ, *n.* cornelian, ကြက်သွေး။

မဟူရာဖြူ, *n.* milk-white chalcedony; မဟူရာဝါ, yellow chalcedony.

မဟော်ရာ (ပင်), *n.* a species of potato plant; *see* ဗိန်း။

မဟော်ရာကျွဲသည်း, *n.* a kind of medicine, frequently called ဗိန်းမဟော်ရာကြက်တက်, ဗိန်းမဟော်ရာကျွဲသည်း။

မဟော်ရာကြက်တက်, *n.* a kind of medicine, used by an အဂ္ဂိရတ်ဆရာ။

မံ, 1, *n.* a species of insect, said to resemble a large ant.

မံ, 2, *v.* to plaster, cover with some soft substance, အင်္ဂတေမံ, ဆေးမံ, ရွှံ့မံ။

မံဘုရား, *n.* an idol of cloth or paper, made on a clay model; sometimes made of သားရိုး။

မာ, *v.* to be hard; *comp.* ခဲ; to be well and healthy, ထိသာ, ကျန်း, မမာမကျန်းရှိသည်. The term မမာ is politely used to denote the state of pregnancy.

မာကျော, *v.* to be very hard; to be muscular; *chiefly used adverbially,* as မာကျောကျော; အလွန်မာကျောသည့်လူ, a very muscular man; အလွန်မာကျောသည့်နွား, a very strong-built bullock.

မာချာ, *v.* to be well, healthy, ခင်ဘွားသားမယားမာချာပါ၏လား, are your wife and children well and hearty?

မာဆ (*pron.* မာဇ), *v.* to be hardy, vigorous, ကျန်းမာ။

မာတောက်, *adv.* used with reference to speech, သူမာတောက်တောက်ပြောတတ်သည်, he is accustomed to speak in a short, snappish manner.

မာတောင့်, *v.* to be still, rigid; applied to the body of a man or animal, သည်သူအင်္ဂမတန်မာမာတောင့်တောင့်ရှိသည်, သည်နွားတယ်မာတောင့်

သည်; to be inflexible, unyielding in speech, စကားမာတောင့်တောင့်ကြီးပြောတတ်သည်; or action, စိတ်ကိုမာတောင့်ထားသည်; to be stiff, as new garments or recently starched linen, ပုဆိုးအသစ်မာတောင့်ကလေးဝတ်ကောင်းသည်။

**မာခြင်း, မခြန်း**, *v.* to be hard, မာခြင်းသောအရွယ်ကဥစ္စာစီးပွားဖြိုးစားရှာမှအိုမင်းမစွမ်းရှိသည့်အခါချမ်းသာနိုင်သည်။

†**မာကျိ**, *n.* a preparation of အင်တွဲ, or ပွဲလျက်, used to calk vessels, ရေမာကျိ, ရေမာကျိကျို, ရေမာကျိချက်, ရေမာကျိထိုးသည်။

**မာဂရိ** (နတ်), *n.* a household *nat*, worshiped by both Burmans and Talaings, အိမ်ဦးနတ်, မာဂရိနတ်ဘမ်း; the Burmese believe that a person seized by this *nat*, will suffer from itching and pustular eruptions.

**မာဃ**, *n.* the stars which form the constellation of the Lion; တပို့တွဲလ၊ ကုံရာသီ၊ မာဃနက္ခတ်နှင့်ယှဉ်သည်, တနင်္ဂနွေသား၊ မာဃနက္ခတ်နှင့်ယှဉ်ဘွားလျှင်၊ စိတ်ကောက်တတ်သည်။

**မာတာ** (Pali), *n.* a mother, အမိ, မာတာပတိနွသာ, အမိယုတ်သောသား။

**မာတိကာစည်** (*pron.* ဇည်), *n.* an index, ခေါင်းစည်။

**မာတုဂါမ** (Pali), *n.* a woman, မိန်းမ။

**မာဒရာ**, *n.* an evil spirit. Burmese mothers, when unable to soothe a child who persistently cries, sometimes say, မာဒရာနတ်များဘမ်းစားလေရော့သလား။

**မာန်** (Pali မာန), *n.* pride; the display of angry and proud defiance by a wild animal or reptile, such as a tiger, wild hog, or cobra; ခါချဉ်ကောင်မာန်ကြီးလို့တောင်ကြီးကိုဖြိုမည်ကြံ၊ခါးကမသန်, the red ant, being very proud, was intending to demolish the great mountain, but (failed to do so because) its back was weak; မာန်မာနခက်ထန်သည်။

**မာန်စောင်**, or **မာန်စောင်း**, *n.* same as မာန်။

**မာန်ထ**, *v.* to be proudly defiant; to bristle up, as an animal.

**မာန်ထား**, *v.* to bear a proud, resentful feeling toward another.

**မာန်ပြု**, *v.* to pretend to be angry, ခင်ဗျားကကျွန်တော်ကိုမာန်ပြုသော်လည်း၊ ကျွန်တော်ကအမှုမထားဘူး။

**မာန်ဖီ**, *v.* to pretend to be angry, in order to deter interference, မာန်ဖဲ။

**မာန်မူ**, *v.* to be sullen.

**မာန်ဖဲ**, *v.* to make a display of wrathful defiance.

**မာန်ရှိ**, *v.* to be proud, haughty.

**မာန** (Pali), *n.* pride, self-conceit; "*manya*, self-conceit, that which indulges the thought that I am above all other persons." M.B.

**မာနကြီး**, *v.* to be very proud.

**မာနတောင်လွှား**, *v.* to be proud, haughty, conveying the idea of aggres-

sive pride and haughtiness, သည်လူအကြောင်းမတန်မာနထောင်လွှားသည်၊ သာမညလူကို အဘက်မထင်တတ်ဘူး, this man is most aggressively haughty; he does not consider an ordinary person his equal.

မာနရောက်, *v.* to be or become proud and haughty (*more passive than* မာနထောင်လွှား); မောင်ဘိုးထွန်းအရာတိုးကတည်းကအလွန်မာနရောက်သည်, since Maung Po Tun was promoted he has become very proud.

မာယာ, 1, *n.* the mother of Gautama the Buddh, မယ်တော်မာယာ။

မာယာ, 2 (Pali), *n.* artifice, လှည့်ပတ်ခြင်း; blandishment, မိန်းမတို့၏မာယာပေါင်းတထောင်။

မာယာဆင်, မာယာလုပ်, *v.* to employ blandishments, as a woman, သူမချစ်သော်လည်းချစ်ယောင်ဆောင်၍မာယာဆင်ပြောသည်, though she does not love one, she employs blandishments and puts on an appearance of loving, when she speaks.

မာယာသည်, *n.* a woman full of blandishments.

မာရ် (*pron.* မန်) (Pali မာရော).

မာရ်ငါးပါး, *n.* the five masters or tyrants, *viz.*, ခန္ဓာမာရ်, animal constitution; အဘိသင်္ခါရမာရ်, subjection to the repairs and operations of the four causes (ကံ၊စိတ်၊ဥတု၊အာဟာရ); ကိလေသာမာရ်, passion; မစ္စုမာရ်, death; and ဒေဝပုတ္တမာရ်, the most powerful evil spirit (မာရ်နတ်).

မာရ်နတ်, *n.* a powerful evil spirit who resides in the highest inferior heaven, and has dominion over all the lower parts of the universe; Satan (117).

မာရ်နတ်သား, *n.* same as မာရ်နတ်။

မာရစ (လ) (Eng.), *n.* March, မတ်လ။

မာရတင်, *n.* a partition reaching from the floor to the roof, in a palace or ပြာသာဒ်, မာရတင်ကန့်။

မာလကာ (ပင်), *n.* the guava tree; မာလကာသီး။

မာလာ (ပင်), *n.* a species of *Zingiberaceæ.*

မာလာမင်း, *n.* a species of the same.

မာလိကာ (တန်ဆာ), *n.* a certain court dress, worn by the queen and other female members of the royal family; *see* မဏ္ဍိကာ။

မာလိန် (Beng.), *n.* a ship's officer; a pilot, ရေကြောင်းမာလိန်; the mate, on a river steamer.

မာလိန်စင်, *n.* a platform on a lower mast, or on a flagstaff; crow's-nest.

မာလိန်တိုင်, *n.* a flagstaff, furnished with a top or platform.

မား, *v.* to be high, towering; *comp.* မြင့်, ရှင့်; *rarely used alone*; hence ကြီးမား, and တမားမား; တောင်အရပ်သို့သွားလျှင်၊သစ်ပင်ကြီးမားမားမြင်လိမ့်မည်, လူတယောက်မားမားမားမားသွားသည်ကိုမြင်လိုက်သည်။

မိ, 1 (from အမိ, a mother), တမိသားချင်း, children by the same mother, မင်းသည်မိန်းမကလေးနှင့်တမိသားချင်းလား။

မိကောင်းဘခင်, *n.* respectable parentage, မိကောင်းဘခင်သားသမီး။

မိကြီး, *n.* a mother's elder sister; a father's elder brother's wife, ကြီးတော်; *comp.* အရိုး။

မိထွေး (*pron.* မိဒွေး), *n.* a mother's younger sister; a father's younger brother's wife, ထွေးတော်; a stepmother.

မိဘ (from အဘ, a father), *n.* parents, father and mother, မိသားဘသား။

မိမွေးတိုင်းဘမွေးတိုင်း (ကု), *v.* to cure a patient, as a physician, so as to restore him to his pristine state of vigor; *lit.* to the state in which he was born.

မိရိုက်ဘရာ, *a.* hereditary; *adv.* by hereditary succession, ရိုးရာ။

မိရိုးဘလာ (*pron.* ဖလာ) (from အရိုး, custom, မိဘ, parents, and လာ, to come), *n.* custom handed down from generation to generation; *also used adjectively,* as မိရိုးဘလာထုံးစံ, မိရိုးဘလာတရား, မိရိုးဘလာကိုးကွယ်သည့်တရားကိုသားသမီးများဆက်ခံ၍ကိုးကွယ်သည်, မိရိုးဘလာကိုးကွယ်သည့်နတ်။

မိရိုးဘလာစကား, *n.* tradition, ရှေးလူဟောင်းတို့စကား။

မိသက်ဆိုး (*pron.* မိသဆိုး), *n.* an orphan, bereaved of its mother; *comp.* ဘသက်ဆိုး။

မိသား, *n.* mother and son; applied to the mother and progeny of certain animals collectively, ကျွဲမိသား, a female buffalo and her calf.

မိ, 2 (from အမိ, a daughter), *n.* daughter; prefixed to names of girls and young women, and indicative of superiority in the speaker. It is considered impolite to address a woman as မိ; in courts of justice, however, the prefix မိ is used in addressing women. Parents also use this prefix in addressing their grown-up daughters.

မိ, 3, *v*, to get hold of, catch after pursuing; to obtain, ရ; *much used as a qualifying affix,* ငုံမိ, ဖမ်းမိ, မှတ်မိ, ရပ်မိ, သွင်းမိ; to come upon suddenly, to surprise, as to catch one in the act of stealing, ခိုးသည့်အခိုက်မိသည်။

မိ, 4, *qual. affix,* implying carelessness or fault, ပြုမိသည်, ပြောမိပါသည်; မိ frequently signifies the same as the English "unfortunately happened to," မသိလို့ပြောမိသည်; also implies something that happened by chance, လမ်းမှာမြင်မိသည်, I happened to see him in the street.

မိ—ရာ, *verb. formative*; *see Gram. sec.* 125, 5th; denotes inadvertence or inconsideration, စိုက်မိစိုက်ရာစိုက်ကြည့်သည်; it may also be used without detaching the formatives from one another, ပြောမိရာပြောသည်, ဖမ်းမိရာဖမ်းသည်။

မိကျောင်း, 1, *n.* an alligator, crocodile; a kind of harp with three strings, မိကျောင်းစောင်း; ဖွတ်မိကျောင်းဖြစ်လျှင်မြစ်မချမ်းသာ, should the water lizard become a crocodile, the river would be disturbed (*lit.* unhappy), meaning that when a person of ignoble birth fills a high position, he is apt to abuse his authority.

မိကျောင်းခေါင်း, *a.* resembling a crocodile's head; durians having this shape are of superior quality, မိကျောင်းခေါင်းဒူးရင်းသီး။

မိကျောင်းမြှ, *n.* a bamboo enclosure constructed in a river close to the bank, to protect bathers from crocodiles.

မိကျောင်းတိုး, *n.* a pair of timbers laid parallel for any purpose, as the ways on which a ship is launched; the beams of a floor resting on the ground; the wall plate of a brick building, မိကျောင်းတိုးခံ; a truck, long cart, လှည်းခင်တိတ်။

မိကျောင်းသွားသွား, *v.* to crawl along flat on one's stomach, in order to avoid sinking in deep mud.

မိကျောင်း (ပင်), 2, *n.* a kind of creeper, with a white flower, the *Derris scandens*; the Burmese say that if this creeper has many blossoms, it presages a heavy rainfall, မိကျောင်းငွေ့ငွေ့၊ရေငွေ့ငွေ့။

မိဂဒါဝုန် (Pali မိဂ, game, and ဝန, a forest), *n.* a game forest, သမင်တော။

မိဂသီ, *n.* the stars in the head of Orion.

မိစ္ဆာ (Pali), *n.* falsehood, error; *opposed to* သစ္စာ, truth; *comp.* မုသာ။

မိစ္ဆာဒိဋ္ဌိ (*see* ဒိဋ္ဌိ), *n.* same; a heretic, person of heterodox sentiments; "*mitya-drishti*, scepticism, that which teaches there is no present world, no future world; it is the principal root of all *akusala* or demerit." M.B.

မိစ္ဆာနတ်, *n.* an evil *nat*; *opposed to* သစ္စာဒေဝနတ်, a good *nat.*

မိတ်, 1 (from မေတ္တာ), *n.* affection, friendship.

မိတ်ကလျာဏ, *n.* a friend, မိတ်ဆွေ။

မိတ်ကျွမ်းဝင်, *v.* to be familiar, intimate.

မိတ်ခင်ပွန်း, *n.* a friend, မိတ်ဆွေ။

မိတ်ဆွေ, *n.* a friend, အဆွေခင်ပွန်း, မိတ်ဆွေသူငယ်ချင်း။

မိတ်ဆွေဖွဲ့, မိတ်ဖွဲ့, *v.* to become friends.

မိတ်တူနံတူ, *n.* a counterpart, a duplicate, a counterfoil.

မိတ်နည်း, *v.* to have few friends.

မိတ်လင်စုံ (from မိတ်, love; *fig.* a wife; လင်, a husband; and အစုံ, a pair), *n.* a married couple; an original text accompanied with a translation, ပါဠိနှင့်နိဿယ။

မိတ်လိုက်, *v.* to seek copulation, as animals.

မိတ်သင့်နံသင့်, *n.* friendship resulting from congeniality of birthdays.

မိတ်သဟာယ (Pali သဟာယ, associating), *n.* a union of friendship.

မိတ်သဟာယဖွဲ့, *v.* to become friends.

မိတ်, 2, *n.* an efflorescence of humors on the skin, prickly heat, မိတ်ထွက်, မိတ်ပေါက်။

[illegible] (Pali), *n.* a traitor to friendship; *see* ခင်ပွန်းဖြစ်, သည်သူမိတ္တဒုဗ္ဘိ [illegible]ကောင်းသောအဆွေခင်ပွန်းကဘဲ (*Colloq.*).

[illegible]Pali), *n.* want of reverence, စေတသိက်၏မခန့်ခြင်း; *comp.* ထိန်။

[illegible], 1 (Pali မိနော, a fish), *n.* Pisces, the twelfth sign of the zodiac, [illegible]ပေါင်းလမိန်ရာသီ။

[illegible], *n.* a screech owl, ငှက်ဆိုး, လင်ကောင်ပိုး, မိန်ကောင်. The Burmese [illegible]onsider the screech owl a bird of ill-omen.

မိန်ညို, *n.* a military coat with sleeves, worn over the coat of mail.

မိန့်, *v.* to speak authoritatively, to command, မိန့်တော်မူသည်။

မိန်း, *v.* to be faint; to be stupefied, amazed, astounded; to be stunned, unconscious.

မိန်းမော, *v.* same (*more common*); *comp.* တွေဝေ, မိန်းမောနေပြီ၊ သေတော့မည်, he has swooned; he is about to die.

†မိန်းမ, *n.* a woman.

မိန်းမကလေး (*by contraction* မိန်းကလေး), *n.* a girl.

မိန်းမကူးသန်းသောသူ, *n.* a pander, pimp, bawd, မိန်းမထိန်း။

မိန်းမစိုး, *n.* a eunuch who has charge of womens' apartments.

မိန်းမတန်း, *n.* prostitutes' quarters, a collection of brothels.

မိန်းမပေါ့, *n.* a light, wanton woman, မိန်းမရှုင်း။

မိန်းမပြ, *v.* to be womanly, feminine.

မိန်းမသော်ဝင်, *v.* to be of an age to associate (as a girl) with women; also applied to young women when they first experience menstruation.

မိန်းမရ, *v.* to have a wife, မယားနေ။

မိန်းမလက်သည်း, *n.* the curlew.

မိန်းမလူ, *n.* the female sex, womankind, မိန်းမသား။

မိန်းမလိုမိန်းမရာ (ပြော), *adv.* in a womanish, effeminate manner; applied to men (*reproachful*).

မိန်းမလျှာ (*pron.* ရှာ), *n.* a hermaphrodite; *comp.* ယောက်ျားလျှာ; a womanish, effeminate man.

မိန်းမသနာ, *n.* a woman, မိန်းမ။

မိန်းမသား, *n.* the female sex, womankind, မိန်းမလူ။

မိဖုရား, or မိဘုရား (*pron.* မိဗရား), *n.* a queen, *i.e.*, the wife of a king; ဘုရင်မ, a ruling queen.

မိလယ်, *n.* a toy (*obs.*).

မိမိ, *pron.* one's self, *i.e.*, yourself, himself, or herself, မိမိကိုယ်တိုင်မြင်သည်, he himself saw it; မိမိကိုယ်တိုင်မြင်၏လော, did you yourself see it? မိမိတို့ကိုယ်တိုင်မြင်ကြသည်, they themselves saw it; *see Gram. sec.* 77.

မိမ္မ, *see* မိန်းမ, *n.* a woman.

မိလက္ခု (Pali), *n.* a wild person, a savage, အသိပညာမရှိသောသူ, တောင်သူ မိလက္ခုလူမျိုး။

မိလ္လာ (*pron.* မိန်လာ), *n.* enamel; မိလ္လာထုံးဘူး, မိလ္လာဇလား, ထားမြှီးမိလ္လာ ကွပ်, etc.; niello work.

မိလ္လာအုပ်ဆောင်း, *n.* a cover for lanterns used by hunters.

မိလ္လာသုတ်, *v.* to enamel.

†မိလ္လာကုလား, *n.* a native of India sweeper, မိလ္လာသမား။

မိလ္လာခွန်, *n.* a night conservancy tax.

မိလ္လာလှည်း, *n.* a night conservancy cart.

မိဿ (Pali, a goat), *n.* Aries, the first sign of the zodiac, မိဿရာသီ တန်ခူးလ။

မိဿလင် (ပင်), *n.* a kind of plant, a species of *Zingiber*; when pounded and mixed with salt, it is said to cause cows to give an abundance of milk.

မိဿဟာရ, *see* မိတ်သဟာယ, *n.* a union of friendship.

မီး, *n.* fire; a light.

မီးအာမခံကုမ္ပဏီ, *n.* a fire insurance company.

မီးအိမ်, *n.* a lantern; a lamp; မီးအိမ်တိုင်, a lamp-post.

မီးအိမ်စကြာ, *n.* a magic lantern.

မီးအိမ်ပျံ, *n.* a fire balloon, မီးအုံလွှတ်, မီးပုံးပျံ, မီးအုံပျံ။

မီးအိုး, *n.* a cracker, ပြောက်အိုး; a box-iron, a hollow smoothing iron containing a heater.

မီးကင်, *v.* to broil, roast, toast, cook by the heat of fire, but without contact.

မီးကပ် (*pron.* မီးဂပ်)), *n.* a bamboo flapper with a long handle, to strike out fire, မီးရိုက်။

မီးကာ, *n.* a fender.

မီးကူး, *v.* to take fire, to ignite, to be communicated to, as fire, ယမ်း ထိုင်းထိုင်းသောနတ်မီးမကူးဘူး။

မီးကျည်, *n.* a rocket, မီးပျံ။

မီးကျီး (*pron.* မီးချေး), *n.* live coals; *comp.* မီးခဲ; မီးကျီးကောင်း, to burn brightly, as coals.

မီးကျောက်, *n.* the flint of a musket, မီးပါကျောက်။

မီးကျော်, *v.* to pass through, as fire through wood; *fig.*, to render unfit for the intended use, through the death of the owner, or of any member of his family, မီးကျော်သွားသည့်ဝတ္ထု။

မီးကျွမ်း, *v.* to be burnt up, consumed by fire, မီးကျွမ်းလောင်။

မီးကြာ, *n.* a lamp reflector.

မီးခတ်, *v.* to strike fire.

မီးခတ်ခွက်, *n.* a tinder-box, made of lacquered ware, မီးခတ်ဗူး။

မီးခတ်ကျောက်, *n.* a flint to strike fire.

မီးခတ်ဖါ, *n.* a tinder-box, of woven work.

မီးခုံ, *n.* a candlestick, ဖယောင်းတိုင်ခုံ; a lamp, ဆီမီးခုံ။

မီးခဲ, *n.* a live coal; *comp.* မီးကျီး; မီးတခဲယူခဲ့ပါ, မီးခဲပြာဖုံးသလိုက်ဓာတတ ညှို့သည်။

မီးခေါင်း, *n.* a tithingman, chief of ten houses.

မီးခိုး, *n.* smoke; *v.* to smoke annoyingly, not simply to emit smoke (မီးခိုးထွက်), မီးမခိုးစေနှင့်ခင်ဗျားခေါင်းကိုက်လှသည်; ခွေးများကျွဲများခြင် ကိုက်အောင်မီးခိုးထိုက်သည်။

မီးခိုးစော်နံ, *v.* to smell of smoke; မီးခိုးထ, to rise, as smoke, to emit excessive smoke, as a smoky fire; မီးခိုးတိတ် signifies that a village or town is silent because no fires are burning, consequent on its having been pillaged by the soldiers of a victorious army, or by freebooters; or owing to the inhabitants having staked and lost heavily on a boat, or horse race, သူခိုးထားပြဖျက်ဆီးလို့တမြို့လုံးမီးခိုး တိတ်နေပြီ; ခေါင်းမြို့ပြသားများလှေပြိုင်လို့တမြို့လုံးမီးခိုးတိတ်သည်။

မီးခိုးထွက်ရန်ပြွန်, *n.* a flue, လေလမ်း။

မီးခိုးရောင်, *n.* gray.

မီးချိတ်, *n.* a fire-hook.

မီးခြစ်, *n.* a lucifer match.

မီးခွက်, *n.* a cup for burning oil, ဆီမီးခွက်။

မီးခွန်, *n.* lighting tax.

မီးငြိမ်း, *v.* to extinguish a light, candle, lamp, etc.; *more polite than* မီးသတ်။

မီးငြိမ်းရေစက်, *n.* a fire engine, မီးသတ်ဗုံပိုင်။

မီးစ, *n.* a stick kindled at one end, a firebrand.

မီးစက်, *n.* a steam engine; *see* ယန္တရားစက်။

မီးစည်း, *n.* a torch made of a bundle of sticks, or of a single stick; မီးစည်းစည်းသည်။

မီးစာ (*pron.* ဇာ), *n.* a wick, the wick of a lamp or candle, မီးစာမ ရှိလို့၊မီးသေပြီ။

မီးစာကျွမ်း (*pron.* ဇာကျွမ်း), *n.* the part of a wick charred by the flame.
မီးစာညှပ် (*pron.* ဇာ), *n.* snuffers.
မီးဆောင်း, *v.* to pay the allowance made on alloyed silver.
မီးဆော်, *v.* to give warning against fire, မီးမောင်းခတ်။
မီးဆို့ (*pron.* မီးဇို့), *v.* to set fire to jungle, rubbish, etc.; to meet an advancing fire with a counter-fire in order to check its progress; *commonly used as a noun,* ရွာတွင်းသို့မီးမလောင်စေခြင်းငှာမီးဆို့ပေးသည်။
မီးညို, *v.* to take fire.
မီးညှပ်, *n.* fire tongs.
မီးညှိ, *v.* to ignite, light, set fire to, မီးထွန်းသည်။
မီးတက်, *v.* to pay more, on account of alloy.
မီးတင်းကုပ်, *n.* a fire-shed.
မီးတား (*pron.* ဒါး), *n.* an enclosure around a building, which serves as a screen from fire.
မီးတားတံတိုင်း, *n.* same as မီးတား။
မီးတောက်, *n.* a blaze, flame; *comp.* မီးလျှံ; မီးတောက်ကောင်းသည်; *v.* to blaze, မီးတောက်သည်။
မီးတောင် (*pron.* ဒေါင်), *n.* a volcano, မီးထွက်သောတောင်။
မီးတိုက်, *v.* to set fire to, တောကိုမီးတိုက်; မီးရှို့ (*more elegant*).
မီးတိုင် (*pron.* ဒိုင်), *n.* a candle, torch, မီးရှူးတိုင်, မီးရှူးမီးတိုင်။
မီးတိုင်ကိုင်, *n.* a torchbearer.
မီးတိုင်ရောင်, *n.* torchlight.
မီးတွင်း (*pron.* ဒွင်း), *n.* the seven days of roasting after childbirth.
မီးထင်း (*pron.* ဒင်း), *n.* fuel, ထင်းမီး။
မီးထင်းနေ, *v.* to be in childbed; *see* မီးနေ။
မီးထည့်, မီးထိုး, *v.* to stoke the furnaces of a steamer; to fire up.
မီးထုပ်, *n.* fire wrapped up to throw on a building, with a view to incendiarism, မီးထုပ်တင်။
မီးထွက်, *v.* to leave the lying-in room after childbirth.
မီးထွန်း, *v.* to light a candle, lamp.
မီးနာ, *v.* to be too hot; applied to the fire of furnaces, as မီးနာ၍အုတ်ပျက်သည်။
မီးနေ, *v.* to be in childbed, မီးထင်းနေ။
မီးနှက်, *v.* to ram down powder in a wooden tube, တိုးနှက်။
မီးပဒေသာ, *n.* a sconce, with lights.
မီးပန်း (*pron.* ဗန်း), *n.* pyrotechnical exhibitions, fireworks; *lit.* fire blossom, မီးပန်းရှူး။
မီးပါသေနတ်, *n.* a firelock.

မီးဗိတုန်း (*pron.* ပဒုန်း), *n.* a kind of rocket, မီးဗိထုန်းမြှး။
မီးပုစည်း (*pron.* ပဇင်း), *n.* a kind of rocket.
မီးပုစွန်ဆိတ် (*pron.* ပဇွန်ဇိတ်), *n.* a kind of squib.
မီးပုံး, *n.* a lantern made of paper and suspended from a flagstaff, မီးပုံးတင်, မီးပုံးတိုင်ထူ, မီးပုံးထိုင်တွန်း။
မီးပုံးပျံ, *n.* a flying lantern, မီးဇိမ်ပျံ။
မီးပူ (*pron.* ဗူ), *n.* a flatiron; မီးအိုး, a box-iron.
မီးပူတိုက်, *v.* to iron clothes.
မီးပေါက် (*pron.* ဗောက်), *n.* a spark, မီးပွား; *also used as a verb,* အင်္ကျီမီးပေါက်သည်, ဝူဆိုးမီးပေါက်သည်။
မီးပေါက်လက်နက်, *n.* a matchlock, သေနတ်; any kind of firearms.
မီးပျံ (*pron.* ဗျံ), *n.* flying fire, a rocket, မီးကျည်။
မီးပြတိုက်, (*pron.* ဗြိုက်), *n.* a lighthouse.
မီးပြသင်္ဘော (*pron.* ဗြသိဘော), *n.* a light-ship.
မီးပြောင်း (*pron.* ဗြောင်း), *n.* a pipe used to blow up a fire, မီးပြောင်းနှင့်မှုတ်သည်။
မီးပွင့်, *n.* a small flame; မျက်စိခတ်မိလို့မီးပွင့်သွားသည်, to "see stars."
မီးပွား (*pron.* မီးဗွား), *n.* a spark, မီးပေါက်, မီးပွားကျသည်, ဆေးလိပ်မီးပွားကျလို့အင်္ကျီမီးလောင်သည်။
မီးပွားထွက်, *v.* to scintillate, to emit sparks or fine igneous particles.
မီးပွတ် (*pron.* မီးဗွတ်), *n.* an instrument four or five inches in length, made of horn, or some kind of hard wood, in the shape of a cylinder, having a piston with tinder at the end, with which to strike fire.
မီးဖို, *n.* a fireplace, hearth.
မီးဖိုခန်း, *n.* a kitchen.
မီးဖိုနား, *n.* a fireside.
မီးဖောင်, *n.* a fire-raft, a raft made of trunks of plantain trees lashed together, upon which shallow cups of oil with lighted wicks are placed, and then floated down a river, usually in the month of Thadingyut. This is considered a religious ceremony; sometimes it is a propitiatory offering to ရှင်ဦးပဂုတ်, the Burmese Neptune; မီးဖောင်မျှော။
မီးဘွား, *v.* to bring forth a child, မျက်နှာမြင်။
မီးမကင်ဆေး (*pron.* ဇေး), *n.* a medicine to prevent the necessity of "roasting" for several days, after childbirth.
မီးမယ်ဖျူး, *n.* a kind of chafing dish, a brazier, pan to hold fire.
မီးရှန့်, *n.* embers.
မီးမောင်းခတ်, *v.* to give warning against fire by beating a gong through the streets.

မီးမွေး, *v.* to make or kindle a fire, မီးညှိ။
မီးမြွေ, *n.* a fiery serpent, မီးလင်းမြွေ။
မီးမှန်, *n.* a burning glass, သူရကန္တ။
မီးမှိန်, *v.* to turn down the light.
မီးမြှင့်, *v.* to turn up the light.
မီးယန္တရားစက်, *n.* a steam engine, မီးသတ်မှိုင်း။
မီးယပ်ပေါင်, *n.* a wooden fireplace; a wooden frame placed in a well to support the side; *comp.* တုပ်။
မီးရထား, *n.* a steam car, a locomotive.
မီးရထားတွဲ, *n.* a railway car, a railway carriage or van.
မီးရထားရုံ, *n.* a railway station.
မီးရထားရုံမှိုင်, *n.* a railway station master.
မီးရထားလက်မှတ်, *n.* a railway ticket; အပြန်လက်မှတ်, a return ticket.
မီးရထားလမ်း, *n.* a railroad, railway.
မီးရှုတ်, *v.* to pay less on account of giving pure silver.
မီးရှူး, *n.* a torch made of a bundle of sticks, or of a single stick; *see* မီးစည်း။
မီးရှူးမြင်တော်မူသည်, *v.* to bring forth a child, as a queen or princess, မီးရှူးသန့်စင်တော်မူသည်။
မီးရှို့, *v.* to set fire to, မီးတိုက်။
မီးရှို့မှု, *n.* arson.
မီးလင်းဖို, *n.* a kind of chafing dish, a brazier; *see* မီးမယ်ဖျူး။
မီးလင်းမြွေ, *n.* a kind of rocket, which hisses in falling, ရှည်းရှည်းရှည်းရှည်းမြည်သည်။
မီးလန့်, *v.* to be frightened by a fire.
မီးလောင်, *v.* to burn, မီးသင့်လောင်သည်။
မီးလောင်ကြွက်ခဲ, *a.* a term applied to property which has been destroyed by fire, or rendered useless by neglect; *lit.*, fire-burnt and rat-bitten.
မီးလောင်တိုက်, *n.* a cage in which prisoners were burned alive, မီးလောင်တိုက်တင်, မီးလောင်တိုက်သွင်း။
မီးလောင်မာ, *n.* the scar of a burn; မီးလောင်ရာ, a fire trace.
မီးလွှတ်စား, or မီးလွှတ်စား, *adv.* setting free from restraint, giving liberty to follow one's own inclination; *see* ပေါက်လွှတ်။
မီးလှုံ, *v.* to warm one's self by a fire.
မီးလျှပ်, *n.* a corruscation of light.
မီးလျှံ, *n.* the flashing of a flame, a corruscation of flame.
မီးသင်္ဘော, *n.* a steamship; မီးသင်္ဘောကလေး, a steam launch.
မီးသင်္ဘောခေါင်းတိုင်, *n.* a steamer's funnel.

မီးသတ်, *v.* to extinguish a light or fire, မီးငြိမ်း, မီးငေး။
မီးသတ်ဗုံဗိုင်, *n.* a fire engine.
မီးသားး, *v.* to clear a path in order to check the advance of fire, မီးတားး, မီးမခေလာင်ခင်မီးသားးရမည်။
မီးသေ, *v.* to die, or go out, as a fire, or as the light of a candle, or lamp.
မီးသွေး (from သွေ့, to be dry), *n.* a dead coal, charcoal.
မီးသွေးစင်စစ်, *n.* carbon.
†မီးမြှ (*pron.* ဗြ), *n.* pure silver; most excellent kind, တော်။
မီးယပ်, *n.* the menses, menstrual discharge, ဥတု, ရာသီပန်း။
မီးယပ်ခြောက်, *n.* a stoppage of the menses, မီးယပ်ပူ, မီးယပ်ပိန်။
မီးယပ်မို, *n.* excessive discharge of the menses.
မီးယပ်နာ, *n.* a disease occasioned by irregularity of the menses; *comp.* တုလာ။
မီးယပ်ပြန်, *v.* to have a return of the menses.
မုခပါဌ် (Pali မုခ, a mouth, and ပတ, to fall from), *n.* a divine speech or utterance, နှုတ်ကပတ်, ဘုရားနှုတ်မုခပါဌ်ပါဌ်တော်ဖြတ်။
မုချ (Pali) (*pron.* မုတ်ချ), *adv.* certainly; verily, ကေန်အမှန်, မုချအမှန်သွားမည်, ကြားခဲ့သည့်အတိုင်းမုချကေန်ပါသဲ, မုချဆတ်ဆတ်ပြုမည်။
မုဆိတ်, *see* မုတ်ဆိတ်, *n.* the beard of the chin.
မုဆိုး (*pron.* မုတ်ဆိုး), *n.* a huntsman, တောလည်မုဆိုး, တောလိုက်မုဆိုး; မုဆိုးတံငါ, huntsmen and fishermen collectively; မုဆိုး is said to be derived from အမှု, a deed or action, and ဆိုး, to be evil.
မုဆိုးလျှံမ, *n.* the *Desmodium triquetum.*
†မုဆိုးဖို, *see* မုတ်ဆိုးသို, *n.* a widower.
မုစ္ဆလိန္ဒာ (နဂါး), *n.* a famous *naga,* which during a storm, protected Gautama the Buddh with his hood, မုစ္ဆလိန္ဒာနဂါး ဘုရား၏ဦးခေါင်းတော်ကိုပါးပျဉ်းနှင့်အုပ်ထားသည်။
မုဋ္ဌော (Pali), *n.* a pagoda with a recess in each side. There are several pagodas in Burma called ရွှေမုဋ္ဌော. "These pagodas are said by the Burman annalists, to have been ordered to be completed, all at a certain time, when the moon would be emerging from an eclipse, and from this circumstance they are all called မုဋ္ဌော, from a Pali word signifying the release of the moon from eclipse." *Colonel Horace Browne.*
မုတ်, 1, *n.* aloes, the inspissated juice of the aloe, ရှားစောင်းလက်ပပ်စေး; used as a medicine, principally as a carminative.
မုတ်, 2, *n.* an arch, arched passage into a pagoda.
မုတ်ပေါင်းကူး, *n.* same; *v.* to turn such an arch.

မုတ်, 3, *n.* urine (*Med.*), အပေါ့, ကျင်ငယ်. The Burmese are of the opinion that the urine of a black bullock, is efficacious as a medicine in cases of persons who have weak circulation.

မုတ်ရည်, *n.* same as မုတ်။

မုတ်, 4, *v.* to measure with the breadth of the fist, the thumb being shut down beside the finger; hence အမုတ်။

မုတ်ကတူး, *n.* the short thick board placed at the bow and stern of a Burmese boat, in which the gunwales (လက်ရိုး) are inserted.

မုတ်ခွန်, *n.* the shell of the pearl oyster.

မုတ်ခွန်ငုပ်, *v.* to dive for pearl oyster shells.

မုတ်ခွန်ဗိုလ်, *n.* a European master-pearler (Mergui).

မုတ်ဆိတ်, *n.* the beard of the chin, မုတ်ဆိတ်မွေး။

မုတ်ဆိတ်ကြိုး, *n.* a guy rope.

မုတ်ဆိုး, *see* မုဆိုး, *n.* a huntsman.

မုတ်ဆိုးဖို, *n.* a widower.

မုတ်ဆိုးမ, *n.* a widow.

မုတ်နား, *n.* the beard; used in composition with မုတ်ဆိတ်, မုတ်ဆိတ်မုတ်နား ရိတ်ဖြီးလျှော်။

မုတ်ပုတီး, *n.* a necklace.

မုတ်သုံဖြန့်, မုတ်မ, *n.* a woman kept by a foreigner; a term of reproach.

မုတ္တ, *n.* a rupture, hernia.

မုတ္တကျို, *n.* the mastic tree, အရောင်တင်ဆီပင်; မုတ္တကျိုစေး, mastic.

မုတ္တမနာ, *n.* *lit.* the Martaban disease, a species of leprosy, said by the Burmese to supervene after virulent syphilis, တောင်ငူနာ။

မုဒရက် (ပင်), *n.* the *Bassia latifolia.*

မုဒိတာ (Pali), *n.* joy in the happiness of others, ဝမ်းမြောက်ခြင်း။

မုဒိန်း, *n.* a kind of drum.

မုဒိမ်း, *n.* a ravisher, one who commits a rape: *comp.* တဏ္ဍ။

မုဒိမ်းကျင့်, *v.* to ravish, commit a rape.

မုဒိမ်းတဏ္ဍ (*pron.* ဒဏ္ဍ), *n.* a robber, ravisher, etc.

မုဒုတာ (Pali), *n.* softness, နူးညံ့သိမ်မွေ့ခြင်း, ကာယမုဒုတာ, စိတ္တမုဒုတာ။

မုဒ္ဓဇာ (Pali မုဒ္ဓ, the head, and ဇာ, produced), *a.* cerebral, produced from the head; applied to consonants of the ဋ class.

မုန်, *see* အမုန်, *n.* the temporal juice which exudes at certain seasons from the male elephant's head, ဆင်မုန်ကျသည်, ဆင်မုန်ယိုသည်။

မုန်ညင်း, *n.* the mustard plant; mustard.

မုန်ညင်းစေ့, *n.* the mustard seed.

မုန်ညင်းဆီ, *n.* oil of mustard.

မုန်ညင်းမှုန့်, *n.* the pulverized seed of the mustard.
မုန်တိုင်, *n.* a kind of tree, the *Cycas*, မုန်ပင်။
မုန်တိုင်း, *n.* a violent wind, gale, hurricane, tornado; a storm, tempest, လေမုန်တိုင်းကျသည်။
မုန်လာ, *n.* the radish plant; သင်္ဘောမုန်လာ, the cabbage plant.
မုန်လာဥ, *n.* the radish.
မုန်လာဥဖြူ, *n.* the parsnip.
မုန်လာဥနီ, *n.* the beet.
မုန်လာဥဖြူ, *n.* the radish plant.
မုန်လာဥဝါ, *n.* the carrot.
မုန်လာဥဖိုင်း, *n.* the turnip.
မုန့်, 1, *n.* bread.
မုန့်ဦးနှောက် (*pron.* အုန်းနှောက်), *n.* a soft kind of bread.
မုန့်ကင်, *v.* to toast bread; *n.* (*pron.* မုန့်ဂင်), rusk, toast.
မုန့်ကျွဲသည်း, *n.* soft bread, pudding, porridge; *see* မုန့်နှပ်၊
မုန့်ကြက်အူ, *n.* a kind of cake made of rice and soaked in jaggery.
မုန့်ကြာဆံ, *n.* vermicelli of Chinese manufacture.
မုန့်ကြော်, *n.* fried cake.
မုန့်ကြွပ်, *n.* a wafer, thin cake.
မုန့်စိမ်း, *n.* dough.
မုန့်စိမ်းပေါင်း *n.* bread made of coarse rice flour and jaggery, and cooked by steam.
မုန့်ဆန်, *n.* a certain preparation of rice.
မုန့်ဆီကြော်, *n.* fried cake, မုန့်ကြော်။
မုန့်ညက်, *n.* flour.
မုန့်ညက်ဖျူး, *v.* to dredge, to sprinkle flour on roasting meat.
မုန့်ဒွာပနာ, *n.* a pie.
မုန့်တီ, *n.* vermicelli, မုန့်ဟင်းခါး။
မုန့်တွန့်စ, *n.* a kind of vermicelli.
မုန့်နှပ်, *n.* soft bread, pudding, porridge, မုန့်ကျွဲသည်း။
မုန့်ပင်, *n.* the breadfruit tree.
မုန့်ပေါတူ, *n.* a kind of cake.
မုန့်ပျားတူ (*pron.* မုန့်ပဒူ), *n.* a kind of cake, also called မုန့်ပျားတူအုံ, from its fancied resemblance to a hornet's nest.
မုန့်ပြစ်စလက်, *n.* a pancake.
မုန့်ပြား, *n.* a cake.
မုန့်ဖြူ, *n.* blancmange.
မုန့်လေဘွေ, *n.* a thin cake, very light and brittle, မုန့်ကြွပ်။

မုန့်သည်, *n.* a seller of bread, a baker.
မုန့်ဟင်းခါး, *n.* vermicelli of Burmese manufacture.
မုန့်, 2, *v.* to be small, minute, သေး, *not used assertively*, ရေထဲမှာပိုးကောင်မုန့်မုန့်ကလေးမမြင်နိုင်ဘူးလား။
မုန့်ဒခေါင်, *adv. highly intensive*, as မုန့်ဒခေါင်လှသည်, exceedingly handsome.
မုန်း, *v.* to dislike, hate, detest, မြင်ပျင်း။
မုန်းအားကြီး, *v.* to hate inveterately, ခင်ဗျားကျွန်တော်ကိုဘယ်အကြောင်းကြောင့်မုန်းအားကြီးပါလိမ့်မည်လဲ။
မုန်းဆေး, *n.* hatred prompted by another.
မုန်းထား, *v.* to hate intensely, သည်လူကိုအလွန်မုန်းထားသည်။
မုန်းမာန်, *n.* wrath.
မုန်းမာန်ဖီ, *v.* to show wrath, အမိုးရမင်းမုန်းမာန်ဖီထားသို့၊ရေထုးမကြီးမြင့်နိုင်။
မုယော (*pron.* မယော), *n.* barley, *Hordeum vulgare*, မုယောစပါး။
မုရင်း, *n.* a kind of rice plant, grown on the bank of a stream, or the shore of a lake, in the cold season, မုရင်းစပါး, မုရင်းဆန်။
မုရိုး, *n.* a kind of tree, ငမြုကြီး, the mudar.
မုရိုးစည်, *n.* a kind of drum (*obs.*).
မုရိုးစပါး, *n.* a kind of grain.
မရိုးနွယ်, *n.* a kind of creeper.
မုဒလေး, *n.* a kind of creeper, မြတ်လေး။
မုသာ (*commonly pron.* မုသား), *n.* falsehood; opposed to truth, မမှန်သောစကား; *comp.* မိစ္ဆာ; မုသာမပါလင်္ကာမချော။
မုသာနိုင်, *v.* to be addicted to falsehood, အလွန်မုသာနိုင်သည့်လူ။
မုသာပြော, *v.* to speak falsely, to tell a falsehood.
မုသာသက်သေ, *n.* a false or suborned witness, a perjurer; မုသာသက်သေခံမှု, perjury.
မုသာသုံး, *v.* to tell lies frequently, habitually.
မုံ, 1, *n.* a dyeing substance of inferior strength and color, used as a substitute for indigo, မုံခေါက်ဆိုးသည်။
မုံ, 2, *v.* to begin to form, as a bud; hence အမုံ; ကြာမုံဖူးကဲ့သို့လက်စုံဖူး။
မူ, 1 (from မူလ), *n.* an original writing from which a transcript is made; မူအတိုင်းလိုက်, to adhere to the original.
မူရင်း, *n.* an autograph; an original manuscript; the original
မူလက္ခံ, *n.* a copy of an original writing.
မူဟောင်း, *n.* an original document, မူဟောင်းစာ။
မူ, 2, *v.* to do, perform, ကျင့်, ဆောင်, ပြု; *frequently euphonic*; to act

like, assume the character of, ပြု, လုပ်; to be affected; ခင်ဗျားမိန်းမ ကိုလမ်းမှာတွေ့မတွေ့သည်ကို ကျွန်တော်သတိမမူလိုက်မိပါ။

မူကား, *sometimes* မူ, *n. affix nominative, frequently with an adversative signification; verb. affix continuative,* လျှင်, ရကား, တပြီးကား, မူလည်း။

မူလ (Pali), *n.* an origin, bottom, foundation, အရင်း, အမြစ်, မူလအ ကြောင်းအရာကိုခင်ဗျားပြောစမ်းပါဦး; ခင်ဗျားရန်ကုန်သားမူလတဲလား, were you, sir, originally a citizen of Rangoon? မူလမှန်ကြောင်းပြသည်, to authenticate.

မူလအမြစ်, *n.* the fountain head.

မူလစစ်, မူလမှန်, မူလဟုတ်, *v.* to be simple, uncompounded, genuine.

မူလပဏ္ဏ, *n.* (ဘူတ) same as မူလ, သည်လူပြောသည့်စကားမူလပဏ္ဏမမှန်ဘူး။

မူလမှန်သော, *a.* authentic.

မူး, 1, *n.* a *mu*, a weight of which there are two kinds, the great and the small; the great *mu* is equal to two great *pes* (ပဲ), or one eighth of a ကျပ်, and the small *mu* is equal to two small *pes*, or one tenth of a ကျပ်; မူးစေ့, a two anna bit.

မူး, 2, *see* မှူး, *n.* a person of rank.

မူး, 3, *n.* a small river, a rivulet, မြစ်မမြင်ဘူး၊မူးကိုမြစ်ထင်သည်။

မူးကောက်, *n.* rice grown on alluvial islands in the Mu River.

မူး, 4, *v.* to be giddy, dizzy; to be sea-sick, လှိုင်းမူး; to be intoxicated, ယစ်မူး, အရက်မူး; in certain instances မူးယစ်, may be applied figuratively, when it means to be intoxicated with delight, to be in an ecstacy, etc.

မူးထူး (*pron.* မူးဒူး), မူးမော်, မူးယစ်, *v.* same; မူးယစ်စွာ, *adv.* in a drunken manner, မူးရစ်စွာနှင့်ငါ့အနားကိုမလာနှင့်, မူးယစ်စွာဖြစ်သည်။

မူးယိုင်, *v.* to be tipsy, ဝေဝေ့ရှိသည်။

မူးဝေသွား, *v.* to faint.

မေ (လ) (Eng.), *n.* May.

မေတ္တာ (*pron.* မြစ်တာ) (Pali), *n.* benevolence, affection, love, ချစ်ခြင်း; an expression of good will or benevolence; a blessing, a prayer for the good of another.

မေတ္တာစာ (*pron.* မြစ်တစာ), *n.* a friendly letter, an epistle.

မေတ္တာရူး, *v.* to feel deep affection or love.

မေတ္တာပို့, *v.* to wish well, to bless, to pray for, ငါးရာနှစ်ဆယ်ရှစ်သွယ်သော မေတ္တာဖြင့်သွန်းလောင်းပို့သလျက်ရှိနေပါသည်။

မေတ္တာပြု, *v.* to do a kindness, ကျေးဇူးပြု, သည်စာထုပ်ကျွန်တော်အိမ်သို့ ရောက်အောင်မေတ္တာပြုပါ။

မေတ္တာဘာဝနာ, *n.* **meditation of kindness and affection. In the exer-**

-laci malou'pa-ne. thu-gai cai'yin, caite-lou. pyo:ba/" don't be coy, if you like him

cise of this mode of *bawana*, the thoughts must not be fixed upon any particular individual.

မေတ္တာမဲ့, *v.* to be lacking in affection; to be without affection.

မေတ္တာရပ်ခံ, *v.* to petition (*clerical*).

မေတ္တာရှိ, *v.* to have affection for, to love.

မေတ္တာသက်လား, မေတ္တာသက်ဝင်, *v.* to have affection for, to love.

မေတ္တေယျ, *n.* Maitri; *see* အရိမေတ္တေယျ, the fifth or coming Buddh.

မေထုန် (Pali မေထုန်, ပေါင်းဖော်ခြင်း), *n.* sexual intercourse, သံဝါသ, မေထုန်သံဝါသပြုသည်; Gemini, the third sign of the zodiac, နယုန်လ မေထုန်ရာသီဖေဖွဲ့နက္ခတ်နှင့်ယှဉ်သည်; မေထုန်ကျင့်, မေထုန်ပြု, မေထုန်မှီဝဲ; ဓမ္မတာအတိုင်းမဟုတ်၊မေထုန်မှီဝဲခြင်း, unnatural offense.

မေရယ, or မေရိယ, *n.* an intoxicating liquor or drug; *combined with* သူရာ; *see* ပဉ္စသီလ။

မေ့, *v.* to forget; to be stunned, to swoon; ကျွန်ုပ်သယ်အရပ်သို့ဘဲရောက် ရောက်မမေ့နိုင်ပါ, whatever locality I may reach, I cannot forget you; မြင်းပေါ်ကကျလို့မေ့နေသည်; ကျွန်တော်အင်္ကျီမေ့ကျန်ရစ်ခဲ့ပြီ, I forgot my jacket, and left it behind, ငယ်ငယ်ကသင်ခဲ့သည့်စာများကြီးလို့မေ့ကုန်ပြီ။

မေ့ကျန်, *v.* same; မေ့ကျန်ရစ်, to forget and leave something behind.

မေ့ခနဲ့ပျော်, *v.* to doze, slumber, တမြေ့အိပ်သည်။

မေ့ဆေး (*pron.* မေ့ဆေး), *n.* chloroform, laughing-gas, ether, မေ့ဆေးပေး။

မေ့လျော့ (*freq. written* မေ့ရော့), *v.* same as မေ့ကျန်; to be forgetful, and hence to be heedless, careless, တယ်မေ့လျော့တတ်သည့်လူ၊ကြာလျှင် ထမင်းငတ်လိမ့်မည်, he is a very forgetful man, and will starve in time.

မေး, 1, *n.* the lower jaw.

မေးခိုက်ခိုက်တုန်, *v.* to chatter with the teeth, as when cold, or in great fear.

မေးခိုင်, *v.* to be stiff or firmly closed, as the jaws in lockjaw, or on the near approach of death.

မေးခိုင်ရောဂါ, *n.* tetanus, lockjaw.

မေးစေ့, *n.* the chin.

မေးတွက်ကြိုး, *n.* a martingale.

မေးထောက်, *v.* to rest the chin on the hand.

မေးထိုး, *v.* to protrude the chin, as when in convulsions, or on the near approach of death, or in derision.

မေးဖျား, *n.* the chin, မေးစေ့။

မေးမော့, *v.* to thrust out the chin in an upward direction in contempt or derision, တယ်မေးမော့ချင်သည့်အရပ်၊မနေချင်ပါ။

မေးရိုး, *n.* the lower jaw-bone.

မေးသိုင်းကြိုး, *n.* the curb of a bridle.

မေး, 2, *v.* to ask, inquire, ခရီးတယ်လောက်ဝေးသလဲသူ့ကိုမေးစမ်းပါ, ask him, please, how far it is, မနေ့ကဦးပန်းပုံလာတုန်းခါခင်ဗျားကိုမေးသည်, yesterday, when U Pan Bon came, he inquired about you.

မေးခွန်းထုတ်, *v.* to interrogate a witness, as an advocate.

မေးခွန်းနာ, *v.* to be damaging, as questions put in cross-examination.

မေးစစ်, *v.* to interrogate.

မေးထူးခေါ်ကြား, *v.* to be on speaking terms, မေးထူးခေါ်ကြားရှိကြသည်; to be within speaking distance, as the occupants of two houses, တယ်မဝေးလှပါဘူး၊မေးထူးခေါ်ကြားလောက်ရှိပါသည်။

မေးမြန်း, *v.* to ask, inquire, ၎င်းအကြောင်းအရာကိုမေးမြန်းမည်မထင်ပါ။

မေးမြူ, *v.* same (*infreq.*).

မဲ (ပင်), 1, *n.* anil, the indigo plant; indigo, မဲထိုး။

မဲကြီး, *n.* the *Ruellia indigofera.*

မဲခင်း, *n.* an indigo plantation.

မဲနယ်, *n.* indigo.

မဲနွယ်, *n.* a species of indigo plant; a creeper, producing the asclepias blue dye.

မဲရိုင်း, *n.* wild indigo.

မဲ, 2, *n.* a lot, စာရေးတံ။

မဲကောက်, မဲချ, *v.* to cast lots; မဲကောက်ယူကြစို့, let us cast lots for it.

မဲလိပ်, *n.* a raffle ticket.

မဲ, 3, *n.* an extra weight put into one side of a balance, boat, etc., in order to make an equilibrium, မဲတင်း; လှေစောင်းနေပြီ၊မဲတင်းစီးကြပါ, ထမ်းပိုးအလယ်မကျလို့မဲတင်းထမ်းရသည်။

မဲ, 4, *see* မည်း, *v.* to be dark, black; to be dark in mind, ignorant, foolish, မိုက်။

မဲတူတာ, မဲနက်, *v.* same, အသားမဲတူတာနှင့်, မိန်းမလှမဲတူတာကြီး။

မဲတဲတဲ, *a.* blackish, မဲတည်းတည်း။

မဲမဲသဲသဲ, *adv.* darkly, very dark, ပေါ်းမဲမဲသဲသဲထသည်, သစ်ပင်များမဲမဲသဲသဲကြီးလာသည်။

မဲ, 5 (*an abbrev. of* ခြောင်းမဲ), *v.* to theaten, daunt; to terrify indirectly; ကျွန်တော်ကိုမဲပြီးထုပ်သည်; မယားကိုမဲချင်လို့ကြောင်ရိုက်သည်, to terrify his wife, he beats the cat.

မဲဇလီ, *n.* a kind of tree, the *Cassia florida.*

မဲဇလီကြီး, *n.* the winged cassia, used as a remedy for ringworm.

မဲဇာချွလီ, *n.* two rivers in U.B., near the confluence of which was a penal settlement; the locality being highly malarious, deportation

thence, was popularly regarded as equivalent to death.
ခဲပြောင်, *n.* a kind of tree, the *Maba buxifolia.*
မှဲ့, 1, *v.* to be disfigured in face, as when crying, ငိုမည်လို့မျက်နှာမဲ့နေသည်။
မဲ့စွက်စွက်, *adv.* with an ashamed, downcast countenance, သည်မိန်းမမျက်နှာမဲ့စွက်စွက်နှင့်အလွန်အရုပ်ဆိုးသည်။
မဲ့ယွဲ့, *v. see the parts,* မျက်နှာမဲ့ယွဲ့နေသည်။
မဲ့, 2, *v.* to be wanting, not full, မပြည့်; not to be, မရှိ; *commonly used without a modal affix,* as သစ္စာမဲ့, truth wanting, or without truth; similar to the English termination "less," ကျွန်တော်မိတ်ဆွေဦးလောစံ ဆုံးကတည်းက၊ အမိမဲ့သားကဲ့သို့ဖြစ်နေပြီ, since my friend U Law San died, I have been like a motherless child; တယ်သစ္စာမဲ့သည့်လူ၊ မပေါင်းနှင့်, a very faithless man; do not associate with him; ကျွန်တော်မကိုအကြောင်းမဲ့ရိုက်ပါသည်, he beat me without cause; တရားမဲ့, lawless.
မော, *v.* to be tired, fatigued; to be in an exhausted condition, as a sick person; သည်တောင်တက်ရသည်မှာတယ်မောသည်; လူနာတယ်မောသည်၊ တာရှည်ခံနိုင်မည်မထင်ပါ, the sick person is in a very exhausted condition, I do not think that he can hold out long.
မောပန်း, *v.* same; မောပန်းတကြီး, *adv.* in a tired, worn-out manner, ခင်ဗျားမောပန်းတကြီး၊ ဘယ်ခရီးကလာသလဲ, from what journey have you come, that you are so weary, sir?
မောက်, *v.* to be rounded, prominent, elevated in the centre, ခုံ; hence အမောက်; to be very high, elevated, towering; *see* မြင့်မား; ပုကန်ထဲမှာထမင်းပြည့်ရုံမက‌မောက်နေသည်, the dish is not merely full, the rice is heaped up.
မောက်စောက်, *v.* to be arrogant, ထောင်လွှားသည်; to be imperious, dictatorial, as language, ခင်ဗျားစကားမောက်စောက်သည်၊ မထုံတင်ခံဖြစ်နေပြီ, your language is imperious, sir; it has become intolerable; to be lofty, သည်သစ်ပင်အခြားသစ်ပင်ထက်မောက်စောက်သည်, this tree is more lofty than other trees.
မောက်မြီး, *v. see the parts.*
†မောက်တို, *n.* a kind of bonnet or cap, စစ်သည်တို့ဆောင်းသည့်မောက်တို။
မောက်မာ, *v.* to be strong, firm, hard (in language), စကားမောက်မာသည်; to be of strong, atheletic build, လူလုံးလူရုပ်မောက်မာသည်။
မောက်ရှူ, *n.* a kind of official cap, with a crest.
မောင်, *n.* the brother of a woman; Brother; prefixed to names of men and indicative of equality; Sir, *as an appellative* to a young man,

and rather respectful; မောင်မောင်, *a term of compellation* used in addressing the sons of notable men.

မောင်ကြီး, *n.* the elder brother of a woman, မောင်ကြီးနှစ်ဆ၊အစ်မကြီးအဖို့, as in dividing an inheritance.

မောင်ငယ်, *n.* a woman's younger brother, မောင်။

မောင်တော်, *n.* a cousin, ညီအစ်ကိုတော်။

မောင်နှံ, *n.* a husband, လင်; မောင်နှံဖိုမ, male and female (of birds), မောင်နှံဖိုမတို့ရှင်ပျော်ကစားသည်ဖြစ်၍၊အလွန်ရှုချင်ဘွယ်ရှိ၏။

မောင်ဘတ္တာ, *n.* Mr.; addressed to one whose name is not known (*not respectful*); မောင်ဘတ္တာဘယ်ကလာသလဲ; ဘတ္တာ is said to be a corruption of the Pali ပတ္တာ, a husband; *comp.* မွန်းရှင်။

မောင်မင့်, *pron.* you, *mas.*; used to an inferior.

မောင်မင်း, *n.* same; rather imperious or disrespectful; မောင်မင်းကြီး, same; usually used in a deprecatory sense, မလုပ်ပါနှင့်မောင်မင်းကြီးရယ်, သွားပါစေမောင်မင်းကြီးရယ်။

မောင်ရှင် (*commonly pron.* မောင်ရင်), *n.* a probationer for the Buddhist priesthood, ရှင်, သာမဏေ; မောင်ရှင်လောင်း, one about to become a probationer; Brother; *a term of compellation* addressed to men younger than one's self; *comp.* ကိုရှင်. Burmese parents frequently address their sons as မောင်ရှင်, after they have been probationers and have become laics again. It is sometimes, however, a style of address used indiscriminately by both men and women, toward young men whom they do not know; Burmese sisters usually address their younger brothers as မောင်ရှင်။

မောင်လည်နှမလည် (*pron.* မောင်လယ်နှမလယ်), *n.* mutual brothers and sisters-in-law, *e.g.*, Nga Pyu marries Nga Me's sister, and Nga Me marries Nga Pyu's sister, မောင်လည်နှမလည်တော်ကြသည်။

မောင်ဟာဝါ, *n.* Mr.; addressed to one whose name is not known; *see* မောင်ဘတ္တာ။

မောင်ဟိုတင်း, *n.* same; *see* မောင်ဘတ္တာ။

†မောင်မခေါ် (ပင်), *n.* the *Combretum extensum*. Where timber and bamboos are scarce, it is used for making the walls and floorings of temporary structures, and of the houses of the poor.

မောင်း, 1, *n.* the arm; လက်မောင်း, the upper arm; လက်ရုံး, the lower arm; a lever, turning on a pivot, မောင်းတုံး; *comp.* ကုတ်; a well pole, or pump handle, မောင်းလက်; the spring of a gun, သေနတ်မောင်း; a spring.

မောင်းဆုံး, *n.* the socket of the shoulder.

မောင်းကန့်လန့် (*pron.* ဂလန့်), *n.* a horizontal pivot.
မောင်းကန့်လန့်ကျင် (*pron.* ဂလန့်ကျင်), *n.* same.
မောင်းကော်, *v.* to prize; to move with a lever, to pry.
မောင်းကျောက် (*pron.* ဂျောက်), *n.* a kind of pestle used in cleaning paddy.
မောင်းချထား (*pron.* ဂျဒါး), *n.* a clasp knife.
မောင်းခွက် (*pron.* ဂွက်), *n.* the cup of a rice mortar.
မောင်းခွေး (*pron.* ဂွေး), *n.* the iron ring of the pestle of a rice mortar; a plain finger ring, မောင်းခွေးလက်စွပ်။
မောင်းစွပ်, *n.* a sleeve; any ornament worn on the arm.
မောင်းဆုံ, *n.* the cup of a rice mortar; *see* မောင်းခွက်။
မောင်းတင်, *v.* to set a spring; ထားကိုမောင်းတင်, to raise and open the blade of a knife; သေနတ်မောင်းတင်, to cock the trigger of a gun; တမောင်းတင်, to half-cock (a gun); နှစ်မောင်းတင်, to full-cock (a gun).
မောင်းတင်းကုပ်, *n.* a rice-pounding shed.
မောင်းတံ, *n.* the lever which raises the pestle of a rice mortar; any lever used for raising by pressure on a fulcrum; *comp.* ကုတ်; မောင်းတံကော်, မောင်းတံထိုး။
မောင်းထုတ်ဆန်, *n.* pestle-pounded rice, ready for use.
မောင်းပြော့, *v.* to be weak, as a spring, သေနတ်မောင်းပြော့။
မောင်းရင်း, *n.* the upper part of the arm, close to the shoulder.
မောင်းလက်, *n.* a pump handle; a pole suspended on a pivot for raising water.
မောင်းသန်, *v.* to be strong, as a spring, သေနတ်မောင်းသန်သည်; to be strong in the upper arm.
မောင်း, 2, *n.* a Burmese gong; formerly a measure of time equal to three English hours.
မောင်းကြော်, *v.* to expose (a malefactor), by beat of drum and declaration of his crime.
မောင်းခတ်, *v.* to proclaim by beat of gong, by way of giving information or warning to the public.
မောင်းတီး, *v.* to strike a gong, မောင်းထု။
မောင်းလက်, *n.* a gong stick, လက်ခတ်။
မောင်းလှည့်, *v.* to go about with a drum, as a crier or bellman.
မောင်း, 3, *v.* to threaten; *not used singly*; to drive; to drive away (an animal), ခွေးကိုမောင်းလိုက်ပါ။
မောင်းမဲ, *v.* to threaten, ခြိမ်းမောင်းသည်, ခြိမ်းခြောက်မောင်းမဲ, ကျွန်တော်ကိုမောင်းမဲပြီးထွက်သွားသည်, he threatened me and went away.
မောင်းလားချ, *v.* to exercise a horse.

မောင်း, 4, *v.* to be of a dark red or purple color, သည်ပုဆိုးအရောင်မောင်းလွန်းသည်၊လူငယ်နှင့်မတော်ပါ, the color of this *puhso* is too dark red; it is not suitable for a young man, မြတ်စွာဘုရားသည်၊မောင်းသောအရပ်မှ၊မောင်းသောရောင်ခြည်တော်ကိုလွှတ်တော်မူသည်, the most excellent Buddh sent forth, a dark red ray of light, from a dark red part (of his body) (118).

မောင်းထောင်အစ်, *n.* a kind of အစ် manufactured at the village of Maungtaung.

မောင်းထောင်ခွက်, *n.* a lacquered bamboo bowl, manufactured at the same village; a wooden bowl.

မောင်းမ, *n.* a female attendant or concubine of a king, ကိုယ်လုပ်တော်။

မောင်းမမိဿံ, *n.* same; မောင်းမမိဿံအခြွေအရံ၊ပရိသတ်။

မောနေယျ (*pron.* နေးယ), *n.* a series of the extremest austerities, so severe that during the time of a Buddh only one person is found capable of practising them; even the most enthusiastically religious person can practise them for only twelve years, those moderately so, for seven years, and those least enthusiastic, for seven days. It is incumbent on those who perform these austerities, wholly to eschew sleep; မောနေယျဆု, မောနေယျရဟန္တာ။

မောရဂိဝါကျောက်, *n.* a kind of stone used in alchemy.

မောရဂိဝါကြေးနီစားကျောက်, *n.* copper ore.

မောရဂိဝါငွေစားကျောက်, *n.* silver ore.

မောဟ, *n.* darkness, ignorance, folly; "*moha* is so called because it cleaves to that which is evil and does not cleave to that which is good." M.B.

မောဟကန်းကန်း, *adv.* in a nonplussed manner.

မောဟဖုံးလွှမ်း, *v.* to be enveloped in ignorance.

မောဟမှု, *n.* same as မောဟ; မောဟမှုမိတ်နှစ်ခု။

မော့, *v.* to turn up the face, to look up, မျက်နှာတဆိတ်မော့စမ်းပါ; သေနတ်ကိုမော့ထား, to elevate a rifle or gun.

မော့ကြည့်, *v.* same, သစ်ပင်ပေါ်မှာငှက်ကိုမော့ကြည့်စမ်း။

မော်, *v.* to be ascending, to be high in a slanting direction, as a path up a hill, လမ်းမော်တက်သည်; or a rapid in a river, ရေမော်ကျသည်, ရေမော်တွေပြီ၊သတိထားခတ်ကြ; to look forward in an upward direction; to be haughty, insolent, ထောင်လွှား; hence, အမော်, ရေမော်; to swagger, တယ်မော်သည့်လူ, လူမော်; to be bumptious.

မော်ကြည့်, *v.* to look forward in an upward direction, မျက်နှာကိုမော်မကြည့်ဝံ့အောင်ကြောက်သည်။

မော်ကြွား, *v.* to be overbearing, arrogant.

မော်တီးမော်ကန်း (*pron.* မော်ဒီးမော်ဂန်း), *adv.* in an insolent, swaggering manner.

†မော်ကွန်း (*pron.* ဂွန်း), *n.* a permanent inscription; a register, record of dates, boundaries, etc.; မော်ကွန်းမိုက်, မော်ကွန်းတင်, မော်ကွန်းထိုး, မော်ကွန်းရေး, မော်ကွန်းထိုးလောက်သည့်လူပါ။

မော်မိမော်မန်း, *adv.* heedlessly, carelessly, without an object, နမော်နမဲ့။

မော်ယော်, *n.* a kind of silk.

မို, *v.* to be elevated, raised in the centre, မောက်။

မိုမောက်, *v.* same, သည်မြေကြီးမိုမောက်နေသည်၊ ညီအောင်ညှိလိုက်ပါ, this ground rises in the centre; please level it; တောင်ပူဆာကလေးမိုမို, a little rising hummock.

မိုက်, 1, *n.* a crucible, or cupel, မိုက်ခွက်။

မိုက်အင်, မိုက်ခွက်, *n.* a flat cupel.

မိုက်စောက်, *n.* a deep cupel, လုံးစောက်။

မိုက်ဆရာ, *n.* one skilled in extracting gold or silver from old crucibles, မိုက်သူကြီး။

မိုက်ထုတ်, *v.* to extract gold or silver from old crucibles.

မိုက်လုံး, *n.* a deep cupel; *see* မိုက်စောက်။

မိုက်, 2, *v.* to be dark, မလင်း, မှောင်, မိုက်လိုက်သည့်မှာမဲနေရော့; to be ignorant, foolish, wicked, မဲ။

မိုက်ကန်း, *v.* to be blindly foolish, တယ်မိုက်ကန်းသည့်လူ။

မိုက်မဲ, မိုက်ရိုင်း, *v.* to be foolish and impolite.

မိုက်, 3, *v.* to measure with the breadth of the fist with the thumb erected; hence အမိုက်; ပြက်ဘယ်လောက်ရှိသလဲ၊မိုက်စမ်းပါ။

မိုဃ်း (Pali မေဃာ), *n.* the sky, the visible heavens; the clouds; rain; *comp.* တိမ်; မိုဃ်း and လေ are often used together in the same expletive way as ထိုင်းလေ and သွေးလေ။

မိုဃ်းအုံ, *v.* to be covered with clouds, as the heavens.

မိုဃ်းအုံ့, *v.* to be overcast, slightly overspread with clouds.

မိုဃ်းဥတု, *n.* the rainy season, မိုဃ်းရာသီ, မိုဃ်းကာလ။

မိုဃ်းဦး, *n.* the beginning of the rains; မိုဃ်းဦးကျ; မိုဃ်းဦးစော, to be early, as the rains; မိုဃ်းဦးနှောင်း, to be late, as the rains.

မိုဃ်းကာ, *n.* a screen from the rain, an awning.

မိုဃ်းကာအင်္ကျီ, *n.* a waterproof cape or coat.

မိုဃ်းကာလ, *n.* the rainy season; *comp.* ဥတု, မိုဃ်းဥတု။

မိုဃ်းကုန်, *v.* to terminate, as the rainy season.

မိုဃ်းကုပ် (*pron.* ဂုပ်), *n.* the place of the apparent junction of the sky

and earth, the horizon, ပဲခူးကွင်းဘယ်လောက်ကျယ်သည်မပြောနှင့်တော့၊ မိုးကုပ်ကျွဲဒါဲ (*Colloq.*).
မိုးကောင်း, *v.* to rain abundantly throughout the season.
မိုးကောင်းကင်, *n.* the sky.
မိုးကောင်းငှက်, *n.* the broad-billed roller.
မိုးကြိုး, 1, *n.* an alloy of copper and gold used in making finger rings, ear tubes, etc., မိုးကြိုးလက်စွပ်, မိုးကြိုးနားတောင်း။
မိုးကြိုး, 2 (*pron.* ကြိုး), *n.* a thunderbolt, မိုးကြိုးစက်။
မိုးကြိုးကွင်း, *v.* to cause a stroke of lightning to deviate.
မိုးကြိုးကွင်းတိုင်, *n.* a lightning conductor.
မိုးကြိုးစက်, *n.* a thunderbolt; a galvanic battery.
မိုးကြိုးထစ်, *v.* to thunder in short claps.
မိုးကြိုးပစ်, *v.* to strike, as lightning, မိုးကြိုးပစ်၍သေသည်, he was struck dead by lightning; မိုးကြိုးပစ်ထန်းလက်ကာ, to screen one's self with a *tan* leaf, to avoid being struck by lightning, *i.e.*, to meet a difficulty, or danger, with insufficient means of resistance; မမှန်သည့်စကားပြောမိလျှင်၊မိုးကြိုးပစ်စေ, if I should speak untrue words, may I be struck by lightning.
မိုးကြိုးရောင်, *a.* bluish red, နီပြာပြာ။
မိုးကြိုးသံ, *n.* thunder.
မိုးကြိုးသွား, *n.* a thunderbolt, မိုးကြိုးစက်။
မိုးခေါင် (from ခေါင်, to be out of the way), *v.* to be dry, as the clouds; not to rain in season, မိုးခေါင်ရေရှား။
မိုးခေါ်, *v.* to long for rain, as men and animals; *lit.* to call the rain.
မိုးခို, *v.* to stay through the rainy season; to take shelter from the rain.
မိုးချုန်း, *v.* to thunder, မိုးခြိမ်း။
မိုးချုပ်, *v.* to shut in, (close) as evening, မိုးချုပ်း။
မိုးငွေ့, *n.* humid air, နှင်းငွေ့။
မိုးစာ (*pron.* ဇာ), *n.* a kind of sparrow.
မိုးစဲ, *v.* to cease raining, မိုးတိတ်သည်။
မိုးစွေ, *v.* to rain incessantly; to be showery.
မိုးစွေငှက်, *n.* the English swallow, *Hirundo rustica*; *comp.* ပျံလွှား။
မိုးဆင်, *v.* to have the appearance of coming rain, as the sky: *more than* မိုးနာ။
မိုးဆော့, *v.* to rain in frequent showers.
မိုးဆွံ့, *v.* to be scanty, as rain in the rainy season, မိုးဆွံ့ပါး။
မိုးဆွေ (ပင်) (*pron.* ဇွေ), *n.* a kind of tree, အဆင်းရှိသော၊အနံ့မရှိသော မိုးဆွေပန်း။

ယှိုယ်းကုပ်စက်ရိုင်      horizon B slip

ပ္ဍဲယ် ဗြုၚ်း ဝိ-      B s.v.

spend, stay a year (of laymen; cf. ဝါဓိ- for monks) HMG

မိုးတိတ်, *v*. [redacted] e raining, မိုးစဲ။
မိုးတိမ် (*p*[redacted], *n*. a cloud.
မိုးတွင်းသေ[redacted] pecies of sundew, ကျေးသံပန်း။
မိုးထင်း, *v*. [redacted] ain-stained, as clothes.
မိုးနကြီး, *n*. [redacted] kanese name for the green bee-eater, ပုစဉ်းထိုးငှက်။
မိုးနံ, *n*. a [redacted] plant.
မိုးနာ, *v*. t [redacted] threatening aspect, as the clouds; *lit*. the sky is sick.
မိုးနှင်း, *n*. [redacted] e rainy season, a rain-fog.
မိုးနွံ (ပင်) [redacted] growing into a thorny bush, from eight to ten feet [redacted] ing ovate, glossy leaves. The root of this plant is [redacted] th salt and administered to persons who exhibit p [redacted] mptoms of smallpox.
မိုးနှောင်း, *n*. the [redacted] the rains; *v*. to be late, as the rainy season.
မိုးပက်, *v*. to be [redacted] rain.
မိုးပါး, *v*. to be [redacted] as a rainfall.
မိုးပေါက်, *n*. a d [redacted] ain, မိုးပေါက်ကျ။
မိုးပြေ, *n*. a sudd [redacted] l. မိုးပြေး, *n*. a passing shower.
မိုးပြောက်, *v*. to [redacted] potted, as clothes.
မိုးပွင့်, *n*. snow; [redacted] ar up and be sunny.
မိုးဖွဲ, *n*. fine rain [redacted]
မိုးဖွဲကျ, မိုးဖွဲဖွဲ [redacted] drizzle.
မိုးမခ, 1 (from ခ [redacted] ourt to), *n*. the willow; so called because it flourishes inde [redacted] of rain.
မိုးမခ, 2, *n*. the *S*[redacted] *asperma*, a kind of orchid.
မိုးမိ, *v*. to be over [redacted] y a shower of rain, or by a rainstorm.
မိုးမြည်, *v*. to rumb [redacted] e sky, to thunder.
မိုးမြေလယ်ယာကိုင်းကျွန်း, *n*. a collective term for cultivable land.
မိုးမှုန်, *v*. to be misty, dusky, as the atmosphere before rain; *comp*. လေမှုန်။
မိုးမှောင်ကျ, *v*. to become dark, as the sky with rain-clouds, မိုးရိပ်။
မိုးမှိုင်း, *v*. to lower, as the sky, မှောင်ကျသည်။
မိုးရွာ, *v*. to rain.
မိုးလင်း, *v*. to dawn; to clear up, as the sky after rain, to become fair, မိုးလင်းလျှင်မြင်းပွဲဖြစ်စရာရှိသည်; မိုးလင်းစပြုပြီ။
မိုးလယ်, *n*. the middle of the rainy season, မိုးလယ်မိုးနှောင်းကောင်း။
မိုးလေပြင်း, *v*. to be stormy, boisterous.
မိုးသက်မုန်တိုင်း (*pron*. မိုင်း), *n*. a storm, tempest.

မိုဃ်းသက်လေ, *n.* wind precursing a storm.

မိုဃ်းသား, *n.* a dark rain-cloud, မိုဃ်းသားတက်။

မိုဃ်းသီး, *n.* hail; large sago.

မိုဃ်းသီးကျ, *v.* to hail, မိုဃ်းသီးကြွေသည်။

မိုဃ်းသောက်, *v.* to be early in the morning, be[illegible]rise; မိုဃ်းသောက်ချိန်, the dawn, မိုဃ်းသောက်လပ (*pron.* [illegible]ဃ်းသောက်လပအခါသွားပါမည် (*Colloq.*).

မိုဃ်းသောက်ထ, *v.* same as မိုဃ်းသောက်။

မိုဃ်းသောက်ယံ, *n.* the time just before dawn.

မိုင်းကိုင်စက္ကူ, *n.* a paper made in မိုင်းကိုင်, one [illegible] States.

မိုင်းမ, *v.* to help, aid, assist, ညီညာ, ကျွန်တော[illegible]ညီလုပ်တော်မူကြပါ, မိုင်းမကြည့်ရှုပါ။

မို့, 1, *v.* to be elevated, raised in the centre[illegible]

မို့, 2, *v.* to be slightly raised or swelled, a[illegible] appearance of a mountain at a distance, ဟိုကတောင်မို့မို့ကြ[illegible]လား။

မို့, 3, *n. affix causative,* because of, on acco[illegible]*olloq.*); *frequently preceded by* လို့; ခင်ဗျားတယောက်တည[illegible]ည့်ခံသည်၊နှစ်ယောက်သုံးယောက်ဧည့်မခံနိုင်ပါ; စိတ်ဆိုးလို့မို့ ပြော[illegible]ပါ၊ မေတ္တာရှိလို့သာ ပြောပါသည်; *sometimes preceded by* သို့[illegible]ပြောသည်, သို့မို့ကြောင့် ပြောသည်။

မို့တုံး, *a contraction of* မဟုတ်တုံး; *used as* [illegible] *negative, affixed to an assertive affix* (*colloq.*), ခင်ဗျား[illegible]ဒယ်လို့ကျွန်တော်အကြံပျက်စီးသည်မို့တုံး; *equivalent to* မဟုတ်ပါ[illegible] မဟုတ်ပါဘူး; သင့်ကိုဆိုးမသည်မို့တုံး။

မို့လား, *a contraction of* မဟုတ်လား, *sam*[illegible]င်းအောင်၊ ဆောင်တိုင်းမြောက်မို့လား၊မင်းလိမ္မာလို့မို့လား။

မိုး, *v.* to cover without contact, to sprea[illegible]ead, as an umbrella, ထီးမိုး; to hold a *da* in a threatening manner over a person, ထားနှင့်မိုးသည်, ထားနှင့်မိုး၍ပစ္စည်းကိုတောင်းသည်; *comp.* လွှမ်း; to be chief, superior, အုပ်, ကဲ; hence အမိုး; to excel, surpass, ခင်ဗျားအကြံကျွန်တော်အကြံထက်မိုးလာသေးသည်, သည်မြို့ပေါ်မှာအကြီးပွဲလုပ်လို့မိုးနေသည်, သူ့ဉာဏ်မိုးနေသည်။

မိုးကာ, *v.* to shelter, ward off from overhead; to cover from some evil.

မိုးနှီး, *n.* thin strips of bamboo, used for tying thatch down upon the bamboo framework of the roof of a house.

†မိုးတိုးမတ်တတ် (*pron.* မိုး), *adv.* standing in an erect posture; standing for a little while, as when one stops for a moment in a walk; *comp.* မတ္တ, and ခဏမတ္တ; ခဏမိုးတိုးမတ်တတ်ကြွခဲ့ပါ, မိုးတိုးမတ်တတ်မနေနှင့်,

မိုးတိုးမတ်တတ်လမ်းရှောက်သည်, ရဒဂ်မိုးတိုးမတ်တတ်မြင်လိုက်သေးသည်။

မျက်, 1, *n.* a gem, precious stone, ကျောက်မြတ်; မျက်ကိုးပါး, စိန်, diamond; ပတ္တမြား, ruby; ကျောက်မျက်ရွဲ; မြ, emerald; ဂေါမုတ်, garnet; နီလာ, sapphire; ပြုရား; ဥဿဘယား, topaz; မဿရကန်။

မျက်အိမ်, မျက်အိုး, *n.* an ouch, the socket in which a stone is set, including both the collet and the bezel, ကျောက်မျက်အိုး။

မျက်ပါး, *n.* gold or silver leaf, ရွှေမျက်ပါး, ငွေမျက်ပါး; used also in respect to other metals, as ကြေးနီမျက်ပါး, ကြေးဝါမျက်ပါး; မျက်ပါးခတ် (119).

မျက်မွန်, မျက်ရှင်, *n.* same as မျက်, ပတ္တမြားမျက်မွန်။

မျက်ရွဲ, *n.* same; also a particular kind of precious stone, ကျောက်မျက်ရွဲ။

မျက်, 2, *n.* the eye; *seldom used except in composition*; မျက်စိ။

မျက်ကန်း, *a.* blind, (*impolite*); မျက်မမြင်, to be blind (*polite*).

မျက်ကလဲဆန်ပြာ, *adv.* looking about wildly from fright; ကြောက်လွန်း လို့ မျက်ကလဲဆန်ပြာနေသည်, သည်လူမျက်လုံး မျက်ကလဲဆန်ပြာ ဖြစ်နေသည် (*rare*); မျက်လုံးဝိုင်း။

မျက်ကွက်, *n.* grated work, open work made in squares; a trellis, ဆင် မျက်ကွက်ထိုး, ဆင်မျက်ကွက်ရက်သည်။

မျက်ကွင်း, *n.* the eye socket, မျက်တွင်း။

မျက်ကွင်းညို, *v.* to be dark under the eyes.

မျက်ကွယ်, *adv.* out of sight, မျက်ကွယ်မှာအတင်းပြောတတ်သည်။

မျက်ခမ်း, *n.* the edge of an eyelid.

မျက်ခမ်းစပ်, *v.* to have red edges to the eyelids without eyelashes; to be blear-eyed.

မျက်ခုန်း, *n.* the arch over the eye, the eyebrow.

မျက်ခုန်းမွေး, *n.* the hair of the eyebrow.

မျက်ခုန်းရိုး, *n.* the bone under the eyebow.

မျက်ချစ် (ဆေး), *n.* a medicine or charm to excite love, အနူဆေး, မျက် နှာချစ်ဆေး, မျက်နှာပွင့်, အားဆေး; an aphrodisiac.

မျက်ချေး, *n.* the exudation of the eye (*vulgar*), မျက်ဝတ် (*elegant*).

မျက်ချို, *adv.* with a sweet smiling face.

မျက်ချိုကျွေး, *v.* to allure with a smiling countenance.

မျက်ချိုသွေး, *v.* to allure.

မျက်ခြား, *a.* a term applied to bullocks which have a small patch of white hair outside the outer corner of each eye. To frequently purchase bullocks possessing this mark, is supposed to bring ill-luck.

မျက်ခြေပြတ်, *v.* to lose sight of, ရှေ့လူကိုနောက်လူကမျက်ခြေပြတ်သွားမလိုက်နိုင်။

မျက်ခွက်, *n.* the face, မျက်နှာ။

မျက်ခွံ, *n.* an eyelid, မျက်လွှာ။

မျက်စည်း (*pron.* စဉ်း), *n.* collyrium, eyewater, medicine for the eyes, မျက်စည်းဆေး. This medicine is injected into the eyes of horses and cattle when they are in bad condition, or have been much exposed to the sun; one recipe is ကွမ်းရွက်၊လေးညှင်း၊ဆေးရွက်၊ဆား; these ingredients are ground up together to a consistency and mixed with water, မျက်စည်းခတ်; မျက်စည်းဘော်, *v.* to compound such medicine.
မျက်စပစ်, *v.* to give a hint with the eyes, မျက်ရိပ်ပေး။
မျက်စိ, *n.* the eye, မျက်စိမျက်နှာမှတ်ထားပါ; မျက်စိတမှိတ်, in the twinkling of an eye; မျက်စိတဆုံး, မျက်စိတသတ်, as far as the eye can see; ဗိုလ်ဘုရားမျက်စိဆုံးလောက်ရှိတိုင်အောင်သွားဟန်မှူ၍တာဝတိံသာသို့တက်လေ၏။
မျက်စိစောင်း, *v.* to be squint-eyed, cross-eyed, မျက်စိစွေ။
မျက်စိစွန်, *v.* to have a sty on the eyelid.
မျက်စိစွေပြ, *v.* to wink at, insultingly.
မျက်စိပြူး, *v.* to be prominent, as the eyes.
မျက်စိဖန်, *v.* to be dazzled.
မျက်စိဖုံးအုပ်, *v.* to hoodwink; to blind by covering the eyes.
မျက်စိဖြူ, *v.* to be wall-eyed.
မျက်စိရှင်, *v.* to be quick-sighted, မျက်ရိပ်ကောင်းသည်။
မျက်စိလေးလံ, *v.* to be drowsy.
မျက်စိသိ, *v.* to be purblind, မျက်စိမှုန်သည်။
မျက်စိသူငယ်အိမ်, *n.* the pupil of the eye, မျက်ခွေ, မျက်ဆန်။
မျက်စောင်းထိုး, *v.* to cast a side glance in anger, threateningly, or from strong personal dislike, dissatisfaction, scorn, or disdain; *see* ပြန်စောင်း; မျက်စောင်းထိုးနေသည်။
မျက်ဆန်, *n.* the pupil of the eye, မျက်ခွေ။
မျက်တောင်, *n.* the eyelashes, တညလုံးမျက်တောင်တခတ်မျှမအိပ်ရ, မျက်တောင်မြေး၍မှုးမှိုင်တွေဝေသည်ကိုမြင်ရသည်။
မျက်တောင်ခတ်, *v.* to wink.
မျက်တွင်း, *n.* the socket of the eye; *see* မျက်ကွင်း; မျက်လုံးအိမ်။
မျက်တွင်းချောင်, *v.* to have the eyes sunken from illness or want of sleep, မျက်တွင်းကျ။
မျက်တွင်းဟောက်, *v.* to be hollow-eyed.
မျက်ထောင့်, *n.* a corner of the eye.
မျက်နက်, *n.* the black of the eye, တိမ်ကျသို့မျက်နက်ဖုံးနေသည်။
မျက်ပြည်, *n.* a tear; *see* မျက်ရည်။
မျက်ပြ, *n.* the *Melastoma malabathricum*, an evergreen, branched shrub from one to six feet high, thick-set with spines.
မျက်ဖြူ, *n.* the white of the eyes.

မျက်ဖြူဆိုက်, *v.* to show the white of the eyes, as in sudden fright.
မျက်မည်း, *n.* the black of the eye; *see* မျက်နက်။
မျက်မုန်းကြိုး, *v.* to resent, feel ill-will, မျက်မုန်းအားကြိုး, ကျွန်တော်ကိုအမိုး ရမင်းမျက်မုန်းကြိုးနေသည်။မကြာမှီအရေးကျလိမ့်မည်။
မျက်မုန်းလို, *v.* same (*rare*).
မျက်မြင်တလွှာ, *n.* a scene, view presented to the eye.
မျက်မှန်, *n.* spectacles, eyeglasses, သည်မျက်မှန်ကြည်၏လား, are these spectacles clear? သည်မျက်မှန်တယ်မျက်စိအေးသည်, these spectacles are very cool to the eyes.
မျက်မှန်းကောင်း, *v.* to be skilled in making an ocular estimate, *i.e.*, of the height or weight of anything.
မျက်မှန်းတမ်း, *v.* to have the view fixed on, to aim at, to intend, သည်ဥစ္စာဝယ်မည်လို့မျက်မှန်းတမ်းထားသည်, မျက်မှန်းတမ်းဝယ်သည်, သည်အိမ်မျက်မှန်းတမ်းလက်ညှိုးထိုး၊အဆိုးဘယ်လောက်ကုန်မည်ထင်ပါသလဲ။
မျက်မှန်းတမ်းမိ, *v.* to have an indistinct recollection of; to guess at, မှန်းမိ; to have a distinct impression of, ခင်ဗျားကိုတခါမျက်မှန်းတမ်းမိလျှင်မမေ့နိုင်ပါ, should I once get your face imprinted on my memory, I could not forget you.
မျက်မှောက်, *n.* the space before one's eyes, presence; present time; သည်မှန်ကျွန်တော်နေ့တိုင်းမျက်မှောက်ကြည့်နေသည့်မှန်ဖြစ်ပါသည်။
မျက်မှောက်ထင်ထင်, *adv.* openly, clearly; sincerely, ထိုအခါမူကား၊မျက်မှောက်ထင်ထင်မြင်ရကြလိမ့်မည်။
မျက်မှောက်ပြု, *v.* to regard an absent person or thing as present, အခြားသို့သွားသော်လည်း၊ကျွန်တော်ကိုမျက်မှောက်ပြုပါ။ TMLJ ii.3
မျက်မှောင်, *n.* the arch over the eye, the brow of the eye, မျက်ခုံး; မျက်ခုံးမျက်မှောင်; မျက်မှောင်မွေးဆက်, to meet, as the eyebrows.
မျက်မှောင်ကုပ်, *v.* to have a naturally scowling countenance, မျက်မှောင်ကုပ်ကြီးအလွန်ကြောက်စရာကောင်းသည်။
မျက်မှောင်ကြား, *n.* the space between the eyebrows.
မျက်မှောင်ကြုတ်, *v.* to scowl, look stern, dark, angry, threatening; to glower.
မျက်မှောင်တန်း (*pron.* ဒန်း), *n.* the eyebrows, မျက်ခုံးမွေး။
မျက်ရစ်, *n.* the iris; any thing resembling the iris.
မျက်ရည်, *n.* a tear.
မျက်ရည်ဥ, *v.* to have a tear formed in the eye.
မျက်ရည်ကျ, မျက်ရည်ယို. *v.* to weep; မျက်ရည်စီးကျ, to stream with tears, as the eyes.
မျက်ရည်ခံ, *n.* a certain spot under the inner corner of the eye.

မျက်ရည်စက်, *n.* a tear-drop, သည်မိန်းမလားလားမကောင်း၊ယောကျ်ားသေ လို့မျက်ရည်စက်မျှမခန်းသေးဘဲ၊ယောကျ်ားတယောက်ကိုယူပြန်ပြီ။
မျက်ရည်လွယ်, *v.* to be easily moved to tears.
မျက်ရည်ဝဲ, *v.* to have the eyes filled with tears, ဝမ်းနည်းလွန်းလို့မျက် ရည်များဝဲလျှည့်နေသည်။
မျက်ရိပ်, *n.* a hint given by the eye, မျက်ရိပ်ပြ။
မျက်ရိပ်ကောင်း, *v.* to be quick-sighted, မျက်စိရှင်။
မျက်ရိပ်ပေး, *v.* to give a hint by winking, မျက်ရိပ်သိ။
မျက်ရိပ်မျက်ခြေကောင်း, *v.* to be quick-sighted; *see* မျက်ရိပ်ကောင်း။
မျက်လုံး, *n.* the eyeball.
မျက်လုံးအိမ်, *n.* the socket of the eye, မျက်ကွင်း, မျက်တွင်း။
မျက်လုံးပြူး, *v.* to have protuberant or prominent eyes.
မျက်လုံးဝင်း, *v.* to have bright lustrous eyes.
မျက်လုံးဝိုင်း, *v.* to roll the eyes about from fear; *see* မျက်ကလဲဆန်ပြာ။
မျက်လှည့်ပြ, *v.* to practise legerdemain; မျက်လှည့်ပွဲ။
မျက်လှည့်သမား, *n.* a juggler, conjuror, မျက်လှည့်ဆရာ။
မျက်လွှာ, *n.* the eyelid, regarded as covering the eye, ဖုံးအုပ်သောမျက်လွှာ; the cornea, ကြည်လင်သောမျက်လွှာ။
မျက်ဝတ်, *n.* the exudation of the eye; *more elegant than* မျက်ချေး။
မျက်, 3, *v.* to be angry, စိတ်ဆိုး; hence အမျက်, ဒေါသမျက်; လူချင်းမျက် နေကြသည်။
မျက်, 4, *n.* a species of prominent-ligament shell.
မျက်, 5, *v.* to stick in the throat, အရိုးမျက်သည်။
မျက်နှာ, *n.* the face, the countenance, မျက်ခွက်; surface; the disc of an orb; a quarter of the heavens, or a cardinal point, အရပ်လေးမျက်နှာ။
မျက်နှာအထား, *n.* the looks, aspect.
မျက်နှာအနေ, *n.* the natural aspect; မျက်နှာလက္ခဏာ, မျက်နှာအနေကောင်း သည်, မျက်နှာအနေပျက်သည်။
မျက်နှာအန်း, *v.* to be swollen, as the face.
မျက်နှာကောင်းရ, *v.* to find favor.
မျက်နှာကြက် (*pron.* ကျက်), *n.* a canopy, ဗိတာန်; a ceiling.
မျက်နှာကြည်သာ, *v.* to have a pleasant countenance.
မျက်နှာကြည့်, *v.* to regard a person, *i.e.*, to favor a person on account of his wealth, position, etc. (*reproachful*), မျက်နှာလိုက်သည်။
မျက်နှာကြီး, မျက်နှာများ, *v.* to be distinguished; to have many friends; မျက်နှာများ, when applied to women, is a term of reproach.
မျက်နှာကြောတည့်, *v.* to be on good terms with another; *see* တည့်။

မျက်နှာခေါက်ထူ, *v.* to be thick-skinned, fat and gross in the face (*abusive*), လူပုံကလည်းမျက်နှာခေါက်ထူကြီးနှင့်။

မျက်နှာချင်းဆိုင်, *adv.* face to face, directly opposite, မျက်နှာချင်းဆိုင်အိမ်ဆောက်သည်, မျက်နှာချင်းဆိုင်စကားပြောသည်, သည်အမှုရှင်းလင်းအောင်မျက်နှာချင်းဆိုင်ထုချေပါရစေ။

မျက်နှာချယ်, မျက်နှာချေ, *n.* a preparation of flour used in smearing the face, မျက်နှာချယ်ထိမ်း, မျက်နှာချယ်ဘော်, ဆန်ပုပ်မှုန့်, ကသယ်မှုန့်။

မျက်နှာချို, *v.* to have a sweet, pleasant countenance.

မျက်နှာငယ်, *v.* to have a humble and obscure station in life; to have few friends.

မျက်နှာစာ (*pron.* ဇာ), *n.* the space before, ရှေ့ဉပစာ; presence, ရင်ပြင်, ရှေ့မျက်နှာစာကမထားနှင့်။

မျက်နှာစိမ်း, *v.* to be unacquainted, unfamiliar with; *n.* a stranger.

မျက်နှာညို, *v.* to be dark in countenance, ဤစကားကိုပြောလျှင်မြို့မျက်နှာညိုသွားသည်။

မျက်နှာညှိုး, *v.* to be dejected in countenance, whether from illness or from uneasiness of mind.

မျက်နှာတခြမ်းပုံ, *n.* a profile.

မျက်နှာတံမိုးလိုက် (မျက်နှာတံမိုး, *lit.* the bribe of countenance), *v.* to be influenced in deciding a lawsuit, or any dispute, by the official or social status of one of the parties.

မျက်နှာထား, *v.* to look stern, set the face against; *n.* looks, aspect; assumed aspect; a stern aspect; ရှေ့ကအရောတဝင်နေကြသည်၊ယခုအလွန်မျက်နှာထားသည်။

မျက်နှာထားကောင်း, *v.* to be sober, grave, composed in countenance, မျက်နှာကြက်သရေရှိသည်။

မျက်နှာထားကြီး, *v.* to look over-stern and severe, မျက်နှာထားကြီးနှင့်တွေ့လို့ရှုတ်ဆက်ဝံ့စရာမရှိဘူး။

မျက်နှာထူ, *v.* to be forbidding in countenance, harsh, surly, မျက်နှာအောက်သည်။

မျက်နှာထောက်, *v.* to esteem a person for his wealth, position, etc., မျက်နှာကြည့်။

မျက်နှာနာ, *v.* to have a feeling of constraint towards another, မျက်နှာနာသည့်လူမှုရှင်း။

မျက်နှာပန်း, *n.* Tenasserim lancewood.

မျက်နှာပုပ်, *v.* to be forbidding in countenance, မျက်နှာအောက်သိုးသိုးဖြစ်သည်။

မျက်နှာပိုးသတ် (*pron.* ဗိုး), *v.* to compose the countenance, အင်မတန်ရယ်ချင်ပေမယ်လို့၊မျက်နှာပိုးသတ်ထားရသည် (*Colloq.*).
မျက်နှာပိုးသေ, *v.* to be composed in countenance, grave, severe.
မျက်နှာပျက်, *v.* to blush; to have a change of countenance, as from illness; to lose countenance or favor (of another), လူချင်းမျက်နှာပျက်မခံချင်လို့၊အောင့်ပေါင်းရသည်။
မျက်နှာပြ, *v.* to show the face; to appear before some authority.
မျက်နှာပြင်, *n.* surface, superficies.
မျက်နှာပြု, *v.* to look toward; to stand with the face or front toward; to front, as a house; to make effort, in order to gain countenance; ခင်ဘျားဘယ်ကိုမျက်နှာပြုလို့အိမ်ဆောက်သလဲ။
မျက်နှာပြောင်တိုက် (*pron.* ပြောင်), *v.* to be impudent, shameless, to behave with effrontery, မရှက်မကြောက် မျက်နှာပြောင်တိုက်ပြီး လုပ်ဝံ့သည်; to behave in a bold impudent manner.
မျက်နှာပွင့်, *n.* a medicine or charm to excite love, အနူ. မျက်ချစ်။
မျက်နှာဖုံး, *n.* a veil, covering for the face; a mask, ဝဲလာဝါ။
မျက်နှာဖျက်, *v.* to damage the good name or reputation of another.
မျက်နှာဖျော့, *v.* to be pale-faced, မျက်နှာဖျော့တော့တော့။
မျက်နှာမည်း, *v.* to be dark complexioned. When apprehensive that a European will decide against him, in a dispute in which a European and Burman are concerned, a Burman is apt to remark, မျက်နှာမည်းနှင့်မျက်နှာဖြူမတူ။
မျက်နှာမူ, *v.* to look towards.
မျက်နှာမဲ့, *v.* to be without friends.
မျက်နှာမြင်, *v.* to bring forth a child, ဘွား, ဖိုးဝင်, မွေး, ဘွားမွေး။
မျက်နှာရ, *v.* to gain countenance, obtain favor, အမိုးရထံမျက်နှာရအောင်သွားပြီးလက်ဆောင်ဆက်သည်။
မျက်နှာရည်, *n.* the character; the expression of the countenance, မျက်နှာရည်မျက်နှာထားအလွန်သိမ်မွေ့သည်။
မျက်နှာရိပ်, *n.* the cast of countenance.
မျက်နှာရွေး, *v.* to be particular in the choice of friends, မျက်နှာရွေးတတ်သည့်သူငယ်ကလေး, မျက်နှာရွေးသည့်မြင်း။
မျက်နှာရွှင်, *v.* to be bright and happy in countenance.
မျက်နှာလိုက်, *v.* to favor a person on account of his rank or position, မျက်နှာထောက်။
မျက်နှာလွှဲ, *v.* to turn away the face, whether from dissatisfaction, or from desire to leave the business without interfering, သည်အမှုကို

မကြည့်ချင်ဘူး၊ မျက်နှာလွှဲနေသည်, မင်းကြီးမျက်နှာလွှဲလျှင်၊ မြို့အုပ်မောင်သ
ကလေးချက်ခြင်းရကွဲရောက်မည်, ကျွန်တော်သားအလုပ်ကိုမျက်နှာလွှဲရပြီ။
မျက်နှာသစ်, *v.* to wash the face.
မျက်နှာသစ်တော်ရေကျ, *v.* to wash the face on rising in the morning, as a king; to awake, as a king.
မျက်နှာသာပေး, *v.* to countenance (in doing wrong).
မျက်နှာသိ, *n.* an acquaintance, အသိအကျွမ်း။
မျက်နှာသုတ်ပဝါ, *n.* a towel for the face.
မျက်ပါးခတ်, *v.* to beat out gold leaf (ရွှေဆိုင်း).
မျည်း, 1, *v.* to be sleepy, or to sleep; *not used singly*; hence ငိုက်မျည်း, မှောက်မျည်း။
မျည်း, 2, *v.* to be weak, exhausted, cast down, dejected; *not used singly.*
မျည်းငွေ့, မျည်းနွမ်းငွေ့, မျည်းပြေ့, *v.* same (*rare in colloq.*).
†မျည်းတို, မျည်းရှည်, *n.* a kind of military coat, short or long, မျည်းရှည်ဝတ်ဆင်ရသည်။
မျည်း, 3 (*pron.* မျဉ်း), *n.* a ruler, ruling line, or a ruled line; ရွှေမျည်းဝိန်း, to be entirely gilded, as the edges of a book, or palm leaf writing; ရွှေမျည်းကြိုဆစ်, to be two-thirds gilded, the remaining (central) part being colored with vermilion, as the edges of a palm leaf writing; မျည်းနီ, to be entirely colored with vermilion, as the edges of a palm leaf writing; မျည်းဖြူ, to be without any coloring matter, as the edges of a book or palm leaf writing; a rule of action; စည်းမျည်းသေ, to be systematic, methodical, well regulated; ရွှေမျည်းစွယ်သတ်, a Burmese legal work, which treats of the law of inheritance, etc.
မျည်းကြောင်း (*pron.* မျဉ်းကြောင်း), *n.* a ruled line.
မျည်းကြိုး (*pron.* မျဉ်းကြိုး), *n.* a ruling line, တံမျည်း, တံမျည်းချည်။
မျည်းချ, *v.* to rule with a ruler.
မျည်းတံ (*pron.* မျဉ်းခံ), *n.* a ruler, တံမျည်း။
မျည်းတံချ, *v.* to mark with lines by a ruler, မျည်းပစ်, မျည်းကြောင်းဆွဲ။
မျည်းပူး, *n.* a flat, parallel ruler.
မျည်းလုံး, *n.* a round ruler.
မျည်းသား, *v.* to rule with a ruler, မျည်းချ။
မျှာ, *see* မြာ or မြာတိုင်, *n.* a stud, short post supporting a beam or other timber.
များ, *v.* to be many, မနည်း။
များပြား, *v.* to be abundant, ရန်ကုန်မြို့မှာစားစရာအလွန်များပြားသည်။

မျှားလျား, *adv.* in a hanging, suspensive manner; *comp.* တွဲလွဲ; This word appears to combine the meaning of တွဲလွဲ and ရှည်လျား, အင်္ကျီမျှားလျားကြီးဝတ်သည်, ပုဆိုးမျှားလျားကြီးခါးပိုထိုးသည်။

မှူ. *see* မြူ, *n.* a liquid measure of various capacities.

မျှော, **1**, *n.* a pole, slender post, မျှောခင်း, မျှောထိုး။

မျှော, **2**, *v.* to float down, to drift, သစ်ဘောင်ကြီးတခုမျှောလာသည်။

မျှော, **3**, *see* မြော, *v.* to faint away.

မျှော, **4**, *v.* to be long, stretched out long, ရှည်, ကာလမျှောသည်, ကာလမျှောလို့မေ့လျော့ကုန်ပြီ, ဖျည်းပုံတောင်းမျှောသည်။

မျောက်, **1**, *n.* a monkey; many varieties, as မျောက်စဉ်, မျောက်လဝှား, မျောက်လေဆွေး။ ; heads (of coin, etc.)

မျောက်သုပ်ရှစ် (ပင်), *n.* the *Siphonodon celastrinus*, a tree growing to the height of thirty or forty feet, bearing a fruit the size of a small citron.

မျောက်ကျား, *n.* the monkey-tiger.

မျောက်ကြိမ်, *n.* an inferior species of rattan, the *Flagellaria Indica.*

မျောက်ခါးပတ်, *n.* a species of *Bauhinia.*

မျောက်ဂုန်ညင်း (*pron.* ဂုန်), *n.* a kind of creeper, the *Derris sinuata.*

မျောက်ချော, မျောက်ငို, *n.* the *Lythrum fructicosum*; the *Homalium tomentosum*; so called because the bark of the tree is so smooth that monkeys experience the greatest difficulty in climbing it, and hence weep with vexation.

မျောက်ဆီး, *n.* the *Zizyphus rugosa*, a tree from twenty to thirty feet high, bearing a yellowish fruit the size of a small cherry.

မျောက်ညို, *n.* the Tavoy and Arakanese name for the white-eyelid monkey, မျောက်မျက်ကွင်းဖြူ။

မျောက်တငါ, *n.* the fisher monkey.

မျောက်ထိုင်ခုံ, *n.* a steersman's seat (*rare and impolite*), ပွဲစင်။

မျောက်နီ, *n.* the red-tipped, pig-tailed monkey, the *Inuus leoninus.*

မျောက်ပန်းကစား, *v.* to play at pitch and toss.

မျောက်ပုတီး, *n.* the long-haired, pig-tailed monkey.

မျောက်ပွဲ, *n.* a species of wild sword bean, the *Canavalia obtusifolia.*

မျောက်မင်းရွှေသံတီး, *v.* to play a low, soft kind of dirge (at Burmese funerals).

မျောက်မောင်းမ, *n.* the slow loris or sloth, of Bengal.

မျောက်မျက်ကွင်းဖြူ, *n.* the white-eyelid monkey.

မျောက်မှည်း, *v.* to be half asleep and half awake; to sleep for a short time; ခင်ဘွားမျောက်မှည်းသလိုဘဲဖြစ်သည်။

မျောက်ငြီးလွှ, *n.* a keyhole saw.
မျောက်မြွားမြက်, *n.* a kind of grass; spear grass.
မျောက်လက်, *n.* a hasp or long hinge; one kind of ပတ္တာ; an iron or wooden clamp; မျောက်လက်ကစ်သည်, မျောက်လက်ရိုက်သည်။
မျောက်လက်ဝါး (ပင်), *n.* a kind of creeper.
မျောက်လုတ်, *n.* a kind of tree, the mock-monkey; the *lacoocha* breadfruit. The bark of this tree, in times of scarcity, is substituted for the betel nut, which it somewhat resembles in taste.
မျောက်လုတ်ကြီး, *n.* the hairy breadfruit.
မျောက်လုတ်ငယ်, *n.* a small species of breadfruit, resembling a fig in appearance.
မျောက်လှေကား, *n.* a kind of creeper, the *Bauhinia scandens.*
မျောက်လှောင်, *n.* the Tavoy name for the slow loris.
မျောက်လှောင်ပျံ, *n.* the flying lemur, *Galacopithecus volans.*
မျောက်လျှော, *n.* the *Lythrum fructicosum*; *see* မျောက်ချော။
မျောက်လွှဲကြော်, *n.* the light colored variety of the white-handed gibbon or long-armed ape, the Hoolock monkey; *see* လွှဲကြော်။
မျောက်သန့်လျက်, *n.* the *Parkia insignis*, a leguminous tree, leafless in the hot season, sometimes attaining the height of a hundred feet.
မျောက်သုမှိတ်, *n.* a chief monkey; a threatical appellative frequently used in the ရာမဇာတ်။
မျောက်, 2, *n.* the potato or yam plant.
မျောက်ဥ, or သဘော်မျောက်ဥ, *n.* a potato, အာလူး။
မျောက်ဥကြီး, မျောက်ခေါင်း, *n.* a yam.
မျောက်ကျား, *n.* a kind of yam, the *Dioscorea crispata.*
မျောက်နီ, *n.* a yam with a dark purple root, the *Dioscorea atropurpurea.*
မျောက်ပွဲထုပ်, *n.* a kind of yam.
မျောက်ဖြူ, *n.* a large white yam, *Dioscorea globosa.*
မျောက်ရှင်, *n.* a kind of yam, the *Dioscorea versicolor.*
†မျောက်ဆိတ် (ပင်), *n.* a kind of tree, the elm; *comp.* မျောက်ဆိပ်. A decoction made from the leaves of this tree, when boiled with salt, is said to have cathartic properties, and to be efficacious in cases of dyspepsia and kindred maladies. The bark, ground up with salt, is said to make an excellent poultice for boils.
မျောက်နှဲ (ပင်), *n.* a kind of tree.
မျောက်မထား, *v.* to commit adultery, as a woman, လင်ဖောင်ထား. *Der.* မျောက်မျည်ထား။
မျောက်မျည်, *n.* death (*poetical*).

မျှောက်သားတော်, *n.* a correlate in marriage, whether husband or wife, အိမ်ထောင်ဘက်, ခင်ပွန်း။

မျို, *v.* to swallow; to restrain one's feelings, အောင့်; သူမမာအလွန်နာနေသည်၊ဆေးကိုမျှကောင်းကောင်းမမျိုနိုင်ဘူး, the invalid is very sick, he can scarcely swallow medicine; မပြောပါနှင့်ဆိုလို့မျိုထားရသည်, it was only because he said, "do not mention the matter," that I restrained my feelings.

မျိုဝင်, *v.* to be swallowed.

မျိုသိပ်, *v.* to restrain or stifle one's feelings.

မျိုက်, *see* မြိုက်, *v.* to be singed, scorched.

မျိုး (from အမျိုး, a race, kind), *n.* seed, seed grain, မျိုးစပါး။

မျိုးကပ်, *v.* to be in foal.

မျိုးကြိတောင်း, *n.* a bamboo basket used to convey seed for sowing.

မျိုးစပါး, *n.* seed paddy.

မျိုးစေ့, *n.* seed, seed grain.

မျိုးတင်စွပ်ဖား, *n.* a sledge for carrying young plants from the nursery to the field where they are to be transplanted.

မျိုးထောင်, *v.* to raise seed paddy.

မျိုးပဲ, *n.* seed pulse.

မျိုးရှိ, *v.* to have young, as some animals and birds (*more elegant than* ဗီးရှိ).

မြ, 1, *n.* an emerald, ကျောက်စိမ်း, ကျောက်စိမ်းမြခဲ။

မြစိမ်း, *n.* a kind of tree.

မြစိမ်းရောင်, *n.* emerald green.

မြပုခက်တော်, *n.* a poetical term for a royal cradle.

မြ, 2, *v.* to be cool, အေး, ချမ်း; *used in composition with* အေး; လေတိုက်သည်မှာမြနေရော့, သည်ရေမြမြပေါ်သည်။

မြ, 3, *v.* to be very sharp, keen, အလွန်ထက်; *not used assertively*; သည်ထားထက်လိုက်သည်မှာမြနေရော့, အလွန်ထက်မြလှစွာသောထား, သည်ထားကိုမြမြထက်အောင်သွေးပါ, သည်တုတ်ကိုမြမြထက်အောင်ချွန်ပါ။

မြက်, 1, *n.* grass; မြက်မုန်ညင်း, မြက်ခြေရင်း, မြက်သောက်, various kinds of grass.

မြက်ခင်း, *n.* green sward, a lawn, a meadow, မြက်ခင်းမြက်ပြင်။

မြက်ရိတ်ထား, *n.* a *da* for cutting weeds; a sythe.

မြက်ခြောက်, *n.* hay; မြက်ခြောက်စင်, a haymow.

မြက်ထုံး, *n.* a bundle or tuft of grass.

မြက်ထိုး, *v.* to weed, မြက်ထိုးခိုင်း။

မြက်ပင်, *n.* any plant of the grass genus.

မြက်ပေါင်း, *n.* a collection of weeds.
မြက်ဖုတ်, *n.* a clump of grass.
မြက်ယား, *n.* a kind of grass; *comp.* မျောက်မြွားမြက်။
မြက်ရွက်, *n.* a blade of grass.
မြက်လျှောမြွေ, *n.* the harmless, black-striped *tropidonotus.*
မြက်, 2, *see* မျက်, *v.* to stick in the throat.
မြက်, 3, *v.* to cut keenly, as a knife, အလွန်ထက်သည့်သင်တုန်းထား၊မြက်နေရသည်; to be pungent, as flavor, ငရုတ်သီးအရသာမြက်သည်; to be rather high priced, အသိုးမြက်သည်, အဘိုးတဆိတ်မြက်သည်ကွယ်၊လျှော့ပါဦး (*Colloq.*).
မြက်ခနဲ, *adv.* with a sudden sharp twinge, စစ်ခနဲထားရှလိုက်သည်မှာမြက်ခနဲနာသည်, အရိုးနှင်းမိလို့ခြေထောက်မြက်ခနဲနာသွားသည်, လက်ထိပ်အပ်ထိုးမိလို့မြက်ခနဲနာသည်။
မြက်စက်, *v.* to be pungent, as flavors; to feel a lively, sharp pain, particularly a sharp local pain from some penetrating or irritating application; *used adverbially only,* ဆေးနှိထိုးသည်အခါမြက်မြက်စက်စက်နာသည်။
မြင်, *v.* to see; *fig.* to foresee, to possess foresight, အလွန်မြင်သည့်လူ, a very farseeing man.
မြင်ပျင်း (*pron.* ဗျင်း), *v.* to hate to see; to dislike, hate, မုန်း, သည်သူကိုကျွန်တော်အလွန်မြင်ပျင်းသည်၊တနာရီလောက်မျှအတူတူမနေချင်ပါ။
မြင်မက်, *v.* to dream; *see* မက်။
မြင်သာ, *v.* to see with ease, မှန်ပြောင်းနှင့်ကြည့်လျှင်အလွန်ဝေးသောတောင်ပေါ်တွင်စေတီတော်များကိုမြင်သာပါ၏။
†မြင်တလင်းသား, *n.* a bastard child.
မြင်ဝါး, *n.* the *Dendrocalamus strictus*, a species of bamboo much used in building houses.
မြင့်, *v.* to be high; *comp.* ရှင့်, မား; to be exalted, excellent, မြတ်; to be distant in time, ကြာ, ကြာမြင့်။
မြင့်ရှင့်, *v.* to be erected, elevated, stuck up; *see* ရှင့်။
မြင့်မြတ်, *v.* to be surpassingly eminent, ဇိမ်ရှေ့မင်းအဖြစ်ကမြင့်မြတ်သောရှင်ဘုရင်အဖြစ်သို့ရောက်သည်။
မြင်း, 1, *n.* a horse, pony (120).
မြင်းကံကျေး, *n.* one who has charge of furnishing food for horses.
မြင်းကုန်သွယ် (or သည်), *n.* a horse-dealer.
မြင်းကုန်းပတ်ကြိုး, *n.* a surcingle, မြင်းဝမ်းပတ်။
မြင်းကျင့်သူ, *n.* a roughrider.
မြင်းကြောင်မျိုး, *n.* a zebra, မြင်းကျား။

မြင်းခင်း, မြင်းခင်းသဘင်, *n.* an annual festival formerly held by the King, for equestrian exercises.
မြင်းခံ, *n.* a horse-breaker.
မြင်းခိုး (*pron.* ငိုး), *n.* a horse-thief.
မြင်းချည်ကြိုး, *n.* a halter, a rope attached to a horse's head.
မြင်းခြေဆစ်, *n.* a stifle, မြင်းဒူးခေါက်ဆစ်။
မြင်းခွာ, *n.* a horse's hoof.
မြင်းစင် (*pron.* ဇင်), *n.* a gelding, မြင်းပြီး။
မြင်းစာ (*pron.* ဇာ), *n.* food for horses.
မြင်းစာကျင်း, မြင်းစာလောင်း, *n.* a horse trough.
မြင်းစီး (*pron.* ဇီး), *n.* the rider of a horse, a jockey.
မြင်းစီးကင်းစောင့်, *n.* a vidette, မြင်းစီးကင်းတပ်။
မြင်းစီးပုလိပ်, *n.* a mounted policeman, a police constable.
မြင်းစီးသူရဲ, *n.* a trooper.
မြင်းစု, *n.* mounted militia.
မြင်းစုဝန်, *n.* an officer in charge of the mounted militia.
မြင်းဆွဲအမြောက်တပ်, *n.* horse artillery.
မြင်းဇောင်း, *n.* a stable.
မြင်းတပ် (*pron.* ဒပ်), *n.* cavalry.
မြင်းတား, *n.* a fence of crossbars, a rail fence, ရက်မလျှိုမြင်းတား, မြင်းတားခတ်, မြင်းတားထိုး။
မြင်းတော်ခံ, *n.* one who attended the King's horse when he went to ride; မြင်းတော်ထိန်း, an equerry.
မြင်းထိန်း (*pron.* ဒိန်း), *n.* a horse keeper, groom.
မြင်းထီး (*pron.* ဒီး), *n.* a horse (male); *comp.* မြင်းမ။
မြင်းနှင်တံ, *n.* a horsewhip, မြင်းကြိမ်။
မြင်းပါးချုပ်, *n.* a headstall; ပါးချုပ်ထိုး, to make a headstall.
မြင်းပုလျှားရှည်, *n.* a long low-set horse, a Sidney-side Saxon.
မြင်းပျံ, *n.* a hippogriff.
မြင်းပြီး, *n.* a gelding, မြင်းစင်။
မြင်းပြေး, *n.* a race horse.
မြင်းပြိုင်, *v.* to race with horses; မြင်းပြိုင်တလင်း, a plot of ground containing a race course.
မြင်းပွဲ, မြင်းပြိုင်ပွဲ, *n.* a horse race, a race meeting. The Rangoon race meeting is usually designated တာပတ်ပွဲ။
မြင်းဘောင်, *n.* a Burmese bier.
မြင်းမ, *n.* a mare; *comp.* မြင်းထီး။
မြင်းမှင်, *n.* horsehair.

မျှင်ထိုး, *v.* to catch shrimps with a kind of net called ရင်တွန်း။

မျှင်း, *v.* to be moderate, gentle in treatment, ညှင်း; to make pliant by the application of heat, in order to curve, or to straighten, သံချောင်းကိုပူစေ၍ မျှင်းမျှင်းထုရသည်။

မျှင်းဖျောင်း, *v.* to persuade gently (*rare in colloq.*), သွေးဆောင်; *see* ညှင်းဖျောင်း။

မျှစ်, *n.* a bamboo sprout.

မျှစ်ချဉ် (*pron.* ချဉ်ဉ်), *n.* the bamboo sprout, pickled.

မျှည့်, *see* မှည့်, *v.* to be ripe.

မျှား, *v.* to catch with a bait; to lure; to proceed moderately and persuasively to accomplish an end; ငါးမျှားသည်; ရိုင်းသောကြက်ကိုယည်သောကြက်နှင့်မျှားဖမ်းသည်; ပိုက်ဆံနှင့်မျှားပြီးခေါ်လျှင်ပါရော့ပေါ့ (*colloq.*), ကျွန်တော်ကိုမြှူမည်လို့မျှားမည်လို့လာသည်မှတ်သည်. *Der.* ငါးမျှား။

မျှေး, *see* မြှေး, *v.* to overspread, or be overspread.

မျှော (from မျော, to float down), *v.* to set afloat, cause to float down; to lend money without taking interest; လှေကိုမျှောလာသည်; ခင်ဗျားတို့အပေါ်မှာငွေမျှောထားရသည်မှာကြာလှပြီ။

မျှောင်, *see* မြှောင်, *v.* to fasten on lengthwise, ပေါင်; to keep close to the side of, adhere to.

မျှော့, *n.* a leech, bloodsucker; ပင်လယ်မျှော့, the trepang; ဆင်မျှော့, the sea slug.

မျှော့ကုတ် (from ကုတ်), *v.* to secure with a cramp; *n.* an iron cramp; a staple.

မျှော့တိုက်, *v.* to apply a leech.

မျှော်, *v.* to look at, to view, as a landscape, to behold; expect, await

မျှော်ကြည့်, *v.* same as မျှော်။

မျှော်ခင်း, *n.* a prospect.

မျှော်ခေါ်, *see* မြှော်ခေါ်, *v.* to look forward, to have foresight.

မျှော်ငံ့, *see* မြှော်ငံ့, *v.* to look for, to wait in expectation.

မျှော်စင်, *n.* a lookout; a race-stand.

မျှော်တင်း, မျှော်လင့်, *see* မြှော်တင်း, မြှော်လင့်, *v.* to hope.

မျှော်တွေး, *see* မြှော်တွေး, *v.* to conjecture in respect to a distant object, or in regard to the future.

မျှော်ထောက်, *see* မြှော်ထောက်, *v.* to have regard to an event or object in the future.

မျှော်မြင်ခင်း, *n.* scenery; the appearance of places.

မျှော်ရှု, *v.* to look forward to; *see the parts.*

မှိုက်, *see* မြှိုက် (from မြိုက်, to be singed), *v.* to singe, scorch, burn slightly.

မြှင့် (from မြင့်, to be high), *v.* to make high, exalt, မြှောက်; သည်ကြိုး တန်းလွန်၍လွတ်အောင်မြှင့်လိုက်ပါ; ရာထူးကိုမြှင့်ပေးသည်; မီးကိုမြှင့်လိုက်, turn up the light; အသံကိုမြှင့်, to elevate the voice.

မြှား, 1, *n.* an arrow.

မြှားကျည်တောက်, *n.* a quiver.

မြှားကြောင်း, *n.* the groove for an arrow in a crossbow.

မြှားစကြာ, *n.* a fabulous arrow which will go wherever the owner wishes, မြှားစကြာလွှင့်သည်, မြှားစကြာလွှတ်သည်။

မြှားဆိပ် (ပင်), *n.* a kind of tree, the gum of which is used to poison arrows, ရှိုးကျပင်။

မြှားတောင့် (*pron.* ဒေါင့်), *n.* a quiver, မြှားကျည်တောက်။

မြှားရွက်, *n.* the feathers of an arrow.

မြှား, 2, *n.* a purlin, a horizontal timber supporting the common rafters, ထုပ်လုလင်။

မြှုပ် (from မြုပ်, to be submerged), *v.* to submerge, overwhelm in water; *more than* နှစ်; to bury, cover up in the ground, မြေမြှုပ်; to bury in a grave, သင်္ဂြိုဟ်; to cause to disappear, to cause to be lost, သတော်ကိုမြှုပ်သည်, ရွှေအိုးငွေအိုးမြှုပ်သည်, စက်မြှုပ်သည်, အမိဗွာယ်မြှုပ် သည်, စာလုံးမြှုပ်သည်; to place troops in ambush, တပ်မြှုပ်သည်။

မြှုံး, *n.* a fish-trap, ငါးမြှုံး; *the generic term for all fish-traps*; မြှုံးဆင် လိမ်, မြှုံးဒမင်းထောင်, မြှုံးပုစွန်ထောင်, မြှုံးဗိုလုံ, မြှုံးရက်ဖောက်, မြှုံးရင်ကွဲ။

မြှုံးကတိုး, *n.* a large kind of fish-trap.

မြှုံးကျစ်, *v.* to make a မြှုံး။

မြှုံးသားလျှည့် (*pron.* သလျှည့်), *n.* the side opening to a fish-trap.

မြှူ, *v.* to please, delight; to allure, decoy; အကလေးကိုမြှူစမ်းပါ; သူ တပါးစွန်ကိုမြှူယူတတ်သည်, သည်မိန်းမကိုသည်လူမြှူနေသည်မှာကြာလှပြီ။

မြှူတူတူ, *adv. a diminutive* of similar import, မြှူတူတူလာမလုပ်ပါနှင့်။

မြှေး, 1, *v.* to be faded, as color or brightness, မှိန်, ကြာထိုဆေးရောင် မြှေးသည်; to be on the wane, as authority, power, influence or religion, အာဏာမြှေးသည်, တန်းခိုးမြှေးသည်, ဩဇာမြှေးသည်, သာသနာ မြှေးသည်; to touch slightly, as a boat when partially aground, လှေ သောင်ပေါ်မှာမြှေးတင်သည်; hence, တမြှေး, *adv.*, for a little while, ခဏ တမြှေးအိပ်ပျော်သည်, he slept a little while, တရေးတမြှေးအိပ်သည်, တည လုံးတမြှေးကလေးသာအိပ်ပျော်သည်; မီးမြှေးမြှေးကလေးရှိတော့သည်။

မြှေးခနဲပျော်, *v.* to have a momentary fit of drowsiness.

မြှေးစက်, *v.* to doze (royally), မြှေးစက်တော်မူသည်။

မြှေး, 2 (*freq. pron.* မှေး), *v.* to overspread, or be overspread with any thick, membranous matter, ဘုရားလောင်းသည်မယ်တော်ဝမ်းမှာမြှေးသန်း

ඇරනවා-    omit; drop (in reading)    B s ඇර-

မရှိ၊မငြိမတင်၊စင်ကြယ်သန့်ရှင်း စွာမျက်စိတော်ကို ဖွင့်လျက်သွားတော်မူ၏; to be nearly shut, as the eyes from weakness.

မြွေးရှက်, *v.* to be overspread; to be closed, as the eyes from drowsiness, to drowse, တရေးမြွေးရှက်ဦးမှို့; မြွေးရှက် is chiefly found in poetical works.

မြှောက် (from မြောက်, to be raised), *v.* to toss, toss up; to raise, elevate, exalt; ချီ, ချီး, ပင့်, မြှင့်; to elevate the mind of another; to flatter, မြှောက်, မြှောက်ပြော; to multiply arithmetically; ခြင်းလုံးကို မြှောက်သည်, ကျွလူကိုခတ်၍ချီ၍မြှောက်သည်, ရေအိုးကိုတဆိတ်မြှောက်စမ်းပါ, သူတပါးများကိုမြှောက်ပြောတတ်သည်; မြှောက်ချီး။

မြှောက်ကိန်း, မြှောက်ခြေ, *n.* a multiplier (in arithmetic).

မြှောက်စည်, *n.* a kind of drum.

မြှောက်စား, *v.* to promote, especially to invest with discretionary power, အင်မတန်အမိုးရမင်းမြှောက်စားထားသည်။

မြှောက်ပင့်, *v.* to flatter.

မြှောက်ရကိန်း, *n.* a product (in arithmetic).

မြှောင်, *v.* to fasten on lengthwise, ပေါင်; to keep close to the side, to adhere; one kind of ကဝ်; မြှောင်စား, to hang on to another for sustenance, to sponge on; to lay by the side of, အိပ်ရာနားမှာသေနတ်ထားကိုမြှောင်ထားလိုက်ပါ။

မြှောင့်, *v.* to slice or shave lengthwise, so as to make an angular segment of a sphere or cylinder; hence အမြှောင့်; ရှစ်မြှောင့်, octagonal; နာနတ်သီးကိုမြှောင့်သည်, သံပုရာသီးကိုမြှောင့်လိုက်ပါ။

မြှိုက် (from မြိုက်, to be singed), *v.* to singe, scorch, burn slightly, ရေနွေးမပြောဘဲမီးမြှိုက်သည့်ကြက်သားစားလို့အရသာရှိသည်; *fig.*, to extort money, to "bleed," မင်းကိုလူလိမ်မြှိုက်သွားသည်ဆို။ဟုတ်ခဲ့လား, သည်သူခင်ဘျားမြှိုက်ရအောင်လာသည်ထင်သလား; ချူ is often used in the same sense.

မွ (from မွ, to be friable), *v.* to pulverize.

မွင်း, *see* မြွင်း, *v.* to gash, as fish or flesh preparatory to cooking.

မွတ်, *v.* to be fine, ညက်; to be very smooth; to be rapid, as a wheel in motion, so that the several spokes are indistinguishable; to be friable, easily crumbled; applied to some kinds of insipid fruit, အသားအရည်ညက်လိုက်သည်မှာမွတ်နေရသည်; အလွန်ချောသည့်သင်္ကာလတ်မွတ်နေရေ့သည်; ရထားဘီးလည်လိုက်ထာ၊မွတ်နေရသည်; သခွားသီးအလွန်မွတ်သည်၊စားမကောင်း။

မွန်, *v.* to be stifled, suffocated, as with smoke, dust, etc.; to be stupefied, astonished; to experience a stinging sensation in the nose, as when inhaling sal volatile or smelling salts; or a pungent sensation, as

when inhaling the odor of chilies, onions. etc.; မီးခိုးမွှန်သည်; မွှန်နေအောင်ကြောက်သည်; ငရုတ်သီးမွှန်သည်။

မွှမ်း, 1 (from မွမ်း, to be decorated), *v.* to put on by way of ornament, to decorate, adorn, မွှမ်းတင်သည်။

မွှမ်း, 2, *v.* to gash, as fish or flesh preparatory to cooking, ငါးကိုထားနှင့်မွှမ်းသည်, အမည်းသားကိုထားနှင့်မွှမ်းသည်။

မွှာ, *see* မြွှာ, *v.* to gash obliquely, as fish for cooking or drying.

မွှား, *v.* to be very small, diminutive; *not used singly*; လှေး; *n.* a tick, အလှေး, a parasitic mite which infests bullocks, horses, goats, etc., နွားမွှား, ပိုးကောင်မွှားကောင်, ပိုးမွှားတိရစ္ဆာန်; ပြည်လှေးပြည်မွှား, petty thieves.

မွှေ, *v.* to stir up, agitate; to disturb, annoy, vex; *more than* နှောင့်ယှက်; to rummage; ထမင်းအိုးမွှေလိုက်ပါ, တင်းအိုးမွှေသည်; ထယ်မွှေသည့်လူ; to stir up medicine in water. The Arakanese use မွှေ in the sense of searching a house or person, as for stolen property, in lieu of ရှာ။

မွှေနှောက်, *v.* same, သတ္တဝါတို့နှလုံးကိုရိုးရင်းခတ်မွှေနှောက်တတ်သောတဏှာ, ဆူဆေးကိုမွှေနှောက်ပြီးသောက်သည်။

မွှေနှောက်ရှာ, *v.* to ransack, to search unceremoneously.

မွှေ, *v.* to twirl about, to make whirl around itself; *comp.* ဝင်; နွားရွက်ကိုဆွဲမွှေသည်, သျှောင်ကိုဆွဲမွှေသည်။

မွှေနှောက်, *v.* to whirl around by the hair of the head.

မွှေယမ်း, *v.* to whirl around (*trans.*); to pull about here and there, မြက်ကိုမြင်းမွှေယမ်းလို့၊ပရမ်းပတာဖြစ်ကုန်ပြီ, ဆံပင်ကိုဆွဲကိုင်မွှေယမ်းသည်။

မွှေး, *v.* to smell sweet, be fragrant, ဆီနံ့မွှေးသည်, ပန်းနံ့မွှေးသည်; သိတင်းမွှေးသည်။

မွှေးကြူ, မွှေးကြိုင်, မွှေးထုံ, မွှေးပျံ့, *v. see the parts.*

မွှေးသင်း, မွှေးသိမ်, *v.* same as မွှေး, (*infreq.*).

မြွှင်း, *v.* to gash, as fish or flesh preparatory to cooking.

မြွှာ, *see* မြွှာ, *v.* to gash obliquely, as fish for cooking or drying.

## ယ

ယ, the twenty-sixth consonant in the Burmese alphabet.

ယက်, 1, *v.* to strike or impel with a stroke toward one's self; to scratch, as a fowl, or paw the earth, as a horse or dog, နွားမြေကြီးကိုယက်သည်; ရေတွင်းကိုလက်နှင့်ယက်၍လုပ်သည်။

ယက်, 2, *n.* water flying off when dashed against some substance, ယက်ကြီး, ယက်ခိုလိုက်။

ယက်ကြောင်း, *n.* the wake of a vessel, သင်္ဘောနောက်သို့ယက်ကြောင်းစီး လိုက်သည်။
ယက်ထ, *v.* to fly off or dash, as water, အလွှန်ယက်ထသည့်ရေ။
ယက်ပန်းစား, *v.* to rush through the water, so as to raise a spray under the bow, as a boat, အလွှန်ယက်ပန်းစားသည့်လှေ။
†ယက်မန်း (*pron.* ယမန်း), *n.* rice porridge, one kind of ယမကာ။
ယက်မန်းရည်, *n.* same as ယက်မန်း။
†ယက်သဲ့, *n.* a woven bamboo scoop for catching small fish and prawns.
ယခင်, *n.* or *adv.* past time, အထက်, အရင်; ယခင်ပြောသည့်စကားနှင့်ယခု ပြောသည့်စကားမညီပါ, ရှေးယခင်, ယခင်ကာလ (*Colloq.*).
ယခု, *n.* or *adv.* the present time.
ယခုကဲ့သို့, *adv.* as at the present time.
ယခုနေ့, *n.* to-day, the present day, ယနေ့, ခုနေ့။
ယခုမှ, *adv.* only just now; *frequently used for* ယခုမှာ။
ယခုမှာ, *adv.* now, as it is.
ယခေါင် (from ခေါင်), *n.* time pertaining to the remotest antiquity (*obsolete except in writings*), ယခေါင်ရှည်ကာလလျှားကပင်၊လင်မယား ဖြစ်လျက်ရှိကြပါသည်။
ယင်, *n.* the common house fly; any flying insect.
ယင်အုံ, *v.* to collect together, as a swarm of flies.
ယင်မိုး (*pron.* မိုး), *n.* the jumping spider that springs on its prey.
ယင်ချေး (*pron.* ချီး), *n.* a freckle, ယင်ကြီးဥ။
ယင်ချေးဥ, *v.* to deposit eggs, as flies; to flyblow.
ယင်ချောက် (*pron.* ချောက်), *n.* a fly-flap, a chowry, ယင်ချောက်ယပ်။
ယင်နား, *v.* to light on, to settle, as a fly.
ယင်ပျား (*pron.* ပျား), *n.* a small kind of honeybee, ယင်ပျားနွဲ။
ယင်မဲဝိုင်း, ယင်မစဲရှိင်း, *n.* the bluebottle fly, sometimes called ယင်မဲရောင်း။
ယင်ရဲ, *n.* a small red fly.
†ယင်ကမ်း, *n.* the edible *zalacca*, a kind of tree.
ယင်ကမ်းချည်, ယင်ကမ်းရှို, *n.* varieties of the same.
ယင်တောင်, *n.* a kind of bird (Pali မန္တာလက).
ယင်တောင်စာ (*pron.* ဇာ), *n.* a kind of bird.
ယင်တောင်စား, *n.* a kind of fish.
ယင်တောင်တန်း (*pron.* ဒန်း), *n.* a row of people walking abreast; *adv.* abreast, စစ်သည်များယင်တောင်တန်းချီတက်ကြသည်။
ယင်း, 1, *pron. a.* that, ယင်းအကြောင်းတို့ကြောင့်။
ယင်းသို့, *pron. a.* such, of that sort, ယင်းသို့တပြီးကား, ယင်းသို့ဖြစ်သော် လည်း (ဤသို့ဖြစ်သော်လည်း), ယင်းသို့အမိပ္ပါယ်လာရကား; ယင်း and ယင်း

သို are rare in colloquial, but are frequently found in old writings.
ယင်း, 2, *n.* a bamboo texture set up in a rivulet or in a fishery, to intercept fish; a texture made of finely split bamboos used for window shades and veranda curtains; a chick, ယင်းကာ, ယင်းဆွဲ (122).
ယင်းကပ် (*pron.* ဂပ်), *n.* the above bamboo texture spread on the thwarts of a boat.
ယင်းကာ, *v.* to screen with chicks.
†ယင်းတိုက် (*pron.* ဒိုက်), *n.* Moulmein ebony; blackwood.
ယင်းနွယ်ခင်း, *n.* the *Vitis Linnæi*, a kind of creeper.
ယင်းသဗိန်, *n.* the *Vitis auriculata*, a large, woody climber, producing bunches of smooth, red, almost globular berries the size of grapes.
†ယင်းပြား (ပင်), *n.* a kind of medicinal plant, the *Ancistrolobus mollis*.
ယင်းမ (or မာ), *n.* a species of *Chickrassia* producing the Chittagong wood.
ယင်းရည်း (ပင်) (*pron.* ရဲ), *n.* a kind of tree, a species of *Myrobalan*, the *Lumnitzera racemosa*.
ယင်းရည်းမျောက်ခြီး, *n.* a plant of the genus *Borago*, the *ehretia*.
ယင်းရည်းလိုက်, *v.* to be partial in deciding, to be biased, သည်အမှုကို ယင်းရည်းလိုက်လို့မပြောပါနှင့်၊မှန်ရာကိုသာပြောပါ, do not be biased in stating the case, but tell only what is true.
ယစ်, *v.* to be drunk, intoxicated, တယ်မမူးလှဘူး၊ယစ်တစ်တစ်ရှိသည်။
ယစ်ထုပ်, ယစ်ထုပ်ကြီး (from ထုပ်, to wrap up), *n.* a sot, သည်သူယစ်ထုပ်ကြီးကဘဲ (*Colloq.*).
ယစ်မူး, *v.* same as ယစ်, အရက်ယစ်မူးလို့လူမှန်းမသိ, အရက်ယစ်မူးလို့လမ်းမှာလဲနေသည်။
ယစ်မျိုး, *n.* any intoxicating drug or liquor, သူရာ, မေ, ယစ်မျိုးငါးပါး၊ဘိန်း၊ထင်း၊ကစော်၊ဆေးခြောက်၊အရက်။
ယစ်မျိုးဥပဒေ, *n.* the Excise Act.
ယဇ် (Pali ယာဂ), *n.* a sacrifice, an animal offered in sacrifice, ယဇ်နတ်တင်။
ယဇ်စာ, *n.* sacrificial food.
ယဇ်ဆရာ, *n.* a priest, ယဇ်ပုရောဟိတ်။
ယဇ်ပလ္လင်, *n.* an altar.
ယဇ်ပုရောဟိတ်, *n.* a priest, ယဇ်ဆရာ။
ယဇ်ပူဇော်, *v.* to offer a sacrifice.
ယဇု (Pali), *n.* one division of the Vedas, the Yajur Veda; *see under* ဗေဒင်။
ယည်, 1 (*pron.* ယဉ်) (Pali ယာန), *n.* a carriage, a vehicle of any

kind; particularly applied to certain official palanquins, ယည်ဆောင်, ယည်စီး, ယည်ထမ်း, ယည်အမှုထမ်း, ယည်ပေါင်း; light-built ornamented bullock carts with a hood are called လှည်းယည်။
ယည်ပေါင်း (*pron.* ယဉ်ပေါင်း), *n.* the hood or top of a palanquin, ornamented carriage, or cart.
ယည်, 2 (*pron.* ယဉ်), *v.* to be tame; to be civilized; to be graceful, လှတမျက်နှာ၊ယည်တကိုယ်လုံး; to be delicate in scent, as a flower, ပန်းအနံ့ယည်သည်; to lose strength or efficacy, as a drug or medicine, ဆေးယည်သည်; ယည် is also used in the sense of a malarial locality becoming less so, owing to cultivation, increase of population, etc., သည်အရပ်၌အရင်ကကဲ့သို့မဖျားပါ၊တော်တော်ယည်ပါပြီ။
ယည်ကျေး, *v.* to be well-bred, genteel, polite, complaisant; to be elegant in speech, စကားယည်ကျေးသည်; *see* သိမ်မွေ့; applied to things, to be handsome and fashionably made, ဂုဆိုးအဆင်ယည်ကျေးသည်, အိမ်ဆောက်ပုံယည်ကျေးသည်; သည်မိန်းမကလေးအလှဖြင့်မလှဘူး၊ သို့သော်ယည်ဖြင့်ယည်ကျေးသည်။
ယည်င်, *v.* to be polite in speech (*infreq.*).
ယည်ပါး, *v.* to be tame, familiar (when applied to animals); to have sexual intercourse before marriage; ကျွန်ုပ်ဒရယ်ကလေးကျွန်ုပ်လက်ဝယ်သို့ရောက်သည်မှာအာမျှမကြာသေးသော်လည်း၊အလွန်ယည်ပါးလှပြီ, though scarcely any time has elapsed since my little deer came into my possession, it has become very tame indeed.
ယည်ယည်, *adv.* tamely, မိတ်နှီး၍သည်းခံသည်နှင့်။
†ယည်မင်း (*pron.* ယမင်း), *n.* a doll, ယည်မင်းရုပ်။
ယည်း (*pron.* ယဉ်း), *v.* to break out afresh after appearing to be cured; *see* အနာယည်း။
ယတြာ (*pron.* ယဒရာ) (Pali), *n.* certain magical observances, ယတြာခြေ, ယတြာမခြေ, ယတြာကောင်းလျှင်၊မင်းလောင်းပျောက်သည်။
ယတြာဆင်, ယတြာပြု, *v.* to practise such observances (*in ordinary parlance*), in order to avert some danger foretold by an astrologer or fortune teller.
ယနေ့, *an abbrev. of* ယရနေ့, *n.* to-day, ၎င်းအမှုကိစ္စများကိုယနေ့ပြီးအောင်လုပ်ရမည်; *in colloquial corrupted into* ကနေ့ (*pron.* ဂနေ့).
ယန္တရား, *n.* any engine or machinery, ယန္တရားစက်။
ယန္တရားစက်, *n.* same; ယန္တရားစက်ဆရာ, a mechanical engineer.
ယပ်, *n.* a fan, ယပ်တောင်; a punka, ယမားယပ်; *v.* to fan; to beckon with the hand, လက်ယပ်, လက်ယပ်ခေါ်။
ယပ်ခတ်, *v.* to fan, ယပ်ခတ်စမ်းပါ။

ယပ်ဆွဲ, *v.* to pull a punka: to hang a punka.
ယပ်တောင်, *n.* a fan.
ယပ်ပေါင်, *n.* a punka pole.
ယပ်ရိုး, *n.* the handle of a fan. ယပ်ရွက်, *n.* the leaf of a fan.
ယဗိန်း (*pron.* ယဇိန်း), *n.* a Yabein, one of the race of Yabeins. They live in the Prome and Toungoo districts, and gain their livelihood by rearing silkworms.
ယမက, ယမတော, ယမလှ, *n.* executioners in hell; ငရဲသူငရဲသားများကိုစောင့်ထိန်းအုပ်ချုပ်ရသောငရဲမင်း; ယမမင်း (ငရဲမင်း); applied figuratively to overwhelming misery, ယမတောယမကလက်သို့ရောက်သလိုဘဲဒုက္ခခံရသည်။
ယမကာ, *n.* a certain preparation of sweet liquor made of jaggery, tamarinds, etc., အရက်ယမကာ။
ယမင်း (ပင်), *n.* the *Aporosa villosa*, a tree leafless in the hot season, exuding a red resin, and growing to the height of twenty-five or thirty feet.
ယမန်, *n.* time recently passed, ယမန်ကာလ။
ယမန်နေ့, or ယမနေ့, *n.* a day lately passed, the other day.
ယမန်နှစ်, or ယမနှစ်, *n.* a year lately passed.
ယမန်လ, *n.* a month lately passed.
†ယမန်ကာ, *adv.* in an unfinished, unworkmanlike manner. *In modern colloquial* this word has become corrupted into သမန်ကာ, သမန်ကာလျှံကာလုပ်သည်။
ယမန်း, *see* ယက်မန်း, *n.* a kind of rice porridge.
ယမနေ, *n.* a kind of tree, clogwood; used for building purposes, and for making cartwheels.
ယမား, 1, *n.* a punka, suspended fan, ယမားယပ်။
ယမား, 2, *n.* one kind of royal umbrella, ယမားထီးတော်။
ယမိုက်, 1, *n.* a miracle by which a Buddh exhibits his body half fire and half water, ယမိုက်ပြာဋိဟ်။
ယမိုက်, 2, *n.* the sixth book of the third grand division of the Buddhist Scriptures; *see under* အဘိဓမ္မ; ယမိုက်ဆယ်ကျမ်း။
ယမ်း, 1, *n.* gunpowder; saltpetre.
ယမ်းချေးခါ, *v.* to discharge the contents of a gun in order to clean it, or for safety's sake.
ယမ်းခြင်, *n.* the quantity of gunpowder sufficient for one charge, ယမ်းတလက်စာ။
ယမ်းစိမ်း, *n.* saltpetre, nitre.
ယမ်းတောင့် (*pron.* ဒေါင့်), *n.* a crystal of saltpetre; a cartridge.

ယမ်းတောင့်ဗိတ်, *n.* a cartridge box.
ယမ်းတိုက် (*pron.* ဗိုက်), *n.* a gunpowder magazine.
ယမ်းထ, *v.* to explode, as gunpowder, ယမ်းပွက်သည်။
ယမ်းထိုး, *v.* to load a cannon or gun.
ယမ်းထိုင်း, *v.* to be damp, as gunpowder.
ယမ်းဘူး, *n.* a powder flask.
ယမ်းဖော်, *v.* to make gunpowder.
ယမ်းမြေ, *n.* earth impregnated with saltpetre.
ယမ်းပွက်, *v.* to explode, as gunpowder,ယမ်းထသည်။
ယမ်းရုံ, *n.* a gunpowder manu actory.
ယမ်း, 2, *v.* to strike right and left, or to make any rapid motion from side to side, ခြေနှင့်ယမ်းသွားသည်, လက်နှင့်ယမ်းသွားသည်; to flourish, as a stick, တုတ်နှင့်ယမ်းသည်; to waddle as a duck, ဝမ်းဘဲယမ်းသွားသည်; to do at random, ယမ်းလုပ်, ယောင်း။
ယမ်းဆ, *v.* to guess, conjecture; *comp.* ဆ; ယမ်းဆလို့သာခြေ်ရသည်, ယမ်းဆရေးသည်။
ယမ်းတမ်း, ယမ်းတား, *v.* to make a conjectural calculation, ယမ်းတီး ယမ်းတားစမ်းလုပ်သည်။
ယမ်းတမ်းယမ်းတမ်း, *adv.* guessingly, at random; ယမ်းတမ်းယမ်းတမ်းနှင့်သွားသည်, to go from side to side in walking, to walk in a wabbling manner; ယမ်းတမ်းသန်းတမ်းလုပ်သည်။
ယမ်းပြော, *v.* to speak at random.
ယမ်းယောင်, *v.* to guess at random; not used in ordinary colloquial but met with in songs; ယမ်းယောင်လို့သာခေါ်သည်, to call out to a person, not being certain of his exact locality.
ယရှား, *n.* a long strip of cloth attached to the front of a bier of notable persons, and carried by several persons in a procession, တလား၊ပြာသာဒ်၊စလွှား၊ယရှားဆွဲ။
ယယ်, *n.* *affix*, and; used in enumerating a succession of things, the initial letter adapting itself to the preceding word for the sake of euphony, as ဆွမ်းယယ်, သဗိတ်ကယ်, etc. (*Colloq.*).
ယသ (Pali), *n.* splendor of attendants, equipage, etc., အခြံအရံအကျော်အစော, အခြံအရံနှင့်ပြည့်စုံသောယသ, အကျော်အစောနှင့်ပြည့်စုံသောယသ။
ယသော်ဓရာ, *n.* Yasodhara, wife of Prince Sidharttha (who became Gautama the Buddh).
ယဟူဒိ, *n.* a Jew, ယုဒလူ။
ယံ (Pali ယာမ, a portion, division. အပိုင်းအခြား), *n.* a watch, an indefinite period of night; there are three of these, *viz.*, ညဦးယံ, the early

part of the evening, သန်းခေါင်ယံ, the time of midnight, မိုးသောက်ယံ, the time of morning; the place of, or about a thing, as တိမ်ယံ, the place of, or about the clouds; အပေါ်ယံ, the outside, surface.

ယာ, 1, *n.* a cultivated spot of ground, ယာခင်း, တောင်ယာ, တောင်သူယာရုတ်, ယာရုတ်ကိုရှလည်းပြီးစေဦးတော့။

ယာမြေ, *n.* land producing millet, sesamum, cotton, indigo, etc.

ယာ, 2, *v.* to make a quid of betel, ကွမ်းယာ, ကွမ်းယာပေးပါ။

ယာကွတ်တီ, *n.* a medicinal drug.

ယာဂု, *n.* a certain preparation of boiled rice mixed with sundry ingredients; one kind of ထမင်းနယ်; တမ္ဘိတ္တဲလပြည့်ယာဂုထိုးပွဲ။

ယာစကာ, *n.* a mendicant, beggar, ဖုန်းစား, သူဖုန်းစား, သူတောင်းစား။

ယာစကာမ, *n.* *a term of reproach*, addressed to a woman, မိန်းမရှင်မ။

ယာမာ, *n.* the third stage of the world of *nats*; *see under* နတ်ပြည်ခြောက်ထပ်။

ယာယီ, *a.* temporary, used for a short time only.

ယာယီအိမ်, ယာယီတဲ, *n.* a building for temporary residence

ယာယီနန်း, *n.* a temporary palace, ယာယီနန်းတော်။

ယာယီပြောင်း, *v.* to remove to a temporary residence.

ယား, *v.* to itch.

ယားကျိကျိ,ယားကျိယားကျိ,*adv.* with light itching,ကိုယ်၌ယားကျိကျိရှိသည်။

ယားတားတား, ယားယံယံ, *adv.* same; ကျောကယားတားတားရှိသည်။

ယားနာ, *n.* the itch in an advanced stage; *comp.* ဝဲ။

ယားယံ, *v.* to itch; *more intense than* ယား, ယားယံသောရောဂါ။

ယိ, 1, *see* ရိ, *v.* to be rotten, as cloth.

ယိ, 2, *see* ရိ, *v.* to gleet, discharge pus, as a sore.

ယိမ်း, *v.* to lean, be inclined, တိမ်း; *less than* ယိုင်; အိမ်ပျက်လို့ယိမ်းသည်; သစ်ပင်ယိမ်းသည်; စကားယိမ်းပြောတတ်သည်။

ယိမ်းက, *v.* to dance by posturing, to dance at a ယိမ်းပွဲ။

ယိမ်းတိမ်း, *v.* same as ယိမ်း, ခင်ဘျားမိုက်သည့်တိုင်မမတ်ဘူး၊ယိမ်းတိမ်းတိမ်းရှိသည်။

ယိမ်းပွဲ, *n.* a posture-dance *pwe.*

ယိမ်းဘီယိမ်းပါး, *adv.* leaning to one side and the other, as a drunken man, ယိမ်းဘီယိမ်းပါးလဲလုလဲချင်သွားသည်, သည်သစ်ပင်လေတိုက်လို့ယိမ်းဘီယိမ်းပါးနေပြီ၊လဲတော့မည်။

ယိမ်းယိုင်, *v.* to lean, to be out of perpendicular.

ယိရှားပန်းလျှ, *see* ရိရှားပန်းလျှ, *adv.* in most poor and wretched plight.

ယိသဲ့သဲ့, *see* ရိသဲ့သဲ့, *adv.* vaguely, indefinitely, insinuatingly.

ယီးကာယောင်ကာ *(rare in colloq.)*, ယီးတီးယားတား *(more common)*,

ယိုးတိုးယောင်တောင်, *adv.* indefinitely, ambiguously, evasively; waveringly, hesitating between two; ယိုးတိုးယားတားလုပ်သည်, to shilly-shally; ယိုးတိုးယားတားလူ, a man of doubtful or undecided character; တမြို့ရောက်ကာလ၊ အသိအကျွမ်းမရှိသောကြောင့်၊ ယိုးတိုးယောင်တောင်နှင့်၊ တယောက်တည်းအနေအထိုင်ရခက်သည်။

ယုဇန, *n.* suspicion, doubt.

ယုဇနကင်း, *v.* to be free from suspicion, ထိုသူအပေါ်၌ယုဇနကင်းလောက်အောင်ထပ်မံ၍မေးပါဦး, re-examine that person sufficiently to free him from suspicion.

ယုဇနရှိ, *v.* to be suspicious, doubtful, မိမိစိတ်ကိုပင်မိမိယုဇနရှိသည်, he is doubtful even of the state of his own mind.

ယုဇနာ (ပင်), *n.* a kind of flowering tree.

ယုတ်, *v.* to be inferior, mean, ငါ့မြင်းအောက်ယုတ်သောမြင်း, a horse inferior to my horse, ညံ့; to fall short, to decrease, become less, inferior, to degenerate, ဆုတ်ယုတ်, လျော့; to be abject, base; နှစ်ထယ်ထက်မယုတ်ဘူး, မိမိသုံးဆောင်သည်ထက်ယုတ် သောအာဟာရကို ပေးလှူခြင်းသည်ဒါနဒါသဖြစ်သည်, the offering of food inferior in quality to that partaken of by one's self is (termed) a slave's offering; မယုတ်မလျှန်စေရ၊ အမှုတော်ကိုထမ်းရမည်, နှစ်နာရီမယုတ်ပါဘူး၊ နှစ်နာရီကျော်စရာရှိသည်. *Der.* ရှုတ်။

ယုတ်ညံ့, *v.* to be inferior, mean; to be abject, base; ဆိုးကောင်းယုတ်ညံ့ဖြစ်ပျက်ဟူ၍ရေးမှတ်ပါသည်။

ယုတ်မာ, *v.* to be vile, depraved, wicked, unprincipled, base, degraded, ဆိုးညစ်, အလွန်သဘောယုတ်မာသည့်သူ။

ယုတ်လျော့, *v.* to fall short, to decrease, become less, inferior.

ယုတ္တိ (Pali), *n.* credibility, ယုတ္တိတင်, ခင်ဗျားပြောသည့်စကားယုတ္တိရှိပါ၏, there is credibility in the words you speak, စကားယုတ္တိမညီကွဲပြား၊ တခွန်းတပုံပြောဆိုသောကြောင့်။

ယုတ္တိဆင်, *v.* to invest with an air of credibility; to render plausible; used in a bad sense.

ယုတ္တိတွက်, *v.* to parse, a term used in Pali grammar, ရုပ်တွက်။

ယုတ္တိယုတ္တာ, *n.* same as ယုတ္တိ; သူ့စကားယုတ္တိယုတ္တာမညီ, his language is not in accordance with what is credible.

ယုတ်ပတ်, *v.* to suspect, think ill of, whether justly or not; often used when a married woman is suspected of an intrigue.

ယုဒ, *n.* a Jew, ယုဒလူ, ယဟူဒီ။

ယုန်, *n.* a hare; သဘော်ယုန်, ယုန်ကတောင်ပြေး၊ ခွေးမြောက်ကလိုက်; a rabbit; "the Easterns speak of the hare in the moon as we do of the

man in the moon." M.B. The Burmese believe that the figure of a hare is in the moon, and that the figure of a peacock is in the sun; hence the saying ရွှေလယုန်ပျောက်လျှင်၊မုန်းပါမည်, which is equivalent to telling a person that one's affection for him is undying.

ယုန်ထောင်, *v.* to set a snare for hares.

ယုန်လိုက်ခွေး, *n.* a harrier.

ယုယ, *v.* to take tender care, သားသ္မီးကိုအလွန်ယုယရှိသည့်မိဘ, မြင်းကိုသူ့သခင်ကယုယကျွေးမွေးသည်။

ယုံ, *v.* to believe, have confidence in, to trust; လူယုံ; အတွင်းလူယုံ, a confidant; မယုံသင်္ကာရှိ, တခါမယုံ၊ဆယ်ခါ (123).

ယုံကြုံ, *v.* to regard as wholly trustworthy (*rare in colloq.*).

ယုံကြည်, *v.* to believe cordially, to trust implicitly, ကျွန်တော်လူမောင်ဘခင်ကိုယုံကြည်ပါသည်, I implicitly trust my man, Maung Ba Kin.

ယုံစား, *v.* same as ယုံကြည်။

ယုံတမ်း (*pron.* ဒမ်း), *a.* and *adv.* plausible, having the semblance of truth, ယုံတမ်းစကားပြောသည်။

ယုံထောက်တန် (*pron.* ဒေါက်), ယုံထောက်သင့်, *v.* to be presumptive evidence, to be probably true, သူပြောသည့်စကားယုံထောက်သင့်ပါ၏။

ယုံသွယ်, *a.* credible, ခင်ဗျားပြောသည့်စကားယုံသွယ်ရာအကြောင်းမရှိ။

ယုံမှတ်, *v.* to accredit.

ယုံမှား, *v.* to doubt, ဝိစိကိစ္ဆာရှိ, သင်္ကာရှိ; ယုံမှားခြင်း, doubt.

ယုံမှားသွယ်ဖြစ်, *v.* to be questionable.

ယှို့, *v.* to be contracted, drawn into a small compass; to shrink, as flannel, cloth, etc., သက္ကလာတ်ရေစွဲလိုက်လျှိုယှို့သွားသည်။

ယှို့ယွဲ့, *v. see the parts.*

ယူ, *v.* to take; to be of opinion; ယူကျုံးမရ, to be irrevocable, past recall, ယူကျုံးမရဖြစ်ရလေခြင်း, အသက်နှလုံးယူကျုံးမရ၊ စိတ်ကမဆည်နိုင်အောင်မျက်ရည်အသွယ်သွယ်ယိုစီးလျက်. *Der.* အယူ။

ယူခဲ့, *v.* to bring.

ယူငင်, *v. see the parts,* သည်ဥစ္စာကိုယူငင်ခဲ့ပါ, ဥစ္စာပစ္စည်းမယူငင်နိုင်၊ လက်လွတ်ထွက်ပြေးပါရသည်။

ယူစား, *v.* to comprehend; to believe (*infreq.*).

ယူဆ, *v.* to be considerate; to restain the feelings, ချုပ်တည်း; *comp.* အောင့်သည်, ချိုသိပ်သည်; something between တွေးဆ, and နှလုံးမိုက်ဖိ, to take into the mind.

ယူဆောင်, *v.* to take and carry; to bring, fetch.

ယူတ, *v.* to complain, utter expressions of regret for the absence or loss of some one beloved, တ, တယူ, တသ (*not used in colloq.*).

ယူထား, *v.* to secure, နွားကိုယူထားလိုက်ပါ။
ယူပြန်, *v.* to re-assume.
ယူလာ, *v.* to bring, ယူခဲ့။
ယူသွား, *v.* to take away, *lit.* to take and go.
ယူဇနာ (Pali ယောဇန), *n.* a measure of length equal to 6,400 *tas* (အတာ), or four *ga-wokes* (ဂါဝုတ်), or thirteen and one half English miles; according to Latter, twelve miles, five furlongs; according to Childers, twelve miles.
ယေဘုယျ (Pali), *adv.* for the most part, generally, in the main, အများအားဖြင့်, သည်သူသတောယေဘုယျအကောင်းအားကြီးသည်, သည်မြို့သား ယေဘုယျဆင်းရဲတတ်ကြသည်။
ယေဘုယျအပ္ပက, *adv.* the many with the few, အနည်းနှင့်အများ။
ယဲ့, *v.* to be loose, flimsy, as badly woven cloth; *chiefly reduplicated and used adverbially.*
ယဲ့ယဲ့, *a.* worn out, exhausted, အားကုန်လို့ယဲ့ယဲ့ကလေးရှိတော့သည်; *adv.* slightly; *affixed to* ချို *and* ငန်, သကြားကိုဆားမှတ်လို့ဟင်းခတ်မိသည့် အတွက်၊ချိုသဲ့ယဲ့နှင့်စား၍မကောင်း။
ယော, 1, *n.* one of the race of Yaws, living west of the Irrawaddy River, and east of the Arakan Yoma range.
ယော, 2, *int.* there now! expressive of disapprobation, surprise, or fear, ယော၊ကြည့်စမ်းပါ, ယော၊တခါဖြင့် (ဖြစ်လျှင်) ကျားနှင့်တွေ့ပြီ။
ယောက်, 1, *n.* a ladle; *not used singly.*
ယောက်ချို, *n.* a cup-like ladle, ဟင်းချို။
ယောက်မ, *n.* a pudding stick, a flat wooden spoon used to stir rice when cooking; *fig.*, a mischievous person, သည်သူယောက်မကြီးတစ်ခါဘဲ။
ယောက်, 2, *v.* to wind around, as thread on a spool, တည်ငင်းလုံးနှင့်ချည် ကိုယောက်သည်; or on the quill of a shuttle, ရက်ဖောက်နှင့်ချည်ကို ယောက်သည်; or as a garment thrown around the neck, ပုဆိုးလည်ပင်း ယောက်လို့ကျေးတောသားလိုဘဲတယ်ရှိုင်းသည်, ပဝါလည်ပင်းယောက်သည်။
ယောက်ရိုး, ယောက်ရိုးတံ, *n.* the handle of a spool or reel, used when winding thread.
ယောက်လည်တံ, *n.* the spindle of a spool.
ယောက်, 3, *num. aux.* applied to mankind or superior beings; in the latter case not respectful; လူတယောက်, ဘုန်းကြီးတပါး, မင်းတပါး, ဘုရားတဆူ။
ယောက္ခမ, *n.* a father-in-law, or mother-in-law.
ယောက္ခမမိန်းမသူ, *n.* a mother-in-law.
ယောက္ခမယောက်ျားသူ, *n.* a father-in-law.

ယောက်ဖ, *n.* a brother-in-law, a wife's brother; a man's sister's husband; ယောက်ဖအကြီးအငယ်။

ယောက်ဖခွေးခေါ်, *n. lit.* brother-in-law call the dog, a bird that usually lives in dense forests, whose note has a striking resemblance to the sound of these words.

ယောက်မ, *n.* a sister-in-law, a husband's sister; a woman's brother's wife; ယောက်မအကြီးနှင့်အငယ်။

ယောက်ယက်ခတ်, *v.* to be restless, meddlesome, disorderly, as children, ဆော့, ဆော့ကျွတ်; *commonly used adverbially,* သည်ကလေးတွေပြုလို ယောက်ယက်ခတ်နေသလဲ။

ယောက်ယီးယောက်ယက်, *adv.* in a restless, unsettled, disorderly manner, ကယောက်ကယက်, ဆူခြေမဲ့, ယောက်ယီးယောက်ယက်ရှိသည့်လူ။

ယောက်သွား, *n.* a bi-valvular shellfish, as an oyster, clam, mussel; *comp.* ခရု။

ယောက်သွားခုံး, *n.* a convex shellfish. *Der.* ခုံးသွားကျဲ။

ယောက်ျား, *n.* a male of the human race, a man; a man in the eminent sense of the word; used as a polite substitute for လင်, ကျွန်မ ယောက်ျားသည် (*pron.* သယ်).

ယောက်ျားအင်္ဂါ, *n.* the male organ, ယောက်ျားကိုယ်။

ယောက်ျားကောင်း, *n.* a man of strength, whether physical or mental, ယောက်ျားကောင်းစင်စစ်ဖြစ်ရပါလို၏, a prayer frequently offered by women.

ယောက်ျားပြီ, *v.* to be bold, fearless, as a man should be; used in commendation.

ယောက်ျားပွဲ, *n.* any manly sport, or sport which is exclusively engaged in or witnessed by men.

ယောက်ျားဘဝ, *n.* a state of existence as a man, as distinguished from that of a woman, ယောက်ျားဘဝမရဘဲရှိရပါစေ; an imprecation frequently used by men when asserting their innocence, etc.

ယောက်ျားမင်းသမီး, *n.* a male actor who takes the part of the princess in a dramatic performance, ယောက်ျားမင်းသမီးမောင်မှိန်တိုင်။

ယောက်ျားမြတ်, *n.* a man of superior virtue; a term usually applied to Bodhisats, ယောက်ျားမြတ်တို့လက္ခဏာနှင့်ပြည့်စုံတော်မူသောဘုရားလောင်း။

ယောက်ျားယူ, *v.* to take a husband; in meaning similar to လင်နေ, but more polite; ယောက်ျားရ, to have a husband.

ယောက်ျားလက်သည်, *n.* an accoucheur.

ယောက်ျားလျှာ (*pron.* ရှာ), *n.* a hermaphrodite, said to have the parts of a woman, but the passions of a man; *comp.* မိန်းမလျှာ။

ne ro: mannish girl or woman running 'spectrum' from tomboy to homosexual
probably not now 'hermaphrodite' (see [illegible] and [illegible])

ယော ကျ်ားပတ်, *n.* an article of male attire.

ယောကျ်ားသနာ, *n. see* ယောကျ်ား; ယောကျ်ားသနာယူသည်, ယောကျ်ားသနာရှာသည်, *used merely as an expletive to* ယောကျ်ား; *comp.* မိန်းမသနာ။

ယောဂလေးပါး, *n.* four streams or currents which bear away human beings, *see* ဩဃလေးပါး, ကာမယောဂ၊ဘဝယောဂ၊ဒိဋ္ဌိယောဂ၊အဝိဇ္ဇာယောဂ; *comp.* အာသဝေါ။

ယောင်, 1, *see* ဆံထုံး (from ဦးဆံထုံး), *n.* the knot of hair as worn by men.

ယောင်, 2, *v.* to make a mistake, from absence or confusion of mind, from a sudden emotion, or from want of consideration; to be hysterically nervous, ယောင်တတ်သည်; to talk in one's sleep, အိပ်ပျော်ရာကယောင်စကားပြောသည်။

ယောင်ကန်းကန်း (*pron.* ဂန်းဂန်း), *adv.* blindly, confusedly, blunderingly, ယောင်ကန်းကန်းနှင့်လုပ်သည်, ယောင်ကန်းကန်းနှင့်ပြောသည်။

ယောင်တားတား (*pron.* ဒါးဒါး), ယောင်တောင်တောင်, ယောင်တီးယောင်တား, ယောင်တီးယောင်တောင်, ယောင်ဝေဝေ (*infreq.*), *adv.* same, ယောင်တားတားနှင့်တောင်စမ်းမြောက်စမ်းသည်, ယောင်တီးယောင်တားတယ်ရှိသည့်လူ။

ယောင်ပေါင်, *v.* to imitate without consideration, to do because others do, အတုအပပြု, သူတပါးများသွားလို့သာယောင်ပေါင်၍လိုက်သည်, သူတပါးလုပ်လို့သာယောင်ပေါင်၍လုပ်ရသည်။

ယောင်မှား, *v.* same as ယောင်; *used chiefly as a verbal formative*, ထင်ယောင်ထင်မှားရှိသည်, အသိလားလို့ယောင်မှားခေါ်မိသည်။

ယောင်ယမ်း, *v.* same as ယောင်, ဗုဒ္ဓိသရဏံယောင်ယမ်းကာမျှအကျိုးရသည်, ယောင်ယမ်းသီချင်းဆိုသည်, အိပ်ရာကထ၍ယောင်ယမ်းငိုမိသည်။

†ယောင်မ, *n.* a pudding stick; *see* ယောက်မ *under* ယောက်, 1.

ယောင်မဟာင်းညို (ပင်), *n.* the *Sauropus albicans*, an erect, simple-stemmed undershrub, having minute stipules and lanceolate leaves. The fruit is snow-white and the size of a small cherry.

†ယောင်ယင်, *n.* the large hornbill, *Buceros Homrai*.

ယောင်ယင်နက်, *n.* the black hornbill.

†ယောင်ယောင်, *adv.* very little, ယောင်ယောင်သာနောက်ကျသည်, ယောင်ယောင်သာမှိသည်။

ယောင်ယောင်ကလေး, *adv.* same, ခင်ဘျားနှင့်ယောင်ယောင်ကလေးသာလွဲသည်၊ ခဏဆိုင်းလျှင်တွေ့သေး၏, ယောင်ယောင်ကလေးသာလိုသည်, သူထက်ယောင်ယောင်ကလေးကြီးသည်။

ယောင်း, *v.* to be very dry, tending to decay, အလွန်သွေ့ခြောက်; *less than* ဆွေးမြေ့; သစ်ယောင်း, ဝါးယောင်း, သည်သစ်ပင်အလွန်ယောင်းသည်၊ လေထိုက်မခံနိုင်ဘူး။

ယောင်းခြောက်, *v.* same as ယောင်း။

ယောနိ (Pali), *n.* the private parts, whether male or female; အဏ္ဍဇယောနိ, ဇလာဗုဇယောနိ, သံသေဒဇယောနိ, ဥပပါတ်ယောနိ, "the four *yonis* or classes of birth or existence, *viz.* oviparous, viviparous, moisture-sprung and apparitional." *Childers.*

ယော့, *int.* here! take it! ယော့ယူလည့်; used in calling horses and bullocks, ယော့ယော့။

ယောင်ယမ်း, *v.* to guess at random; *see* ယမ်းယောင်။

ယို, 1, *n.* preserves, sweetmeats, confectionery.

ယိုကျို, *v.* to make confectionery; to season with sugar, ယိုထိုး။

ယို, 2, *v.* to leak; applied also to weeping, and to evacuating the intestines; to be made worse, be injured, damaged, ယွင်း; ချေးယို, မျက်ရည်ယို, ဆင်မုန်ယို; ယို sometimes has the same meaning as ချော့, *e.g.*, ထိုရွှိုလည်းမလိုချင်ဘူး။ မိုရွှိုလည်းမလိုချင်ဘူး; သွေးယိုထွက်, to issue forth, as blood, to bleed.

ယိုပေါက်, *n.* a crack or aperture at which water is let in or out.

ယိုဖိတ်, *v.* to leak and run over, as from a vessel, ပုကန်ထဲကယင်းယိုဖိတ်သည်; *fig.*, ကာမဂုဏ်ယိုဖိတ်သောစိတ်။

ယိုယွင်း, *v.* to be made worse, be injured, damaged, ယွင်းယို, ချွတ်ယွင်း, ယိုယွင်းပျက်စီးသည်။

ယို, 3, *not used singly.*

ယိုထိုး, *v.* to mock by inviting to take a thing and then refusing to give it, calling ထိုးယို, with an up and down motion of the forefinger; ချော့ပွဲပြင်သည့်အခါ နိုင်သောသူများကရှုံးသောသူတို့ကို ယိုထိုးချ်ပြသည်; ယိုယည်၊ယိုယည်၊ဆန်တပြည်၊ယိုယဲ၊ယိုယဲ၊ဆန်တခွဲ, a mocking phrase used by children.

ယိုင်, *v.* to lean, be inclined; *more than* တိမ်း, and ယိမ်း; to spread unevenly, as the threads of coarse cloth, after being pulled in washing, etc., ရက်ကန်းသားယိုင်သည်; to go aside, မူးလို့ယိုင်သွားသည်, ထမ်းကောင်းကောင်းမရှောက်၊ယိုင်ယိုင်သွားသည်။

ယိုင်ညွတ်, *v.* to be bent downward.

ယိုင်တီးယိုင်တိုင် (*pron.* ယိုင်ဒီးယိုင်ဒိုင်), *adv.* staggeringly, နာလှန်ထစမှီလမ်းကောင်းကောင်းမရှောက်နိုင်ဘူး၊ယိုင်တီးယိုင်တိုင်နေသည်, နှုတ်ပြတ်လို့ရည်သွားကျိုးလျှင်၊ရက်ကန်းသားယိုင်တီးယိုင်တိုင်နေတတ်သည်။

ယိုင်တိုင်တိုင်, *adv.* leaningly, ဘုရားထီးယိုင်တိုင်တိုင်ရှိသည်, အိမ်ယိုင်တိုင်တိုင်နေသည်၊လေလာလျှင်ထဲတော့မည်။

ယိုစင်, *n.* a lookout, မျှော်စင်။

ယို့, 1, *v.* to keep the limbs in a snug, contracted posture, moving gently for fear of alarming, disturbing or offending; *comp.* ကြို့;

*fig.*, to submit, defer to the wishes or opinion of another, သည် သူ့သူတပါးအောက်က ယို့ပြေတတ်သည်; လူမမြင်အောင်နောက်က အသာယို့ ထိုင်သည်, အမိုးရမင်းရှေ့မှာယို့သွားသည်။

ယို့တို့တို့, *adv.* in the manner above indicated, but in a less degree.

ယို့, 2, *int.* right! that's it! တော်လှပြီ (*obs.*).

ယိုး, *v.* to suspect of a crime, ကျွန်တော်မခိုးဘဲနှင့်သူခိုးယိုးခံရသည်။

ယိုးစွပ် (from စွပ်), *v.* to accuse on suspicion.

†ယိုးဒယား, *n.* a Siamese, ယိုးဒယားလူမျိုး; ယိုးဒယားပြည်, Siam; ယိုးဒယား ရှမ်း, ယိုးဒယားသွက်။

ယိုးဒယားပင်, *n.* the *Ochna Wallichii*, a tree sometimes fifty feet high. The leaves are minutely but sharply serrulate; the flowers which are large and bright yellow, appear on very long, slender pedicels; the styles are about an inch long.

ယိုးဒယားပန်းခက်, *n.* leaves and flowers carved on water stands, boats, etc.

ယိုးဒယားဘာသာ, *n.* the Siamese language.

ယိုးမယ်ဖြု (*pron.* ယာမယ်ဖြု), ယိုးမယ်ဖွဲ့ (*more common*), *v.* to make an excuse on insufficient grounds; one kind of ဆင်ခြေတက်; အနည်းငယ် မမာ၊ယိုးမယ်ဖွဲ့လို့လူမမာလုပ်နေသည်။

ယိုးမယ်ရှာ, *v.* to search for a pretext, အကြောင်းမဲ့ယိုးမယ်ရှာ၍နှိပ်စက်သည်။

ယွင်း, *v.* to settle out of place; one kind of ချွတ်ယွင်း; to deteriorate, become worse, ယိုယွင်း; *rarely used singly.* *Der.* မှားယွင်း။

ယွင်းချွတ်, *v.* to settle out of place, အလုပ်ကိုယွင်းချွတ်သည့်အချက်တစုံတရာ မရှိဘူးပါ။

ယွင်းယို, *v.* to deteriorate, become worse, ကံကြမ္မာယွင်းယိုသည့်အခါ၊ဘုရား ကိုသတိထားရမည်။

ယွန်း, 1, *n.* a mark or figure delineated or painted on lacquered work, တထပ်ယွန်း, နှစ်ထပ်ယွန်း, သုံးထပ်ယွန်း။

ယွန်းဆက်, *n.* a certain ornamental graduation in a double roof.

ယွန်းထိုး, *v.* to delineate on painted or lacquered work, အစ်များကိုယွန်း ထိုးသည်။

ယွန်းထိုးသမား, ယွန်းသမား, *n.* a delineator in such work.

ယွန်း, 2, *v.* to move, change position, go or come (spoken of royalty), ရွှေ, ခြေတော်ယွန်း, ဒေသစာရီယွန်းယွန်း၍ကြွတော်မူသည် (applied to a Buddh); *when reduplicated*, aside, removed to a little distance, as အရှေ့တောင်ယွန်းယွန်း, a little south of east.

ယွဲ့, *v.* to be drawn aside, be distorted, awry; to be one-sided, slanting off, အိုးယွဲ့လျှင်စလောင်းယွဲ့နှင့်ပိတ်ရမည်, ခေါင်းယွဲ့သည်, ပစပ်ယွဲ့သည်။

ယွဲ့အောင်ပြု, *v.* to distort (the features).

ယွဲ့စောင်းစောင်း, ယွဲ့တဲ့တဲ့, *adv.* one-sided, distorted, awry, ဓိဓိလက်ရေးဖြင့် (ဖြစ်လျှင်) သေပါ၏၊စာလုံးယွဲ့စောင်းစောင်းရှိသည်, သည်မှန်ကိုကြည့်လျှင်မျက်နှာယွဲ့တဲ့တဲ့နေသည်, သည်သူဓိဓိသျှောင်ကိုယွဲ့တဲ့တဲ့ထုံးတတ်သည်။

ယှည် (*pron.* ရှညိ), *v.* to put together side by side, or laterally (not end to end, as ဆက်); သည်လူနှစ်ယောက်မတ်တတ်ယှည်စမ်းပါ, as in matching two boxers, or measuring the respective heights of two persons; သဘော်သနှစ်စင်းယှည်ရပ်ကြသည်, ဆင်နှစ်ကောင်ယှည်၍ထိုးကြသည်, ပညာရှိသောသူကိုပညာမရှိသောသူက၊ ယှည်ပြိုင်သော်လည်း၊မမှီနိုင်; to concern, appertain to, စပ်ဆိုင်, ကယ်တင်တော်မူခြင်းနှင့်ယှည်သောဝမ်းမြောက်ခြင်း. *Der.* တိုင်းယှည်, နှိုင်းယှည်။

ယှည်တွဲ, *v. see the parts*; လက်ချင်းယှည်တွဲ၍လမ်းလျှောက်သည်, နွားနှစ်ကောင်ယှည်တွဲ၍ရထားကိုကသည်။

ယှည်ပျှည် (*pron.* ပျှညိ), *n.* a thick plank used in constructing the side of a ship.

# ရ

ရ, the twenty-seventh consonant in the Burmese alphabet.

ရ, 1, *v.* to get, obtain, မိ, ရှာလို့ရ, မေးလို့မရ, ရမိအောင်ဘမ်းဆီးနိုင်; မရမက, *adv.* by extraordinary effort.

ရတတ်, *v.* to know how to get; to be rich. *In colloquial this word has been corrupted into* ရည်တတ်, when speaking of a person as being rich, ဥစ္စာပစ္စည်းရည်တတ်သည်; ရတတ်သမျှစုဆောင်းထားရသည်။

ရမိ, *v.* to obtain; to capture, as a criminal or rebel, ရင့်မှိုအပ်လာသည်။

ရလဒ်, *n.* a quotient, စား၍ရသောလဒ်။

ရ, 2, *verb. affix*, must, ဆေးကိုစားရမည်, ထိုအသီးကိုမစားရ; *frequently euphonic*; may, as ဤအသီးကိုစားရသလား, equivalent to ဤအသီးကိုစားရသောအခွင့်ရှိသလား, may I eat this fruit? can, as သည်လမ်းသွားရသလား, equivalent to သွားနိုင်သလား, can I go by this road? *i.e.*, သွားရန်အခွင့်ရှိသလား; followed by သည်, or ပြီ, ရ means to be under a necessity or obligation, နံနက်စောစောသွားရသည်, I had to go early in the morning; ငွေတထောင်လျှော်ရသည်, I was obliged to forfeit one thousand rupees; ကြိမ်ဒဏ်တကြိမ်ခံရပြီ, he has had to suffer the punishment of whipping once.

ရအောင်, *verb. affix, sign of the infinitive mood*, as ရေသောက်ရအောင်သွားသည်, he went to drink water (or in order to drink water), equivalent to ရေသောက်မည်သွားသည်; ခြင်းငှာ။

ရမည်အကြောင်း, *verb. affix, equivalent to* ရအောင်, *but more elegant*;

properly a sign of the potential mood, as ကျမ်းစာကိုသင်ရမည်အကြောင်းသွားပြီ။

ရက်, 1 (from အရက်), *n.* a natural day of twenty-four hours; a day of the month; အခါကြီးရက်ကြီး, *e.g.*, full moon of ဝါဆို; equivalent to the English "high day."

ရက်ကောင်း (ရွေး), ရက်မကောင်း (ရှောင်), *n.* a lucky or unlucky day; ရက်ကောင်းရွေး, to select an auspicious day.

ရက်ကျပ်, *n.* an intermediate day, a day intercalated at the end of the year, ရက်ကျပ်သွင်း။

ရက်ကြာ, *v.* to be long in respect to the number of days, နေ့ရက်ကြာ, ခရီးသွားသည့်ရက်ကြာလှပြီ, ရက်ကြာလကြာမလုပ်ပါနှင့်။

ရက်ကြို, *n.* the day before worship-day, အဘိတ်နေ့, အကြိုနေ့။

ရက်ချန်, *n.* or *adv.* every other day, ရက်ချန်ဖျားသည်။

ရက်ချာ, or ရက်ခြား, *n.* or *adv.* same; တရက်ခြားနှစ်ရက်ခြားလာပါ၏။

ရက်ချုပ်, *n.* the date of a person's birth; a written engagement (to pay money); *comp.* စာချုပ်။

ရက်ငင်, *v.* to intercalate a day, ဝါထပ်ရက်ငင်နှစ်။

ရက်စုံ, ရက်မစုံ (လ), *n.* a month which has an even number of days (30), or an uneven number of days (29), as follows, တ, က, ဝါ, တော်, တန်, ပြာ (ရက်စုံ); ကူး, ယုံ, ခေါင်, ကျွတ်, နတ်, တွဲ (ရက်မစုံ); ရက်စုံလျှင်တနင်္ဂနွေဆန်းတနင်္လာကွယ်, ရက်မစုံလျှင်တနင်္ဂနွေဆန်းတနင်္ဂနွေကွယ်။

ရက်စွဲ, *n.* the date of an event, နေ့စွဲ; မွေးဖွားသည့်နေ့ကိုမှတ်သားမိအောင်ရက်စွဲထားသည်။

ရက်ဆက်, *adv.* daily, နေ့တိုင်း, ဥပုသ်ရက်ဆက်စောင့်သည်, ရက်ဆက်ဖျားသည်, ရက်ဆက်လုပ်သည်။

ရက်ဆွဲ, *v.* to put off from day to day, as business or work.

ရက်ပုပ်, *n. lit.* a rotten day, a bad day, either one spent in vain, or one marked by unlucky indications; *see* နေ့ပုပ်; သည်ကနေ့အဘာမျှမလုပ်မိ၊ရက်ပုပ်ဖြစ်သွားပြီ။

ရက်မို, *n.* the day after worship-day, အမိုနေ့။

ရက်မပြတ်, *adv.* daily, ရက်ဆက်, နေ့ရက်အစည်အထိုင်း။

ရက်ရာဇာ, *n.* the most lucky day of the month.

ရက်ရှည်သွေး, *v.* to put off from day to day, as business or work, ရက်ဆွဲ, အလုပ်ကိုအလွန်ရက်ရှည်သွေးတတ်သည်။

ရက်လည်, *n.* a week; *seldom used.*

ရက်လည်ဆွမ်း (*pron.* လယ်ဆွမ်း), *n.* a feast given to guests attending a funeral ceremony seven days after the burial of the deceased, ရက်လည်ဆွမ်းကျွေး။

ရက်လွန်, *n.* the days in excess of the regular number of days in a year, on account of which an intercalary month is inserted.

ရက်, 2, *see* ယက်, *n.* water flying off when dashed against some substance.

ရက်, 3, *v.* to weave, whether cloth, a mat, or a basket. *Der.* ရက်ကန်း။

ရက်ပေါက်, *n.* the quill of a shuttle; a hole in the post of a bamboo fence, to receive the end of a bar.

ရက်ပေါက်တန်း, *n.* a rail to be inserted in the holes of the posts of a fence.

ရက်ပေါက်တန်းထိုး, *v.* to construct a rail fence in the manner just indicated.

ရက်ပေါက်တံ, *n.* the spindle of the quill of a shuttle; a bar in a woven bamboo fence.

ရက်, 4, *v.* to be quick, violent; *not used singly.*

ရက်စက်, *v.* to be unfeeling, severe, cruel; *more than* ကြမ်းကြုတ်; to be liberal, lavish, အပေးအကမ်းရက်စက်သည်, အလှူအဒါန်းရက်စက်သည်; သည်သူအခြားသောသူနှင့်မတူ၊ မိမိသားမယား၊ မြင်းနွားအလွန်ရက်စက်သည်, this person is unlike anybody else, he is exceedingly cruel to his wife, children, horses and bullocks; also applied to beauty in women, as ရက်ရက်စက်စက်လှသည့်မိန်းမ။

ရက်တရော, *adv.* instantly (*infreq.*); ရုတ်တရက် (*more common*).

ရက်ရက်, *adv.* quickly, violently; freely.

ရက်ရက်စက်စက်, *adv.* cruelly, unfeelingly; liberally, lavishly; ရက်ရက်စက်စက်ပြောတတ်သည်; ရက်ရက်စက်စက်ပေးကမ်းတတ်သည်။

ရက်ရော, *v.* to be unfeeling, severe, cruel; to be liberal, lavish, ရက်စက်; oftener used in a good, than a bad, sense; to be careless, unconcerned about one's property, so as to give lavishly, ဦးလူဗိန်ကဲ့သို့အလှူအဒါန်းရက်ရောသည့်လူအလွန်တရာရှားသည်, there are very few who are as lavish in their religious offerings as U Lu Bein.

ရက်, 5, *verb. affix,* to be capable of (in regard to feeling), ဤသို့စသောဂုဏ်တို့ဖြင့်၊မခွာရက်နိုင်အောင်ဖြစ်သော၊ဤနန်းတော်စည်းစိမ်ကို၊ အဘယ်အခါမှာခွာပစ်စွန့်၍ရဟန်းပြုနိုင်ပါအံ့နည်း; *as an auxiliary to the verbs* ကြ, ပြု, and လုပ်, ရက် conveys the same meaning as the English expression "to have the heart to," ခင်ဘွားအလွန်ကြရက်သည်နော်။

ရကန် (*pron.* ရဂံ), *n.* epic poetry, ရတုရကန်အဲအန်တေးချင်း။

ရကာ (*pron.* ရဂါ), *n.* an offering to a *nat*, နတ်ရကာပွဲ, နတ်ရကာတင်။

ရကား (*pron.* ရဂါး), *verb. affix, continuative,* မှုကား; *sometimes equivalent to* တကား, *see Gram. sec.* 109; ဤသို့မိန့်တော်မူရကား, ဤသို့ပြောတော်မူရကား။

ရကိုင်, *n.* a pleasant grove, wood, wilderness, ဂနိုင်, တော, မြိုင်; used in poetry and songs.

ရက်ကန်း (from ရက်, to weave), *n.* weaving, ရက်ကန်းသားမညီ, ရက်ကန်းသားမသေ။

ရက်ကန်းကြိုးမြွေ, *n.* the variegated tree-snake (innocuous).

ရက်ကန်းခုံစင်, *n.* a movable loom.

ရက်ကန်းခုံတိုင်, *n.* the posts of such a loom.

ရက်ကန်းခွ, *n.* the lower grooved timber of the lathe of a loom, in which the sley is inserted; *comp.* လက်ခတ်, and အောက်မေး။

ရက်ကန်းချွမ်း, *n.* the beam of the harness or heddles of a loom.

ရက်ကန်းစင်, *n.* a loom.

ရက်ကန်းစင်တိုင်, *n.* the posts of a loom, ရက်ကန်းခုံတိုင်။

ရက်ကန်းဆက်, *v.* to join the warp to be woven, to the thrums remaining in the heddles (မြိတ်ဆာဟောင်း).

ရက်ကန်းတက်, *v.* to be uneven, as weaving (one side of the cloth being higher than the other), ရက်ကန်းသားတက်။

ရက်ကန်းတတ်, *v.* to be skilled in weaving.

ရက်ကန်းတိုင်, *n.* the pegs or short stakes driven into the ground for winding the warp; *see* ရည်တိုင်။

ရက်ကန်းထွေး (*pron.* ဋွေး), *n.* the abb, yarn for the warp, ရက်ကန်းထွေးချည်။

ရက်ကန်းနင်း, *v.* to tread the treadle of a loom; *n.* the treadle of a loom.

ရက်ကန်းနှတ်, *n.* the harness or heddles of a loom, ရက်ကန်းမတတ်နှတ်ကိုချသည်။

ရက်ကန်းပင်, *n.* the warp, အတိုင်။

ရက်ကန်းဖေါက်, *n.* the woof, အဖေါက် (ဖေါက်ချည်).

ရက်ကန်းဖေါက်တံ, *n.* a round bar in a fence; *comp.* ရက်မ။

ရက်ကန်းဖြီး, *v.* to pass the sizing brush over the warp.

ရက်ကန်းဘီး, *n.* a sizing brush.

ရက်ကန်းရက်, *v.* to weave.

ရက်ကန်းရုံ, *n.* a factory where many looms are in operation.

ရက်ကန်းရှယ် (*pron.* ရှည်), *v.* to extend the thread lengthwise preparatory to weaving; *fig.*, ခင်ဗျားစကားပြောသည်မှာရက်ကန်းရှယ်သလိုဘဲ။

ရက်ကန်းလေး, *n.* the two sticks used to separate the threads of the warp, and placed next to the yarn beam, ကြောတံ။

ရက်ကန်းလှီးထား, *n.* the knife used for cutting off the ends of threads.

ရက်ကန်းသင်, *v.* to learn weaving; to teach weaving.

ရက်ကန်းသည် (*pron.* သယ်), *n.* a weaver.

ရက်ကန်းသား, *n.* a web, cloth in a loom.

ရက္ခိုက်, *n.* a certain monster of the *bilu* (ဘီလူး) genus. "The Rakshas resemble the Yakas, but they have not, like them, the power

to assume any shape that they choose. When appearing to men they must assume their own proper form. They live principally in the forest of Himala, and feed on the flesh of the dead, whether of beasts or men." M.H.

ရက်တက်, *n.* vinegar (*obs.*), ပုံးရည်။

ရက်မ, *n.* a girder, or longitudinal timber sustaining the joists of a house (ဆင့်); *comp.* ပေါင်းကွတ်; a bar in a rail fence, ရက်မကာပ်။

ရက်မပေါက်, *n.* the hole in a house post, into which the girder is inserted.

ရက်မလျှို, *a.* made rail-fashion, ရက်မလျှိုခါးပန်းသတ်; *v.* ရက်မလျှိုသည်။

ရခိုင်, *n.* Arakan, ရခိုင်ပြည်. Arakan, is officially applied to the whole of Arakan, *viz.*, the Akyab district, Arakan Hill Tracts, the Kyaukpyu and Sandoway districts; but the Arakanese only apply the term ရခိုင် to the Akyab district and the Hill Tracts; one of the Arakanese race. The ancient names of Arakan were ရက္ခပုရ (တိုင်း) (from ရက္ခ, a *bilu,* and ပုရ, country, city, kingdom), and ဓညဝတီ (ပြည်).

ရဂုံ, *n.* a pleasant grove, wood (*not used in colloq.*); *see* ရက်ခိုင်။

ရင်, *n.* the breast, ရင်ပတ်; ရင်ဝယ်သားကဲ့သို့, like the child of one's bosom.

ရင်အင့်, *v.* to be uneasy in the stomach from fulness, whether occasioned by food or gas, ရင်ထဲကအင့်တင့်တင့်ရှိသည်။

ရင်အပ်တန်ဆာ, *n.* an ornament worn on the breast, ရင်လွှမ်းတန်ဆာ။

ရင်အပ်တိုက်, *v.* to hurtle.

ရင်အုပ်, *n.* the breast of a brute animal, နွားရင်အုပ်သားဆူသည်။

ရင်အုပ်တန်ဆာ, *n.* a breastplate.

ရင်အုံ, *n.* the protuberance of the breasts in man or woman.

ရင်အောင့်, *v.* to have a constriction of the chest.

ရင်ကာ (*pron.* ဂါ), *n.* a large shield of boards carried in the hand and planted when required for protection.

ရင်ကား, *v.* to be broad in the chest, ရင်ကျယ်။

ရင်ကျည်း (*pron.* ကျဉ်း), ရင်ကျုံ, *v.* to be narrow in the chest.

ရင်ကျပ် (*pron.* ချပ်), *v.* to have the sensation of tightness in the chest, so as to breathe with some difficulty; *less than* ရင်ဆို့; မေးထိုးရင်ကျပ်, မေးအောင့်ရင်ကျပ်သည်။

ရင်ကျပ်အင်္ကျီ, *n.* a close jacket worn by girls.

ရင်ကျယ်, *v.* to be broad-chested, as a man, ရင်ကား။

ရင်ကြား, *n.* the depression at the breastbone.

ရင်ကြားစေ့, *v.* to agree, be on good terms, လူချင်းရင်ကြားစေ့အောင်ပေါင်းသည်; to agree in respect to a bargain, ရင်ကြားစေ့အောင်ရောင်းပါ။

ရင်ကွဲစရပ်, *n.* two *zayats* built parallel to each other, with a pathway running between them.

ရင်ကွဲပက်လက်, *adv.* in a broken-hearted manner, prostrated with grief, လင်သေလို့မယားမှာရင်ကွဲပက်လက်နှင့်နေရစ်သည်။

ရင်ခုန်, *v.* to palpitate, beat, as the heart, ရင်ခုန်ပါသေးသည်။

ရင်ခေါင်း (*pron.* ဂေါင်း), *n.* the chest.

ရင်ချင်းအပ်, *v.* to place breast to breast, စက္ကူများကိုရင်ချင်းအပ်ထားသည်။

ရင်ချိုင့်, *v.* to have an unusual depression at the breastbone.

ရင်ချောင်, *v.* to feel free and natural in the chest; *opposed to* ရင်ကျပ်, *and* ရင်အောင့်။

ရင်ခွင်, *n.* the bosom, *i.e.*, the breast and parts adjacent; သားငယ်ကိုရင်ခွင်ထဲမှာသိပ်သည်။

ရင်ခွင်ပိုက်, *n.* a guardian, regent; ရင်ခွင်ပိုက်ကြီးမိုး, the mother or near relation of an hereditary *thugyi*, who conducts his affairs during his minority (U.B.).

ရင်ငွေ့, *n.* the natural warmth of the body (*lit.* breast), ကြက်သူငယ်အမိရင်ငွေ့ကိုလှုံသည်; အရှင်ဘုရား၏ရင်ငွေ့ကိုလှုံလိုသောကြောင့်၊ခြေတော်ရင်းသို့ရောက်ပါသည်။

ရင်စည်း, *n.* something bound on the breast, ရင်စည်းတန်ဆာ။

ရင်ဆာ, *v.* to be uneasy from an unnatural appetite.

ရင်ဆိုင် (*pron.* ဇိုင်), *adv.* breast to breast, ရင်ဆိုင်တွေ့။

ရင်ဆိုင်ရှက်, *v.* to close with an enemy (*infreq.*); ရင်ဆိုင်ပူးရှက်, to grapple in wrestling.

ရင်ဆို့, *v.* to breathe with difficulty, from an obstruction in the chest; *more than* ရင်ကျပ်; *fig.*, သည်စကားကိုကြားလျှင်ရင်ဆို့လာသည်, as in hearing disagreeable news.

ရင်ညွန့်, *n.* the pit of the stomach.

ရင်တား (*pron.* ဒါး), *n.* a fence or palisade outside a fortification.

ရင်တီး, *v.* to beat the breast, ရင်တတီးတီး, ရင်ပတ်တတီးတီး, ရင်တီးလက်ခတ်ပူဆွေးဒုက္ခရောက်ရှာသည်။

ရင်တောင်, *n.* the gusset in each side of a Burmese jacket; an ornament worn by the prince in a dramatic performance.

ရင်တွန်း, *n.* a kind of bamboo trap used in catching shrimps; *see* မြှုံး။

ရင်ထု, *v.* to beat the breast, ရင်တီး။

ရင်နာ, *v.* to be sore in the breast; *comp.* ရင်ပတ်နာ။

ရင်ပတ်, *n.* the breast (of man).

ရင်ပတ်နာ, *v.* to have severe pain in the stomach; the Arakanese say ရင်ခေါင်းနာ။

လေး, 4, *v.* to respect; *seldom used singly,* ခန့်, ထိ, ရိုသေ, ကျွန်ုပ်ပြော သည့်စကားတဆိတ်မျှမလေးဘူး။

လေးခန့်, လေးငြား, လေးစား, *v.* same (*infreq.*), လေးစားမမှုမထိမဲ့မြင်ပြုတတ်သည်။

လေးမှု, *v.* same; *used adverbially only.*

လေးမြတ်, *v.* to respect; to think well of, think much of, ရိုသေလေးမြတ်; *comp.* နှစ်သက်; သည်အုငထ်သည်လူကြီးများထိုရိုသေလေးမြတ်တတ်သည်, ထိုတပည့်သည်မိမိဆရာကိုချစ်ခင်လေးမြတ်၏။

†လေးညှင်း, *n.* the clove plant.

လေးညှင်းပွင့်, *n.* the clove flower, a clove.

လဲ, 1, *n.* the product of the လက်ပံ tree.

လဲမှို, လဲဝါ, *n.* same; the product of the yellow-flowered cotton tree (*Cochlospermum gossypium*).

လဲ, 2, *v.* to fall down from an erect posture, သစ်ပင်လဲ; also used in the sense of being prostrate with a disease, ဌတ်ဖျားဓိထွိလဲနေသည်။

လဲကျ, *v.* to tumble, fall by losing one's footing, ထိမ့်ကျသည်။

လဲလျောင်း, *v.* to lie down, be recumbent (*rare in colloq.*).

လဲ, 3, *v.* to change, exchange, မြင်းချင်းလဲ, ခင်ဘျားမြင်းနှင့်ကျွန်တော်နွားနှင့် လဲပါ, ထဝ်; to rejoin, make a rejoinder (in law pleading), အမိန့်တော်ရ မင်းကျွန်တော်အမှုမှာလဲပါဦး. *Der.* ပြောင်းလဲ။

လဲဆို, *v.* to speak in return, to reply, အပြန်အလှန်ဆို; particularly applied to responding before authority, တရားလိုတရားခံနှစ်ဦးတို့၏အ စား၊ရှေ့နေနှစ်ဦးတို့သည်၊အစိုးရမင်းထံလဲဆိုကြသည်။

လဲပြောင်း, *v.* to change place, remove; to change one thing for another; တရွာမှတရွာသို့လဲပြောင်းကြသည်။

လဲဖယ်, လဲလှယ်, *v.* same as လဲ, ကုန်သွယ်တို့ဘာဝအညာကုန်နှင့်အောက်ကုန် လဲဖယ်၍ရောင်းဝယ်ကြသည်။

လဲ, 4, *v.* to empty, as from one vessel into another, လှယ်။

လဲဖယ်, *v.* to empty, လှယ်ဖယ်, ဖန်ခွက်ထဲကရေကိုပုကန်ထဲကိုလဲဖယ်ထည့်လိုက်ပါ။

လဲ, 5, *verb. affix, interrogative,* နည်း, တုံး, *always preceded by* မည်, ဘယ်, *or* ဘာ, ဘယ်မှာရှိပါသလဲ, ဘာပြောပါသလဲ; *see Gram. sec.* 110.

လဲသွဲ, *n.* a species of *Terminalia* producing large timber.

လဲလု (ပင်), *n.* the *Olax scandens,* a large scandent shrub, common in all parts of Burma where there are deciduous forests.

လဲလုံးပြောက်, *a.* twilled; *see* ပခွက်ကြောင်း။

လဲ့လဲ့, *adv.* slightly; applied to the color of green and blue, စိမ်းလဲ့လဲ့; applied also to life, as လဲ့လဲ့ကျန်သည်, just alive, လဲ့လဲ့ကလေးကျန်သည်။

လော (ကောင်), 1, *n.* a species of mule.

လော, 2, *v.* to repeat with greater force than at first, လောကြီ, သည်အ

မှုမှာလောပြီးကြီရလျှင်၊အသေခြောက်လိမ့်မည်, မင်းနှစ်ပါးစစ်တိုက်ကြရာ၊ တပါးသောမင်းစစ်ရှုံး၍ရပ်ဆိုင်းနေပြီးမှ၊တခါလောတိုက်ပြန်သည်; to return, as a disease after convalescence, နာလန်ထမှတခါလောဖျားပြန်သည်; hence အလော။

လော, 3, *not used singly.*

လောချင်း, *adv.* instantly, တာရှည်ဆိုင်းလင့်လို့မနေနှင့်၊လောချင်း, or လောလောချင်းပြီးအောင်လုပ်ပါ။

လောလော, *adv.* instantly, လတ်တလော။

လောလောဆဲ (*usually pron.* ဇယ်), *adv.* instantly, ရုတ်တရက်လောလောဆဲချက်ပြုတ်လို့ပြီးသည်, ဆိုင်းပါဦး၊ သည်ကိစ္စလောလောဆဲမကြံနိုင်သေးပါ, ခင်ဘျားငွေကိုလောလောဆဲမဆပ်နိုင်ပါ။

လော, 4, *not used singly.*

လောအောင်, *adv.* intolerably (hot), ထမင်းလောအောင်ပူသည်၊မစားနိုင်သေးပါ, လောအောင်ပူသည့်နေ့တဲ့။

လော, 5, *verb. affix, interrogative; see Gram. sec.* 110 (*not used in colloq.*); သစ်သီးသစ်ပွင့်တို့ကိုရလွှယ်ပါ၏လော။

လောကျမ်း (*pron.* ကျမ်း), *n.* a certain medical book in which the symptoms and prescriptions are indicated in the interrogative form, with the constant recurrence of the affix လော, as ကင်းမြီးကောက်ထိုးသော်၊ ထောပတ်နှင့်ပွတ်လျှင်မပျောက်လော, ကင်းကိုက်သော်၊ ကြေးဝါသံကြားလျှင်မပျောက်လော, မျက်စိနာသော်၊ မှန်ကြည့်လျှင်မပျောက်လော, ဖြပ်ကိုက်သော်၊မုတ်ကိုစားလျှင်မပျောက်လော။

လော (ရှမ်း), 6, *n.* one of the race of Laos in Northern Siam.

လော, 7, *n.* a kind of basket used as a receptacle for fowls.

လောက်, 1, *n.* a maggot.

လောက်ကိုက်, လောက်စား, လောက်ထိုး, *v.* to be gnawed, penetrated by maggots.

လောက်ကျ, လောက်တက်, *v.* to be infested with maggots, maggoty, ငါးအလောင်းမှာလည်းပုပ်နံ၍လောက်ကျနေသည်, မစားနှင့်၊လောက်တက်သည်။

လောက်လမ်း, *n.* a species of water insect; a wriggler, the larva of the mosquito; an inchworm, measuring worm.

လောက်သေ, *n.* a kind of tree. The leaf of this tree, when pounded and applied, is said to destroy maggots; hence its name.

လောက်, 2, *n.* a bow for throwing pellets, လောက်လေး။

လောက်စာ, *n.* a pellet for a bow, လောက်စာလုံး။

လောက်စာအိမ် (*freq. pron.* စအိမ်), *n.* the bed for the pellet.

လောက်စာလုံး, *n.* a pellet for a bow, လောက်စာ။

လောက်လေး, *n.* a pellet bow, bow for throwing pellets.

လောက်လေးကန့် (*pron.* ဂန့်), *n.* a square compartment in figured cloth, လောက်လေးကန့်ဆင်ပုဆိုး; so called from its resemblance to the လောက် စာအိမ်။

လောက်လွှဲ, *n.* a kind of sling made with a stick and string.

လောက်, 3, *v.* to be enough, sufficient, ကျေးဇူးဖြစ်လောက်အောင်ကြံနိုင် သည်မထုတ်ပါ, အစားအသောက်လောက်ပါ၏လား. *Der.* အလောက်။

လောက်င, *v.* to be sufficient on being distributed, ယခုဝေခြမ်းသည်မှာ၊ လောက်ငကြပါ၏လား, လောက်လောက်ငငပေးလိုက်ပါ။

လောက်ငံ, *v.* same as လောက် (*infreq.*), ဥစ္စာလောက်ငံသည်။

လောက်လား, *v.* with အရွယ်, to come to maturity (အရွယ် *sometimes omitted*); in other senses has the same meaning as လောက် by itself, အရွယ်မလောက်မလားဘဲလျက်၊သူငယ်မကလေးကိုမိဘကထိမ်းမြားသည်, သည်နွားမှာထွန်လောက်၊တိုက်လောက်၊လောက်လောက်လားလားရှိပြီ။

လောက်, 4, *v.* to respect; *not used singly.*

လောက်စား, လောက်လား, လောက်လေး, *adv.* *used only in adverbial forms,* မထိမဲ့မြင်မလောက်လေးမလောက်စားပြုတတ်သည်။

†လောက်မင်း, *n.* a kind of tree.

လောက်လက်, *adv.* playing with feet and hands, as a child lying on its back, လောက်လက်လောက်လက်နှင့်ကစားသည်။

လောက်လီးလောက်လက်, *adv.* up and down, like the motion of a little boat among the waves, လှေငယ်လှိုင်းထဲမှာလောက်လီးလောက်လက်ဖြစ် နေသည်။

လောက (Pali, ရိတ်ခြင်း, ဖြတ်ခြင်း), *n.* a state of mortal existence, of which there are three divisions; *see* ဘဝ, and ဘုံ; this world as distinguished from a permanent future state.

လောကငြီးငွေ့, *v.* to be cloyed with, or tired of, worldly pleasures.

လောကဓံ (from ဓမ္မ), *n.* fortune, a lot incident to mortal creatures, as wealth and poverty, society and solitude, reproach and praise, happiness and misery, လောကဓံတရားရှစ်ပါးနှင့်ကင်းသည့်လူမရှိ။

လောကဓါတ်, *n.* a world; အရှေ့လောကဓါတ်, အနောက်လောကဓါတ်, မြောက် လောကဓါတ်, တောင်လောကဓါတ်, the four great islands; လောကဓါတ် ပြောစမှတ်လောက်သည့်လူ, said in a good or bad sense.

လောကနီတိ, *n.* a book of proverbs pertaining to common life; *see* နီတိ။

လောကဘုရား, *n.* a demigod.

လောကဝတ်, *n.* courteous behavior, kind attentions, politeness, ပဋိသန္ထာရ။

လောကဝတ်ကောင်း, *v.* to be hospitable, attentively polite to a guest.

လောကဝတ်ပြု, *v.* to be courteous, kind, polite, သူတို့ရွာသို့ရောက်လျှင်၊ တယ်လောကဝတ်ပြုပေသည်, မိတ်မပါဘဲစကားလောကဝတ်ပြုသည်။

လောကဝတ်ပြော, *v.* to say something for mere politeness' sake, one kind of မြွက်ပြော, though not so strong an expression.

လောကသမုတိနတ်, *n.* a monarch, king.

လောကန္တရိက် (ငရဲ), *n.* certain hells, as places of punishment, situated in the intermediate spaces between the *sekya* worlds (132).

လောကီ, *a.* worldly, pertaining to the present world; *n.* the world, သင်တို့သည်လောကီနှင့်ဆက်ဆံလျှင်, if ye were of the world.

လောကီကာလ, *n.* time, as contrasted with eternity.

လောကီသား, *n. lit.* a son of the world, a worldling, man of the world.

လောကုတ္တရာ, *n.* a future state, subsequent to all လောက; annihilation (နိဗ္ဗာန်), according to the Buddhist system; eternal life or death, according to the Christian system. "That which is neither (ရူပ) *rupa* nor *arupa* is called *lokottara*, a state in which there is entire freedom from all *kama* (ကာမ)."

လောကူပမာ (for လောကဥပမာ), *n.* a figure pertaining to this world, လောကူပမာအားဖြင့်အပြောအဆိုကောင်းသည့်လူ။

လောင်, 1, *n.* a kind of betel box (*little used*).

လောင်, 2, *n.* to burn (a thing), as fire or anything hot, နေလောင်, မီးလောင်; to scald, ဆီလောင်, ရေနွေးလောင်; မီးတငွေ့ငွေ့လောင်, to smolder, as a fire; လောင်လွယ်သည့်အရာ, inflammable material.

လောင်ကျွမ်း, *v.* to be burnt up, consumed by fire, ကျွမ်းလောင်, တမြို့လုံးမီးလောင်ကျွမ်းလို့ကုန်ပြီ။

လောင်စာ (*pron.* ဇာ), *n.* tinder.

လောင်မီး, *n.* an electric flash when igniting some substance, ထန်းပင်ကြီးလောင်မီးကျလို့ပြတ်ကျသည်; blistering plaster.

လောင်မီးတင်, *v.* to apply a blistering plaster.

†လောင်လင် (ခတ်), *adv.* rattling together; restlessly, uneasily.

လောင်း, 1, *n.* a canoe, long slender boat, ပြင်လောင်း, လှော်လောင်း။

လောင်းကိုယ်, *n.* a boat with a hull like a canoe, and having a washboard on each side made of a single plank.

လောင်းစပ် (*pron.* ဇပ်), *n.* a boat with a washboard consisting of planks fixed one above the other.

လောင်း, 2, *v.* to bring into an incipient, unfinished state, with a view to finishing, အရုပ်ကိုထုမည်လို့သစ်သားလောင်းထားသည်, လှေလုပ်မည်လို့ဦးရောင်ပဲ့ရောင်လောင်းထားသည်. *Der.* အလောင်း။

လောင်း, 3, *v.* to pour into, or upon, ရေပုံးထဲကရေကို ရေအိုးထဲသို့လောင်းထည့်သည်, ကွမ်းခြံကိုရေလောင်းသည်, ပန်းပင်ကိုရေလောင်းသည်; *comp.* သွန်, and သွန်း; to add more to, ထပ်လောင်း, ခွက်. *Rahans* are

forbidden to make use of the word လောင်း, but use ရေသ instead, when directing any one to water plants, သည့်သစ်ပင်ကိုရေသိလိုက်ပါ။

လောင်းစွက်, *v.* to add more to, မူယောင်းစာခွတ်ယွှင်းဖျက်စီးသောကြောင့်၊ စကားသစ်လောင်းစွက်၍ရေးသားပြုပြင်သည့်, သည့်ဆိုးရေမပြည့်သောကြောင့်၊ အသစ်ထပ်မံလောင်းစွက်ဖြန့်သည်။

လောင်းရိပ်, *n.* shade; applied to plants and trees growing in the shade, လောင်းရိပ်ခံလို့သစ်ပင်မကြီးမပွါးနိုင်ပါ, လင်းရိပ်, လောင်းရိပ်မို့, မိုက်ဖျိုးသော အသီးအပင်မှားကိုလောင်းရိပ်ဖုံးလွှမ်းဖျက်ပြားမည့်မိုးရိပ်၍၊ ငှင်းကျွန်းပင်နှစ်ပင် ကိုခုတ်လှဲမိပါသည်။

လောင်းရိပ်ခံသီး, *n.* fruit ripened in the shade, လောင်းရိပ်ခံသီးမှည့်သည်; *comp.* နေပူခံသီး။

လောင်း, 4, *v.* to stake in a wager, or in gambling, to bet, ကိုင်းခြင် ဘျားနှင့်ကျွန်တော်ငွေငါးဆယ်မိလောင်းကြစို့။

လောင်းကြေး, *n.* money staked, လက်ဖွားလောင်းကြေး, လက်ရင်းလောင်းကြေး။

လောင်းစား, *v.* same as လောင်း။

လောင်းတမ်းကစား, လောင်းတမ်းပြု, *v.* to gamble, ကျွဲလောင်းတမ်းတိုက်ကစား, လောင်းတမ်းပြေးကစား။

လောဗန်, *n.* frankincense.

လောဘ (Pali), *n.* selfish desire, cupidity; "*lobha*, covetousness, that which cleaves to sensible objects." M.B.

လောဘကြီး, *v.* to be avaricious, တယ်လောဘကြီးသည့်လူ၊ယူလို့အားမရနိုင် ဘူး; *when abbrev. to* လောကြီး, appears to signify "to be hasty."

လောဘဇော, *n.* the force or power of selfish desire.

လောဘဇောတိုက်, *v.* to be impelled by such desire.

လောဘတဏှာ, *n.* same as လောဘ; cupidity.

လောဘမှု, *n.* same as လောဘ, လောဘမှုစိတ်ရှစ်ခု။

လောဘက်, *not used singly.*

လောဘက်တင်, လောဘက်ထိုး, *v.* to wear the end of a garment over one shoulder, and under the opposite arm, as a Buddhist priest, ဝုဆိုး (or သင်္ကန်း) လောဘက်ထိုး; *see* လက်ကတော့။

လောဝါး, *n.* a pole with a hoop for suspending a bird trap.

လောဟကုမ္ဘီ, *n.* a class of inferior hells; လောဟကုမ္ဘီငရဲအိုး (ဒု, သ, န, သော, the four exclamations used by the wicked, when rising to the top of the လောဟကုမ္ဘီငရဲအိုး).

လောဟာ (Pali), *n.* metal, of which there are five kinds, *viz.* gold, silver, copper, iron and lead (ပဉ္စလောဟာ).

လော့, *verb. affix, imperative;* used in books and in a formal style of address; *see Gram. sec.* 111.

လော်ဇာ (*commonly pron.* လျှော်ဇာ), *n.* an intoxicating preparation of rice, လော်ဇာမှုး; အိန်း, ဘင်း, ကစော်, လော်ဇာ, အရက်။
လော်ဇာဆိုင် (*pron.* ဇိုင်), *n.* a licensed shop where လော်ဇာ liquor is sold.
လော်မာ, *v.* to be light, vain, unsteady, wanton, မတည်ကြည်, လျှပ်ပေါ်။
လော်လည်, *v.* same; to be unsteady in business, flying from one thing to another; frequently applied to unchaste women, လော်လည်ခြင်း ငါးပါးနှင့်ပြည့်စုံသောမိန်းမကို စွန့်ပစ်ထိုက်သည်။
လို, 1, *v.* to desire, wish for, ဥစ္စာလိုလျှင်ခဲခက်ရမည်၊ မင်းဖြစ်လိုလျှင် ရက်စက်ရမည်, အရှင်အကျိုးကိုတယ်လိုသည့်ကျေးကျွန်ဘဲ; to be lacking in respect of, or to the amount of, ခင်ဗျားငွေဘယ်လောက်လိုသလဲ။ ငွေသုံးဆယ်လိုသည်; to be destitute of; to be wanting, to lack; သုံးနာရီထိုးဖို့ဘယ်လောက်လိုသလဲ; လို also signifies "wonted," in the sense of being accustomed, habituated, ဟိုကိုသူမသွားလိုပါ။ တရံတခါသာသွားသည်. *Der.* အလို, မလိုတမ။
လိုအင် (ဆန္ဒ), *n.* wish, inclination, longing.
လိုချင်, *v.* to desire, wish for.
လိုဖတ်, *n.* any object of desire, လိုဖတ်ရှိရာစကားကိုမေးမည်။
လိုရင်း, *n.* a prime want, a matter of first consequence, a primary object or consideration, လိုရင်းအကြောင်းအမိပ္ပာယ်, လိုရင်းစကား။
လိုလား, *v.* to be litigious, forward to prosecute, အမှုလိုလား, တရားလိုလား; to wish for, နတ်ပြည်စံမင်းတရားကြီးကုသိုလ်တော် အင်မတန်လိုလားတော်မူသည်; to be favorably or affectionately disposed toward, မေတ္တာလိုလား။
လိုလိုမယ်မယ်, *adv.* applicable to the laying up of little things for future use, လိုလိုမယ်မယ်သိမ်းထားလိုက်ပါ။
လိုလွှန်, *adv.* of one's own accord; just as one lists, wilfully, without control (*rare in colloq.*).
လို, 2, *n.* and *verb. affix*, as, like as, ကဲ့သို့, သဘွယ်, ငါမေးသလိုမေး၊ငါလုပ်သလိုလုပ်။
လိုလို, *verb.* and *n. affix*, a little like as, သူသွားသည့်လိုလို; *see Gram. sec.* 123; လိုလိုဘဲ, just as (it was), စာရေးမပြီးသေးပါ၊အရင်လိုလိုဘဲရှိပါသေးသည်။
လိုက်, 1, *v.* to follow, to pursue; to accompany; to take effect, as medicine or disease, တယ်ဆေးလိုက်သည့်ဆရာ, ရောဂါလိုက်၍မထနိုင်မကြွနိုင်; to resemble, take after, သားအဘဘက်လိုက်သည်; to be in proportion, to correspond, to suit, to become, to harmonize with, အိမ်အနံ့နှင့်အလျားမလိုက်ဘူး, လူချင်းသဘောမလိုက်ကြဘူး, သည်အင်္ကျီကျွန်မနှင့်မလိုက်ပါ; to follow a certain peculiar course of conduct or action.

လိုက်စား, *v.* to comply with; to follow the wishes of another, သူ့အလိုသို့လိုက်, သူသဘောလိုက်စားပေါင်းမှတော်မည်။
လိုက်နာ, *v.* to observe, as a rule or regulation; to comply with.
လိုက်ပါထမ်းရွက်, *v.* to bear company or follow in order to perform service under an official.
လိုက်ပို့, *v.* to accompany, attend, escort, ကျွန်တော်တယောက်တည်းမှီလိုက်ပို့ပါ, အရှင်တပါးတည်းမကြွပါနှင့်၊ ကျွန်တော်မျိုးလိုက်ပို့ပါမည်။
လိုက်ဘမ်း, *v.* to pursue in order to capture or arrest.
လိုက်၍မှီ, *v.* to overtake, come up with.
လိုက်ထိ, *v.* to pursue in order to find; *commonly combined with* ရှာဖွေ, ကျွန်တော်ပစ္စည်းပျောက်ဆုံးလို့လိုက်ထိရှာဖွေရာ၊ငတေအိမ်မှာ တွေ့ရှိပါသည်။
လိုက်လျော, *v.* to comform to, သူ့အလိုကိုလိုက်လျောသည်။
လိုက်သူ, *n. lit.* one who follows; one who makes a passage by some conveyance, မီးရထားနှင့်လိုက်သူများသည်, မီးသင်္ဘောနှင့်လိုက်သူနည်းသည်။
လိုက်, 2, *verb. affix, euphonic; mostly used with transitive verbs; sometimes giving a transitive meaning to an intransitive verb; see Gram. sec.* 118; in colloquial this affix is much used with ထာ, a corruption of သည့်မှာ, *e.g.*, လှလိုက်သည့်မှာ becomes လှလိုက်ထာ, having the meaning of the English adverb "so," လှလိုက်ထာ, so pretty, ခက်လိုက်ထာ, so difficult, ဖြူလိုက်ထာဖွေးလို့, so white as to be dazzling; in such expressions as the following, လိုက် appears to be a euphonic expletive, တွေ့လိုက်သည်, မြင်လိုက်သည်, နေအလွန်ပူလိုက်သည်။
လိုက်, 3, *v.* to give to boot, as in exchanging articles of unequal value, ခင်ဗျားမြင်းကျွန်တော်မြင်းနှင့်လဲလျှင်၊တယ်လောက်လိုက်မည်လဲ။
လိုက်ကာ, *n.* a movable screen.
လိုင်ဆ, *n.* a species of trumpet flower; *comp.* သိသစ်, and သူကဲနီ။
လို့, 1, *see* လို, *n.* and *verb. affix*, as, like as.
လို့, 2, *verb. affix, equivalent to* ၍ (*colloq.*); *see Gram. sec.* 109; ပြောလို့နားမထောင်, သည်မြင်းစီးလို့မနိုင်ပါ, လွယ်ကူစွာရှာလို့ရသည်; also equivalent in colloquial to သောကြောင့်, မရှိလို့မပေးနိုင်ပါ, ခင်ဗျားမိုက်လို့အရာကျသည်, ကျွန်မထင်မိတ်ဆိုးနေလို့အနားကိုမချည်းဝံ့ပါ။
လိုး, *v.* to pierce, penetrate *in actu coitus* (*vulgar*).
လျ, *v.* to be thin, flimsy; to be slender, delicately formed, အသားခွန်ဗလနည်းသည့်အတွက်၊လျလျကလေးရှိသည်, မိန်းမလျလျကလေး အလွန်သေးသွယ်သည်; ထမင်းဆာလို့ဝမ်းလျလျကလေးရှိတော့သည်။
လျပါး, *v.* to be slender, delicately formed.
လျက်, 1 (*pron.* ထက်), *v.* to lick (with the tongue), လျှာနှင့်လျက်, ခွေးအစာစားပြီးမှနှုတ်ခမ်းလျက်သည်။

လျက်ဆား, *n.* a preparation of salt used medicinally; an electuary.

လျက်, 2, *verb. affix, continuative, denoting the continuance of an action or state of being during another,* as သွားလျက်စားသည်, he eats as he goes; *see Gram. sec.* 109; စည် (*pron.* စည့်) not infrequently precedes လျက်, အသက်ရှိစည်လျက်, သည်သူနာစည်လျက်။

လျက်နှင့်, *verb. affix, continuative, denoting the continuance of an action or state of being during another, but somewhat inconsistent with it,* as သွားလျက်နှင့်စားသည်; *see Gram. sec.* 109; ကြိုးစားအား ထုတ်ပါလျက်နှင့်လိုရာကိစ္စအပြီးသို့မရောက်သောကြောင့်၊အားထုတ်ရာမရောက် ဖြစ်ခဲ့သည်; သား is frequently introduced between လျက် and နှင့်, as ငါပြောလျက်သားနှင့်နားမထောင်အထွဲဖြစ်သည်။

လျင် (*usually pron.* လျှင်), *v.* to be quick, swift, အသွားအလာအလှုန်လျင် သည့်လူ, ဆော, မြန်, သော့။

လျင်တန်, *v.* same as လျင်။

လျင်ထန်, *v.* to be violently swift, ထိုသူဖါနောက်သို့လျင်ထန်လိုက်သွားသည်ကို မြင်လိုက်ရပါသည်။ •

လျင်မြန်, *v.* same as လျင်; also applied to the mind.

လျင်မြန်ပေါ့ပါး, *v.* to be quick and active in motion; applied to human beings, bullocks, horses, etc., အလှုန်လျင်မြန်ပေါ့ပါးသည့်လူ။

လျင်လျား, *v.* same as လျင်။

လျစ်လျူ, *v.* to be in a neutral state of mind, undisturbed by passion, ဥပေက္ခာပြု, သည်အမှုတွင်တယ်တက်မှာမလိုက်ချင်ပါ၊သူလျစ်လျူနေပါသည်။

လျစ်လျူရှု, *v.* to wink at, to regard with indifference; မချစ်မမုန်း; to regard with equanimity, တာမှုမပြောမဆို၊လျစ်လျူရှုနှင့်နေနိုင်ပါပေသည်။

လျှည်, 1, *v.* to be smooth, pleasant, agreeable to the sight; *not used singly. Der.* အလျှည်, ဓိလျှည်။

လျှည်ညွှာလျှော်, *n.* a kind of tree, the tortuous *Hibiscus*, သင်ပန်း။

လျှည်, 2 (*pron.* လျှည့်), *v.* to circumcise, cut round with a knife (*rare*).

လျှည်းပါး (*pron.* လျှည့်း), *v.* to be connected with, familiar (*infreq.*).

လျပ်လျပ် (*usually pron.* လျှပ်လျှပ်), *adv.* wavingly, as a flag, ထေတိုက် တိုင်းအလံတလျပ်လျပ်နှင့်နေသည်။

လျာ (*usually pron.* ရာ), *v.* to appropriate, to set apart for some purpose, ရန်, ငွေကိုကျောင်းဆောက်ဘို့လျာထားသည်; to estimate in the mind, ချင့်တွက်; to have in view, to intend, similar to မှန်း, ခင်ဘျားထ မင်းကျွေးမည်ထို လျာထားသည်မှာ မလာလို့သူများ ကျွေးလိုက်ရသည်; hence အလျာ, and အလျာ; *see* ရာ။

လျား, 1, *v.* to be thin; *not used assertively. Der.* ပါးလျား။

လျား, 2, *v.* to be oblong; to be extended in time, ရှည်, ကာလလျား, သည်

ဘုရားကိုမည်သူတည်သည်ကိုကာလလျှားသောကြောင့်မသိနိုင်. *Der.* အလျှား။
လျော, *v. not used singly*, လိုက်လျော။
လျောပြွမ်း, *v.* to be on terms of intimacy; to be mixed together, commingled, လူချင်းလျောပြွမ်းနေကြလို့၊တယ်လူတို့စိတ်သားမှန်းမသိဘူး, ပရိသတ်လျောပြွမ်းနေကြလို့၊အဘော်ကိုရှာမတွေ့နိုင်ပါ။
လျောက်, 1 (*pron.* ယောက်), *n.* a plate, the piece of timber which supports the ends of the rafters, a wall plate; *comp.* ထုပ်, a tie beam; ထုပ်, လျောက်, ဒိုင်း, မြား။
လျောက်, 2, *v.* to accord with, be agreeable to; *not used singly*. *Der.* အလျောက်။
လျောက်ပတ်, *v.* to be meet, suitable, fit, proper, comely, အပြောအဆိုလျောက်ပတ်သည်, စာပေ အစီ အကုံး တယ်လျောက်ပတ်သည်, အနေ အထိုင်လျောက်ပတ်သည်, မိန်းမအဆင်းရူပကာယလျောက်ပတ်သည်။
လျောက်လျား, *adv.* of one's own accord, ဘာသာ, မင်းကိုငါမပြောဆိုလိုပါ၊လျောက်လျားဘဲနေချင်ရာနေတော့, I do not wish to speak to you; live how and where you please; ခင်ဗျားလျောက်လျားဘဲ, that is your own affair, sir.
လျောင်း, *v.* to recline, be recumbent, လဲလျောင်း။
လျောင်းစက်, *v.* same; appropriate to a Buddh or royalty, တဇနိဦးခေါင်းမြို့မြတ်တိုင်းမြို့ပြီးမှ၊ လက်ျာနံ့ထောင်မှ၊ လက်ဝဲနံ့ထောင်သို့ပြောင်းလဲ၍ လျောင်းစက်ဖြန်လေ၏။
လျောင်းတော်ဦး, *n.* the porch of a palace, and of some other government buildings.
လျောင်းတော်မူ, လျောင်းတော်မူယာန်, *n.* a recumbent figure of a Buddh, လျောင်းတော်မူယာန်တဆူကိုပူဇော်ခဲ့ပါ။
လျော့, *v.* to be loose, lax; to be slack, as a rope, မတင်း, ကြိုးလျော့; လျော့ရိလျော့ရဲ. *adv.* loosely, as a garment, ထမိလျော့ရိလျော့ရဲဝတ်သည်; to be wanting, ခင်ဗျားရွှေတကျပ်မပြည့်ပါ၊တမူးလျော့သည်, ခင်ဗျားဆန်တတင်းမပြည့်ပါ၊တပြည်လျော့သည်; to subside, to fall, as the water of a river, မိုးဃ်းကုန်ခါနီးလို့၊ထမြည်းမြည်းရေလျော့သွားသည်; to abate, အဖျားလျော့သည်; to grow less, be diminished, ယုတ်; to subside, as an inflammatory swelling. *Der.* မေ့လျော့, ရွှေလျော့, and လျှော့။
လျော့ကျ, *v.* to sink, go down gradually.
လျော့ပါး, *v.* to grow less, အသက်အရွယ်ကြီးသောကြောင့်အားခွန်ဗလလျော့ပါးသည်; to be diminished, become few, သည်မြို့ရွှေကလောက်မစည်ကားဘူး၊တရွှေရွှေလျော့ပါးကုန်ပြီ; ဆုတ်ယုတ်။
လျော့ပေါ့, *v.* to abate.
လျော့လျှည်း (*pron.* လျှည်း), လျော့လျား, *v.* same as လျော့ပါး။

လျော်, 1, v, to suit, agree with, be proper, suitable, သင့်, တော်လျော်, ခင်ဘျားလူကြီးဖြစ်သည်နှင့်အညီလျော်အောင်ပြုပါတော့။
လျော်ကံ (*pron.* ဂံ), v. same, စကားပြောတယ်လျော်ကံသည့်လူ, ပြောသည်အတိုင်းလျော်ကံဖြို့, လျော်ကံသင့်မြတ်ဖြို့; လျော်ကံ is comparatively little used in ordinary colloquial, though of common occurrence in dramas.
လျော်ညီ, v. same, ယခုစည်းဝေးရာ၌သဘောတူသည်အတိုင်းလျော်ညီဖြို့။
လျော်, 2, v. to forfeit, ရွတ်လွန်မှုကြောင့်ငွေတရာလျော်ရသည်။
လျော်ငွေ, လျော်ဒဏ်, လျော်ပြစ်, n. a forfeit, fine, damages, အလျော်, လျော်ဒဏ်တပ်, လျော်ပြစ်ငွေ။
လျော်, 3, v. to be sere and yellow, as a leaf, သစ်ရွက်လျော်သည်။
လွက်လွတ်, *adv.* volubly; *see under* သွတ်။
လွင်, 1, n. an unoccupied space beyond houses.
လွင်ကွက်, n. a glade.
လွင်တီးခေါင်, n. an extensive plain, a savanna.
လွင်တီးပြင်, လွင်ထီးထီး, n. same as လွင်ပြင်။
လွင်ပြင် (*pron.* ဗြင်), n. a level spot of ground, a plain free from trees, a campaign, ကွင်း။
လွင်ပြင်ထီးထီး, n. same as လွင်ပြင်။
လွင်ပြင်ဒလဟာ, n. a prairie.
လွင်လဟာ, n. an extensive waste.
လွင်, 2, v. to be glossy, shining, အရောင်လွင်, အရောင်လွင်သည့်ပဝါ, အရောင်လွင်သည့်ပုဆိုး; လွင်အောင်ပြု, to make glossy.
လွင်မှုန့်, n. a powder made from rice and applied to the face, လွင်မှုန့်လိမ်းသည်, ကသယ်မှုန့်, ဆန်ပုပ်မှုန့်, မျက်နှာချယ်။
လွင့်, v. to be blown away, လေဘွေတိုက်လို့ပဝါလွင့်သွားသည်; to be driven out of its course by the violence of the wind, as a ship or boat, ပင်လယ်ထဲမှာလေမိလို့လွင့်သွားသည်; to be scattered and lost, dissipated, မိုးဃ်းသားလွင့်သည်, ပြာလွင့်သည်, ဖွဲလွင့်သည်; to be faded, ပုဆိုးနေပူခံလို့အရောင်လွင့်ကုန်ပြီ. *Der.* လွှင့်။
လွင့်အောင်, *adv.* very, *an intensive,* to words of height, လွင့်အောင်မြင့်သည့်ပြာသာဒ်, or motion, လွင့်အောင်ပြေးသည့်မြင်း။
လွင့်စည် (*pron.* စညီ), v. to fly off scatteringly, as sparks or fine particles; to start and run with velocity, to dart, လွင့်စည်ပြေး။
လွင့်ပါး, v. same as လွင့်; ကျွန်တော်ထားသည့်စက္ကူသယ်ကိုဗျောက်ဖွက်လွင့်ပါးသွားသည်မသိ။
လွတ်, v. to be at liberty, free, unrestrained, အဆီးအတားမရှိ, လွတ်သည့်ငါးလည်းကြီးသည်တည့် (*colloq.*); to be exempt, ရောဂါဘယလွတ်ကင်း; to be free from, ငါ့ကျေးဇူးနှင့်လွတ်အောင်မနေနိုင်ဘဲနှင့်၊ ငါ့ကိုပုန်ကန်စကား

ပြောသည်; to be disengaged, released, ကင်းကျွတ်; to be discharged, as a case, or as an accused, တရားခံလွတ်သည်. *Der.* လွှတ်။

လွတ်ငြိမ်း, *v.* to be released, freed, exempted, သည်နှစ်အခွန်တော်ငွေကိုလွတ်ငြိမ်းချမ်းသာပါရစေသောင်၊အမိန့်ကယ်မသနားတော်မူပါ။

လွတ်ငြိမ်းချမ်းသာခွင့်လက်မှတ်စာ, *n.* a revenue exemption ticket.

လွတ်မြောက်, *v.* to escape, လွတ်အောင်ပြေး။

လွတ်လပ်, *v.* to be disengaged, အလုပ်အကိုင်လွတ်လွတ်လပ်လပ်တရက်တည်းမနေရဘူး; to be vacant, လွတ်လပ်သည့်မြေမရှိသောကြောင့်၊အိမ်ဆောက်စရာမရှိ; to be empty, သည်အိုးမှာဘာမျှမရှိ၊ လွတ်လပ်လျက်ဘဲရှိသေးသည်; also applied to women who are *enceinte*, သည်မိန်းမလွတ်လွတ်လပ်လပ်မထုတ်ပါ၊ကိုယ်ဝန်ဆောင်နှင့်။

လွတ်လွတ်ရက်ရက်, *adv.* freely, without regret, ရက်ရက်စက်စက်, ရက်ရက်ရောရော, တွန့်တိုခြင်းမရှိလွတ်လွတ်ရက်ရက်လှူဒါန်းပေးကမ်းတတ်သည်။

လွှန်, 1, *n.* a kind of tree; the kernel of the fruit is considered a luxury, and was formerly presented to the Kings of Burma. In a year in which this tree bears much fruit, the Burmans expect a good rainfall.

လွှန်ပင်, *n.* the *Buchanania latifolia*, a tree common in the open and dry forests, growing to the height of thirty or forty feet, producing a purplish black fruit the size of a small cherry; *comp.* ထင်းလွှန်း။

လွှန်, 2, *n.* a gimlet; *v.* to bore with a gimlet, လွှန်ပူနှင့်လွှန်, လွှန်ပူနှင့်ဖောက်။

လွှန်ပူ (*pron.* ဗူ), *n.* same, လွှန်ပူနှင့်လွှန်သည်, လွှန်ပူနှင့်လွှန်ဖောက်သည်။

လွှန်ပူကြီး, *n.* an auger.

လွှန်, 3, *n.* a rope drawn by contending parties to procure rain, လွှန်ကြိုး။

လွှန်ဆွဲ, *v.* to pull the said rope. "The inhabitants of the Burman empire, in times of drought are wont to assemble in great numbers with drums and a long cable. Dividing themselves into two parties, with a vast shouting and noise they drag the cable contrary, the one party endeavoring to get the better of the other." By doing this they suppose that the *nats* who have control over the rain (ပဇ္ဇုန်နတ်) are propitiated, and will cause rain to fall.

လွှန်ပွဲ, *n.* the festival of drawing the said rope, လွှန်ပွဲခံ။

လွှန်, 4, *v.* to take the precedence, on higher ground or advanced position, လှေငယ်ငြိမ်လျက်နှင့်လှေကြီးရှေ့သို့လွှန်သွားသည်; to excel, သူငယ်ချင်းနှစ်ယောက်စာပြိုင်တူသင်ကြရာ၊ငမြင့်မောင်ထက်လွှန်၍တတ်သည်; to pass over, transgress, ကျူး, ကျော်, ခွာနှစ်ခု အကြားမှာ နှစ်တောင်လွှန်သွား၍ ရောက်သည်; to be or go beyond, to exceed, အခွယ်လွန်မှပညာသင်ခြင်း

ကြောင့်၊တတ်မြောက်ခြင်း၌၊မစွမ်းနိုင်ရှိချေသည်, သာ, ကျူး, ကဲ; လွန်အောင်ကောင်းသည်, လွန်အောင်ဆိုးသည်; to be in excess, to go too far, ခင်ဗျားပြောသည်မှာလွန်သည်, လွန်သွားမည်၊တယ်မလုပ်နှင့်; to go, or reach beyond, as sound, ကျွန်တော်မောင်းသာမည့်မြည်သည်မဟုတ်ပါ၊တောင်နှစ်လုံးကိုလွန်ကြားမြည်ပါသည်; to pass away, be gone, to die, သေလွန်; to have gone by, လွန်သွား, လွန်သည်မှာ၊လွန်ပါစေတော့, လွန်သောအရာလွန်ပါစေတော့, let by-gones be by-gones, လွန်ပြီးသည်ကိုတ၍ရနိုင်တော့မည်မဟုတ်, one will not be able to obtain that which is past by uttering expressions of regret; to lapse, as a period of time, ရက်လွန်, လလွန်, နှစ်လွန်. *Der.* လွန်း, လွှန်။

လွန်ကဲ, *v.* to be or go beyond, to exceed.

လွန်ကျူး, *v.* to go beyond, exceed, surpass, ဗေဒင်အရာ၊ ဗေဒင်ဆရာတိုင်းထက် လွန်ကျူးအောင်တတ်သည်; to transgress, တကြိမ်တခါ လွန်ကျူးပြစ်မှားသည်အချက်ကို၊စိတ်ကွက်တော်မမူပါနှင့်၊သည်းခံတော်မူပါ; to be in excess, more than proper, as wages, အလုပ်နှင့်တန်ရုံမက၊လွန်ကျူး၍အခပေးသည်။

လွန်ခဲ့သော, *a.* last, လွန်ခဲ့သောနှစ်, last year.

လွန်စွာ, လွန်မင်းစွာ, *adv.* exceedingly, ကာမဂုဏ်အရာမှာလွန်စွာလိုက်စားသည်; excellently; excessively, ကိုယ်နှင့်မတန်ရုံ၊လွန်စွာထောင်လွှားတတ်သောမာန်ကိုလည်း စွန့်ပြီလော; လွန်စွာတတ်သည်, လွန်စွာယည်ကျေးသည်။

လွန်ပြီးသော, *a.* bygone.

လွန်ပြေး, *v.* to outrun, ငစံကျော်ရွှေသို့ကျွန်တော်က၊လွန်၍လိုက်ပြေးပါသည်။

လွန်မြောက်, *v.* to die, as a high dignitary of state, ကေရာဇ်မင်းများနှင့်မင်းမှူးမတ်သေနာပတိစစ်သူကြီးတို့လွန်မြောက်ရှိရာ။

လွန်သွား, *v.* to go too far; to have gone beyond.

†လွန်မတံ, *n.* a kind of plant.

လွန့်, *v.* to twist to and fro, to writhe, wriggle, တံခွန်လေတိုက်တိုင်းလွန့်လွန့်နေသည်, မိးသဘော်နှင့် နောက်တွဲ သဘော် တပ်သည့်ကြိုး တလွန့် လွန့်နေသည်; to move as a serpent or worm, မြွေလွန့်သွားသည်; to turn over, roll about in bed, ကျွန်တော်နိုးတိုင်းခင်ဗျားလွန့်သံကိုကြားသည်။

လွန့်တက်, *v.* to dwell vexatiously on a subject in speaking, တိုတိုနှင့်ပြီးအောင်ပြောပါ၊စကားဆန်းရှည်အောင်လွန့်တက်မပြောပါနှင့်။

လွန့်လိမ်, *v.* to wriggle, writhe, တွန့်လိမ်သည်။

လွန်း, 1, *n.* a weaver's shuttle; *a.* marked with waving stripes, as a silk waistcloth, လွန်းပုဆိုး, a *puhso* of zigzag pattern, လွန်းထမိ။

လွန်းကျ, *a.* same, but denoting a richer fabric, လွန်းကျထမိ, လွန်းကျပုဆိုး။

လွန်းဆန် (*pron.* ဆန်), *n.* the spindle of the quill (ရက်ဖောက်), နားစောင့်လွန်းဆန်; the peg that secures the spindle in the shuttle.

လွှန်းတုံး, *n.* the cross timber on which the keel of a boat is laid while building, လှေလွှန်းတုံးတင်, လွှန်းတုံးထိုး။
လွှန်းသိုး, *n.* same as လွှန်းဆန်။
လွှန်း, 2, *v.* to twist a strand, ကြိုးလွှန်း; one kind of လိမ်. *Der.* အလွှန်း။
လွှန်းပေါင်းတင်, *v.* to twist several strands into one rope, to twine, လွှန်းပေါင်းတင်၍ကျစ်သည်, သုံးလွှန်းပေါင်းတင်၍ကျစ်သည့်ကြိုး။
လွှန်း, 3 (from လွန်, to exceed), *verb. affix,* denoting excess, often preceded by လွန်, and followed by အားကြီး, ခင်ဗျားငွေကုန်လွန်လွှန်းအားကြီးသည်, သည်သူလိမ္မာလွန်လွှန်းအားကြီးသည်, this person is too clever; ကြောက်လွန်လွှန်းလို့ဆတ်ဆတ်တုန်နေရှာသည်, မုန်းလွန်လွှန်းလို့ကြည့်တောင်မကြည့်ချင်ဘူး; ဖျင်းလွှန်းလို့ဆုံးမလို့မရနိုင်ပါ။
လွှန်း, 4, *v. an astrological term.*
လွှန်းကြင်, *n.* a kind of bird, လွှန်းကြင်ငှက်, ရွှေလွှန်းကြင်ငှက်။
လွှန်းကြင်လှေ (တော်), *n.* a royal boat shaped like the လွှန်းကြင်။
လွမ်း, *v.* to regret the loss of, think of with sorrow; to yearn; လွမ်းဖျား,လွမ်းနာ,terms used in connection with lovelorn,absent lovers.
လွမ်းကျောင်, *v.* same (*not used alone*).
လွမ်းချင်း, *n.* one kind of song, လွမ်းချင်းဆို။
လွမ်းဆွတ်, *v.* same as လွမ်း; *intensive;* မိန်းကလေးသူ့ရည်းစားကိုလွမ်းဆွတ်သောကြောင့်တမှိုင်မှိုင်တတွေတွေနေသည်။
လွမ်းတ, *v.* to yearn after, and utter expressions of regret for the absence of one beloved, မိဘတို့ထံပြန်ချင်သည့်စိတ်ဇောနှင့်လွမ်းတလျက်ရှိပါသည်။
လွယ်, 1, *v.* to be easy, not difficult, မခက်, ဝတ္ထုဘတ်စာများစာကြီးပေကြီးများထက်လွယ်သည်, မျက်ရည်လွယ်, same as ငိုလွယ်; to be yielding, compliant, easily influenced; said reproachfully of women; လွယ် *is often combined with other verbs,* ငိုလွယ်, ဆိုလွယ်, ပြောလွယ်, နားထောင်လွယ်, ဖြစ်လွယ်။
လွယ်ကူ, *v.* same, လွယ်ကူစွာရှာလို့ရသည်။
လွယ်လင့်တကူ, *adv.* easily, အလွယ်တကူ, အလိုရှိသည့်အခါလွယ်လင့်တကူရစေ တို့အပေါ်တွင်ထားသည်။
လွယ်, 2, *v.* to suspend from the shoulder, အိတ်လွယ်သည်, ဓားလွယ်သည်, မြားတောင့်လွယ်သည်, သေနတ်လွယ်သည်; to carry (in the womb), ဝမ်းတွင်လွယ်၍သွားသောသားဖြစ်သည်။
လွယ်အိတ်, *n.* a wallet or bag suspended from the shoulder; လူလွယ်အိတ်, *a term of contempt, equivalent to* လူနောက်မိတ်ခွေး။
လွယ်ပိုး, *v.* to suspend from the head and carry on the back, as is the custom of Karens and Shans, နောက်လွယ်ပိုးလွယ်ပိုးသည်, သားငယ်ကိုအဝတ်နှင့်ပတ်၍လွယ်ပိုးထားသည်။

လွှလွှ, *adv.* shiningly; applied to words of whiteness, လွှလွှဖြူသောအဆင်းအရောင်ရှိသည့်ပန်း; *not used in colloquial.*

လွှေ, *v.* to be enough (*obs.*).

လွှေလွှေ, *adv.* satisfactorily, ကုန်လောက်သည်နှင့်။

လွှေလွှေရမ်းရမ်း, *adv.* abundantly; *see under* ရမ်းရမ်းလွှေလွှေ။

လွှေလွှေလောက်လောက်, *adv.* abundantly; *see under* လောက်လောက်။

လွှေး, *v.* to feed one's self with the hand greedily; *comp.* လုပ်လွှေး; လွှေးစား, အလူးလူးအလဲလဲလွှေးစားသည်, ပါးလုပ်ပါးပြည့် လွှေးစားသည်, မြန်ဘွယ်ရှက်ဘွယ်လွှေးစားသည်။

လွှဲ, *v.* to be out of the way, to vary from a certain course, လမ်းလွှဲ, မတည့်; to be past the meridian, as the sun or a star, မွန်းလွှဲ, ကြယ်လွှဲ; to err, be wrong, မှား, အထင်လွှဲ, အမိပ္ပါယ်လွှဲ, အယူလွှဲ; to contain errors, as a writing, စာလွှဲ, မှား; hence အလွှဲ, and တလွှဲ, *adv.* out of the way, တလွှဲလမ်းလိုက်သွားလို့နောက်ကျသည်; different from what ought to be, တလွှဲကြီး, တလွှဲချည်းတည်းဘဲစကားပြောသည်. *Der.* ခွန်းလွှဲ, ထွဲ။

လွှဲကမ်း, လွှဲချွတ်, *v.* same, ခင်ဗျားပြောသည့်စကားတယ်လွှဲကမ်းသည်, မူဟောင်းစာလွှဲချွတ်သည်၊အသစ်ပြင်ရေးသည်။

လွှဲတဲတဲ, *adv.* wrongly, erroneously, in a different manner from what ought to be.

လှ, 1, *v.* to be handsome, pretty, beautiful; hence မလှတမ; မလှမပရှိ, *a euphemism occasionally substituted for* ကိုယ်ဝန်ရှိ, မပေါ့မပါးရှိ; မလှ, to be beyond the usual time, late, as အချိန်မလှ, အချိန်မလှ၍ဂုတန်းရွာကြေးထမ်းကြီးအိမ်တွင်အိပ်ပါသည်။

လှပ, *v.* same; *see the* parts; လှလှပပခင်းကျင်းထား, လှလှပပကျွေး, လှလှပပရောက်လာသည်, လှလှပပဝတ်ဆင်သည်။

လှပတင့်တယ် (*pron.* လှဗတင့်ဒယ်), လှပယဉ်ကျေး, *v.* to be handsome and comely, handsome and elegant, အဆင်းအရွယ်လှပတင့်တယ်သည်, လှပယဉ်ကျေးအောင်ဆေးသုတ်လိမ်းနိုင်သောပန်းချီဆရာဖြစ်ပါသည်။

လှ, 2, *verb. affix*, very, excessively, extremely, ကောင်းလှ, ဆိုးလှ, နာလှ, ပွေလှ; *often followed in colloquial by* ချေ *and* ကလား, နာလှချေကလား, များလှချေကလား, မြန်လှချေကလား, ဘဲ့နှယ်လဲ၊ ထရဘဲ သွားသည်၊ ထရဘဲပြန်လာသည်၊မြန်လှချေကလား; *also often followed in colloquial by* ချေ *and* ရဲ့ (၏); ဆိုးလှချေရဲ့, he is very wicked; နာလှချေရဲ့, it is extremely painful. In certain conbinations it is used to express the furthest limit as to number, quantity, extent, as "the utmost," "at the outside," ထရင်ဖြူရန်ကုန်မြို့သို့ လှေနှင့်သွားသည်မှာ၊ ခရီးတွင်လှပါလျှင်၊ ခုနစ်ရက်နှင့်ရောက်မည်, သည်ပွဲမှာလူရှားလှပါလျှင်၊လူတထောင်စန့်လောက်ရှိပါလိမ့်မည်။

လှင်တံ (*pron.* ဒန်), *n.* a rod or staff of authority; *comp.* နှင်တံ။

လှစ် (from လစ်), *v.* to open; *less than* ဖွင့်; အပေါက်ကိုလှစ်သည်, ထမင်းအိုးဖုံးလှစ်စမ်းပါ, တံခါးကိုလှစ်ဖွင့်စမ်းပါ။

လှစ်ပြ, *v.* to lay forth to view, ခင်ဘျားသေတ္တာကိုလှစ်ပြပါ; to expose the person, ပုဆိုးလှစ်ပြ။

လှည့်, 1 (from လည်) (*freq. pron.* လှဲ့), *v.* to go around a thing, အိမ်ကိုလှည့်သွား, မြို့ကိုလှည့်သွား; to turn round (*trans.*), ကွင်းကိုလှည့်, ဓါးတိုင်ကိုလှည့်; to make revolve, စက်ကိုလည်အောင်လှည့်သည်; to turn from a forward direction, to make a circuit, ဝိုက်, လမ်းကိုလှည့်သွားသည်; to go about, ramble, လည်, လှည့်လည်, ပတ်; to court, woo, အပျိုလှည့်, လူပျိုလှည့်. *Der.* အလှည့်။

လှည့်စား (*pron.* ဖျား), *v.* to lie to, deceive, mislead the mind, လှည့်စားတတ်သည့်လူ; *comp.* လိမ်။

လှည့်ပတ်, *v.* to go around, circle; to deceive, လှည့်စား; ဒေသစာရီလှည့်ပတ်တော်မူသည်, မြို့ကိုလှည့်ပတ်၍ကြည့်ရှုသည်။

လှည့်ဖြား, *v.* to beguile, လိမ်လည်လှည့်ဖြား၍စားတတ်သည်, လိမ်လည်လှည့်ဖြားပြောဆိုသည်; လှည့်စားသည်။

လှည့်လည်, *v.* to go from place to place.

လှည့်လည်လုယူ, *v.* to forage, plunder at large.

လှည့်, 2, *aux. affix*, used in giving commands, သည်ကိုလာလှည့်, come here.

လှည့်ကား, *verb. affix*, *continuative*, though, သော်လည်း (*infreq.*).

လှည်း, 1 (*freq. pron.* လှဲ), *n.* a cart, a vehicle with two wheels.

လှည်းအိမ်, *n.* the body of a cart.

လှည်းဦး, *n.* the front of a cart where the driver sits.

လှည်းဦးစွန်, *n.* the joined ends of the thills.

လှည်းဦးစွပ်, *n.* the leathern ring which secures the shaft of a cart to the yoke; *see* စည်းကုံး (*infreq.*).

လှည်းဦးပန်း, *n.* the carved work surmounting the ends of the thills, where they are fastened to the yoke.

လှည်းဦးဂွတ် (*pron.* ဖွတ်), *n.* the strip of raw hide securing the လှည်းသန် and လှည်းထမ်းပိုး; above the လှည်းထမ်းပိုး is the လှည်းကျည်း, a piece of wood acting as a wedge, around which the strip of raw hide is wound.

လှည်းကုန်သည်, *n.* a trader who carries his merchandise in a cart.

လှည်းကြောင်း (*pron.* လှဲကြောင်း), *n.* a cart track; a rut.

လှည်းခင်တိတ်, *n.* a drag, truck, or similar vehicle.

လှည်းငှါး, *v.* to hire a cart; လှည်းခ, cartage.

လှည်းစည်းကုံး, *n.* the leathern ring which secures the shaft of a cart to the yoke, လှည်းဦးစွပ်။

လှည်းစပ်, *n.* an outer segment of a Burmese cart wheel; *comp.* လှည်းမ။
လှည်းစာ, *n.* strips of bark inserted between the axle box of a cart wheel and the axletree, to lessen rotatory friction.
လှည်းစာထိုး, *v.* to insert such strips of bark (water being injected).
လှည်းစီး, *v.* to travel by cart.
လှည်းဆောင်ပန်း, *n.* the driver's box.
လှည်းတိုက်, *v.* to convey in a cart, to cart; လှည်းတိုက်စား, to gain a living by carting.
လှည်းထမ်းပိုး, *n.* a yoke for drawing a cart; လှည်းထမ်းပိုးကျည်, the arms of a draught yoke, by which it is secured to the animal's neck.
လှည်းထုပ်, *n.* the crossbeam of the body of a cart.
လှည်းထောက် (*pron.* လှဲဒေါက်), *n.* a shaft support, often called ကုလားထောက်။
လှည်းထောင်, *v.* to set up in business as a proprietor of carts for hire, or as an ordinary cartman.
လှည်းပုံတောင်း (*pron.* ပဒေါင်း), *n.* the axle box of a cart.
လှည်းဘီး (*pron.* လှဲဘိန်း), *n.* a cart wheel, လှည်းဘီးဝန်း။
လှည်းဘီးကန့်, *n.* a spoke, ဘီးထောက်။
လှည်းဘုံထိုင်ထိုင်, *n.* an ornamental finial (one of which is placed on either side of the driver's seat).
လှည်းမ, *n.* the middle piece of the three hewn planks in a Burmese cart wheel; *comp.* လှည်းစပ်။
လှည်းမှူး, *n.* the person placed in charge of a number of carts traveling in company.
လှည်းယဉ် (*pron.* ယဉ်), *n.* a light, traveling cart for carrying people.
လှည်းရံတိုင်, *n.* one of the small pillars or posts forming the sides of a cart.
လှည်းလမ်း, *n.* a cart road.
လှည်းဝိုင်း, *n.* a circular encampment of carts.
လှည်းသန့်, *n.* the thill or shaft of a cart.
လှည်းသမား, *n.* a cartman.
လှည်း, 2, *see* လှဲ, *v.* to throw down from an erect posture.
လှည်း, 3 (*pron.* လှဲ), *v.* to sweep, တံမြက်လှည်း, တန်မြက်စည်းလှည်း; *also used fig.*, အညစ်အကြေးထားသော ကျွန်ုပ်၏ အလုံးအကန့် လှည်းပစ်လိုက်မှတော်စည်း။
လှည်းနို, *n.* a broom which consists of a long handle inserted in the back of a brush.
လှည်းစာ (ပင်), *n.* a species of *Lagerstræmia.* The wood, which is red, is used for building purposes, and for making boat paddles.

လှန်, *v.* to turn, as the water on ceasing to ebb; to turn back, throw back, beat back; to repeat, do again, တခါတည်းကိစ္စမချောသောကြောင့်၊နောက်ထပ်တကြိမ်လှန်ပြုရသည်; to do in return, ကျွန်ုပ်ကိုရိုက်လျှင်ရိုက်၊ရိုက်စားလှန်ရိုက်မည်, ကျွန်ုပ်ကိုကောင်းစွန်စွာကျေးဇူးပြုစုပေသောကြောင့်၊ သူ့ကိုလည်းဤကဲ့သို့လှန်ပြုသင့်ပေသည်; to turn inside out, as the sleeves of a coat, အင်္ကျီလက်ကိုလှန်သည်; to turn up the legs of trousers, ဘောင်းဘီကိုလှန်, ဘောင်းဘီကိုပင့်; လှန်၍ထား, to put the upper side down or the inside out.

လှန်ပစ်, *v.* to cant, to pitch.

လှန်ပြန် (*pron.* မြန်), *v.* to do in return, do back again; commonly implying disrespectful conduct toward a superior; *comp.* ပြန်လှန်; မိဘတို့ဆိုးမသည့်စကားတကြိမ်တခါမျှလှန်ပြန်၍မပြောဘူးပါ။

လှန်ပြန်အပြစ်တင်, *v.* to recriminate.

လှန်လှော, *v.* same as လှန်; to turn upside down, ထိုသူအိမ်မှာမသင်္ကာသောကြောင့်၊အိမ်တွင်းအိမ်ပြင်အကုန်လှန်လှော၍ရှာပါသည်။

လှန့် (from လန့်), *v.* to frighten, ခင်ဗျားကျွန်ုပ်ကိုမလှန့်ပါနှင့်, ကြက်များအိမ်ပေါ်သို့မတက်ရအောင်ဆီးလှန့်လိုက်ပါ။

လှန်း, *v.* to spread out, lay out in the sun, နေပူမှာလှန်းသည်, ငါးခြောက်လှန်းသည်, မိုးစိုသည့်အဝတ်များကို၊ခြောက်သွေ့အောင်နေပူလှန်းလိုက်ပါ။

လှပ် (from လပ်), *v.* to uncover; to neglect, leave unperformed, ထရင့်စပါးပြီးအောင်မရိတ်ခဲ့ဘူး၊နက်ဖြန်ရိတ်ဘို့ရာလှပ်ထားသည်; to leave vacant, ခင်ဗျား ပွဲကြည့်လာမည် ပြောသောကြောင့်၊ နေရာလှပ်ထားသည်; to open, leave open, ပြတင်းပေါက်များကိုအကုန်လှပ်ထားလိုက်ပါ; in this sense လှပ် is considered more elegant than ဖွင့်။

လှမ်း, *v.* to reach out, stretch out (the hand), မီးခြစ်ဘူးကိုကျွန်တော်ဆီ (လက်) လှမ်းလိုက်ပါ, မတ်တတ်သေတ္တာအထက်ဆင့်ပေါ်မှာစာအုပ်လှမ်း၍ယူပေးစမ်းပါ; to step, put forth the foot either forward or backward, သေနတ်ရေးပြသည့်အခါ ရှေ့ကိုလှမ်းနောက်ကိုလှမ်းပြသည်; to look forward (to a distant object), ရှေ့ကိုလှမ်းကြည့်သည်; to aspire to, အထက်သို့လှမ်း၊ ဂုဏ်ရည်တူချင်းမကြီးဘူး, သည်သူ သေးသေးနုပ်နုပ်မကြီးတတ်၊ အထက်သို့သာလှမ်းကြီးသည်; to extend (the voice) toward, to call to, လှမ်း၍ခေါ်; ဟိုသွားသည့်လူကိုလှမ်းခေါ်လိုက်စမ်းပါ; applied to the reach of a missive or weapon, ဟိုအက်ကမ်းကိုခင်ဗျားသေနတ်လှမ်းပါမည်လား, ရွာချင်းတယ်မဝေးကြပါ၊သေနတ်တလှမ်းလောက်သာဝေးပါသည်; သရက်ပင်ပေါ်မှာသရက်သီးကိုလှမ်းမှီသောကြောင့်၊လူအများဆွတ်စားကြသည်။

လှမ်းကမ်း, *v.* to anticipate, to do with reference to something ahead, ပွဲမရောက်မှီ စောစောကလှမ်းကမ်းထို့ ချက်ပြုတ်ကြော်လှော်နှင့်ရသည်, မြင်းပွဲစထိုင်မှီလှမ်းကမ်း၍စီးလားချနှင့်ရသည်; to extend (the voice) toward, to call to, ရှေ့သွားသည့်လူလှမ်းကမ်း၍ခေါ်လျှင်ကြားလောက်ပါသေး၏။

လှမ်းကြွ, *v.* to travel, as a Buddhist priest.
လှမ်းထိုးသွား, *v.* to amble, pace, ဆင်ရဲ့သွား။
လှမ်းပြ, *v.* to hold forth, present to view.
လှယ်, *v.* to empty (the contents of one vessel into another), အိုးထဲက ရေကို စည်ထဲကို လှယ်ထည့်သည်, သေတ္တာထဲထဝုဆိုးကို ဗာထဲသို့ လှယ်ထည့်သည်; one kind of ချေး, to borrow, with the idea that the borrower will, if afterwards required, return the favor to the lender, ကျွန်တော်ကို ငွေနှစ်ဆယ်လောက် လှယ်နှင့်ပါ၊ မကြာခင်ပြန်ပေးပါမည်, အချင်းချင်းလက်လှယ်၍သုံးစားကြသည်; ငွေလှယ်စားချေး, to lend money without interest.
လှယ်ဖယ်, *v.* same; to exchange, ထပ်, ထဲလှယ်, လှယ်ဖယ်သုံး, ကျွန်တော်မှာရွှေဒင်္ဂါးသာရှိသောကြောင့်၊ငွေနှင့်လှယ်ဖယ်သုံးရသည်, ခင်ဗျားအင်္ကျီ ကျွန်တော်အင်္ကျီနှင့်လှယ်ဖယ်ဝတ်ကြစို့။
လှံ, *n.* a spear.
လှံကန်, *n.* a stick used for driving animals, a horsewhip, နှင်တံ။
လှံကိုင်, *n.* a lancer, လှံကိုင်သူရဲ။
လှံစွပ် (*pron.* ဇွပ်), *n.* a bayonet.
လှံစွပ်သေနတ်, *n.* a musket with a bayonet attached.
လှံတံ, *n.* a rod or staff of authority, လှင်တံ။
လှံထိုး, *v.* to thrust at with a spear, လှံနှင့်ထိုး, လှံထိုးစစ်သည်, လှံထိုးသမား။
လှံမ, *n.* a large spear.
လှံသည် (*pron.* ယည်), *n.* a dart, လှန်တို။
လှံရိုး, *n.* the handle of a spear.
လှာ, *see under* လာ; *sometimes euphonic*, ရောက်လှာသည်,ထယ်သောအခါရောက်လှာသလဲ, ကျွန်တော်သားခင်ဗျားအိမ်မရောက်လှာဘူးလား။
လှိမ့် (from လိမ့်), *v.* to roll over and over (*trans.*), ဗလီထုံးလှိမ့်ကစားသည်, တောင်ပေါ်ကကျောက်လုံးကိုလှိမ့်ချသည်။
လှိမ့်လှန်, *v.* to roll away.
လှီ, *v.* to be diminutive, smaller than common, ကျစ်, ညှက်, သည်အရပ်မှာမြေကျပ်သောကြောင့်၊သစ်ပင်များတယ်လှီသည်, သည်မိန်းမအတန်လှီသည်။
လှီကင်, *v.* same, မိုးခေါင်လို့ သစ်သီးဝလီလှီကင်သည်, ခင်ဗျားသားသွေးများအလွန်ထွားကျိုင်းသည်၊ကျွန်တော်သားသွေးလှီကင်ကြသည်။
လှီချောင်း, *v.* same (*infreq.*).
လှီး, *v.* to cut with a sliding motion, to cut a slice, as distinguished from ခုတ်, to chop, ထားနှင့်လှီးသည်; ထားလှီးဆေး, cut tobacco.
လှီးချွတ်, *v.* same as လှီး။
လှီးဖြတ်, *v.* to carve, as meat at table.
လှုပ်, *v.* to stir, move (*intrans.*), to have animal action; to work, as a machine; to shake (*trans.* and *intrans.*), စာရေးခုံ လှုပ်သောကြောင့်၊

လက်ရေးမကောင်းလှပါ, ကျွန်တော်ပခုံးလှုပ်နိုးသည်; hence တလှုပ်လှုပ်, *adv.* busily, with the hands and fingers in constant motion, ခြေလှုပ်လှုပ် လက်လှုပ်လှုပ်နှင့်ရှုခြွေမဲ့သည်။

**လှုပ်ကုလားထိုင်**, *n.* a rocking chair.

**လှုပ်ပုခက်**, *n.* a cradle.

**လှုပ်ရှက်**, *v.* to move gently (*intrans.*), လှုပ်ရှက်ခတ်။

**လှုပ်ရှား** (from ရှား, to move), *v.* same as လှုပ် (*intrans.*), frequently with the additional idea of change of place; to be agitated, မငြိမ် မသက်ဖြစ်သည်, စပါးဆန်ရေရှားပါးသောကြောင့်တိုင်းပြည်လှုပ်ရှားသည်; to agitate, annoy, trouble, molest.

**လှုပ်လီးလှုပ်လက်**, *adv.* same as တလှုပ်လှုပ်; *see under* လှုပ်။

**လှုပ်လှက်**, *v.* to move gently, လှုပ်ရှက်။

**လှုမ်**, *n.* a species of mint plant, ပင်မိမ်း။

**လှို**, *v.* to warm one's self by a fire, မီးလှို; to warm one's self in the sun, နေစာလှို; to derive heat from, as a chicken from its mother, ကြက်ကလေးများအမိရင်ခွေကိုလှို၍ကြီးရသည်; to adhere to, take refuge in, ခိုလှို, ကိုယ်တော်အရှင်ဘုန်းရိပ်ကိုခိုလှို၍ရောက်ပါသည်။

**လှို့**, *v.* to heat again, warm over; implying that the object was once hot; *comp.* နွေး; to remind, re-excite.

**လှူ**, *v.* to give for a religious purpose, or to a religious character, to make an offering, ဘုရားကိုလှူ, သင်္ဃာတော်ကိုလှူ, ကျောင်းကိုလှူ, စရပ်ကိုလှူ သည်. *Der.* အလှူ။

**လှူဒါန်း**, *v.* same, လှူဒါန်းပေးကမ်းခြင်းနှင့်အလှူနဝါသနာပါသည့်လူ။

**လှေ**, *n.* a boat; ခတ်လှေ, a rowboat; လှော်လှေ, a paddle boat.

**လှေကြို**, *n.* a boat one happens to meet (going where one wishes to go), a chance boat, သင်္ဘောမရှိသောကြောင့်လှေကြိုစီးလိုက်ခဲ့ရသည်။

**လှေဆိပ်**, *n.* a landing place for boats.

**လှေတက်**, *n.* a collective term for boats, oars, tackle, etc., လှေတက်မရှိ လို့သွားဆိုခက်ပါသည်။

**လှေထိုး**, *v.* to propel a boat with a pole; လှေထိုးဝါး, လှေထိုးသမား, လှေ ထိုးသား, လှေထိုးတက်ခတ်။

**လှေနှိုက်**, *n.* a boat thief, so called from this class of thieves thrusting their hands into boats and snatching property; *v.* to purloin property in such a manner; *comp.* တံချူ, တံချူနှင့်လှမ်းယူသည်။

**လှေပြိုင်**, *v.* to race, as boats.

**လှေပွဲ**, *n.* a regatta; လှေပွဲခံ, to hold a regatta.

**လှေမကျ** (*pron.* လှေ၊မ၊ကျ), *v.* to sink (as a loaded boat) so that the water is level with the washboad.

လှေလောင်း, *v.* to race, as two boats for a wager.
လှေသား, *n.* a boatman, one of a boat's crew.
လှေသူကြီး, *n.* a boat owner; also called လှေဦး, which is not so polite.
†လှေကား, 1 (*pron.* ဂါး), *n.* a set of steps, stairs; a ladder; ကြောင်လိမ် လှေကား, a winding or spiral staircase.
လှေကားဦး, *n.* the head of a flight of stairs.
လှေကားဦးတိုက်, *n.* stairs descending directly in front and at the end of the house (of a man of distinction), which may be used only by privileged persons; *comp.* လှေကားလွှဲ။
လှေကားရုံ, *n.* that which supports the foot of a flight of stairs.
လှေကားထစ်, *n.* one step in a flight of stairs; a round, a rundle, a rung.
လှေကားထောင်, *v.* to place a ladder in position.
လှေကားပေါင်, *n.* the side of a flight of stairs.
လှေကားရင်း, *n.* the foot of a flight of stairs.
လှေကားရှင်, *n.* a ladder.
လှေကားလွှဲ, *n.* stairs that do not descend directly in front, but are turned to descend by the side of the house.
လှေကားသေ, *n.* a flight of stairs.
လှေကား, 2, *n.* the *Bauhinia*, မဟာလှေကား, မျောက်လှေကား။
လှေ့ (from လေ့), *v.* to winnow, စပါးလှေ့။
လှေး, *v.* to be very small, diminutive, မွှား. *Der.* အလှေး။
လှဲ (from လဲ), *v.* to throw down from an erect posture, တိုင်လှဲ, ရွက်တိုင် လှဲ, သစ်ပင်လှဲ; အလံလှဲ, to strike, as the colors when an army is defeated; to overset, turn or throw from a basis or foundation; to throw, as a wrestler, မြေကြီးကိုကျောကျအောင်နပန်းကိုင်၍လှဲသည်; တုံးလုံး လှဲအိပ်, to lie at full length. drop /... le'kon thin-byu[illegible]-shon. hle: lei'
လှဲချ, *v.* to throw down, cast down.
လှောက်, *v.* to put a small quantity into a larger, ရွက်သည်, ရေအိုးမှာ ရေနည်းသေးသည်၊ပြည့်အောင်လှောက်လိုက်ပါ, ဟင်းရည်နည်းလို့ရေလှောက် စားသည် (*rarely used*).
လှောက်ပံ့, *v.* to aid, ထောက်ပံ့။
လှောင်, 1, *v.* to put into and shut up, as goods in a chest, သေတ္တာထဲ မှာအထည်အလိပ်များကိုလှောင်ထားသည်; or in a building, စပါးလှောင်, ဆီလှောင်; or animals in an enclosure, နွားဝက်များကိုခြံနှင့်လှောင်ထား သည်, ငှက်အိမ်နှင့်လှောင်ထားသည်; or men in prison, အချုပ်ထောင်မှာ လှောင်ထားသည်; to be close, stuffy, as a room, အိုက်လိုက်သည်မှာလှောင် နေသည်, သည်အခန်းကလေးလှောင်၍နေသည်၊လေမဝင်နိုင်။

လှောင်, 2, *v.* to be rude, saucy, impertinent, to banter, ဆော့, ထယ်လှောင်တတ်ပြောင်တတ်သည့်လူ, လူထဲမှာမလှောင်ပါနှင့်။

လှောင်း, 1, *v.* to line, place along inside, as loose paper inside a chest, သေတ္တာကိုစက္ကူလှောင်း၍ ဆေးလိပ်ထည့်သည်, စည့်ကိုဖက်လှောင်းပြီးကာလဝါးမိကိုထည့်သွင်းသည်, တောင်းကိုဖက်လှောင်း၍ဆားကိုထည့်သွင်းသည်။

လှောင်း, 2, *v.* to be diffusive, as scent, whether pleasant or unpleasant, or as a swarm of flies, mosquitoes, etc.; *used adverbially* (*rare in colloq.*).

လှော်, *v.* to stir backward and forward, as in parching peas, ပဲလှော်, စပါးလှော်; to paddle a canoe, လှေလှော်; လက်လှော်ကလေး, a small canoe.

လှော်ကား, *n.* a boat of state with a high, ornamented stern.

လှော်တက် (*pron.* ခက်), *n.* a boat paddle.

လှော်လောင်း, *n.* a racing canoe, လှော်လှေ။

လှော်သစ်, *v.* to be fresh or newly polished, as gold by hot sand, လှော်သစ်ဦးသစ်သောရွှေ; *comp.* ဦးသစ်။

လှိုက်, *v.* to be thrown up or out, leaving a concavity in the centre; to swell up, lie loose, as grain in a measure, not shaken down; to throw up or out, as in scooping an excavation, လှိုက်တူး; *comp.* ခလိုင်; to feel uneasy, distressed, in body or mind, ဝမ်းနည်းလို့အသည်းထဲကလှိုက်လာသည်။

လှိုက်ဆု, လှိုက်လှည်း, *v.* to feel uneasy, distressed in body or mind, ဆုလှိုက်, ကျွန်တော်သားကလေးသေဆုံးသည်မှာမျက်ရည်မဆည်နိုင်အောင်၊ လှိုက်ဆုပူပန်ခြင်းခံရသည်, ဝမ်းနည်းလွန်းလို့၊ လှိုက်လှိုက်ဆုဆုဖြစ်နေသည်။

လှိုင်, 1, *v.* to excavate; *n.* a niche in a pagoda, or in the side of a brick or stone wall.

လှိုင်ခေါင်း, လှိုင်မုတ်ကူး, *n.* same; ဥမင်လှိုင်ခေါင်းတူး, to make a tunnel.

လှိုင်သံ, *n.* an echo from an arched roof, လှိုင်သံနှင့်စကားပြောသည်။

လှိုင်, 2, *v.* to be numerous, abundant, ပေါများ; applied to fruit trees, ကနစိုးသီးလှိုင်, ဒူးရည်းသီးလှိုင်, ထန်းလှိုင်သည်; frequently applied to the diffusion of pleasant odors, ငှဲ; also applied to fish, သိတင်းကျွတ်လကျမကြီးဆွဲလှိုင်ပါးလှိုင်သည်။

လှိုင်း, 1, *n.* a wave or billow, လှိုင်းတံပိုး; လှိုင်းကြီးရာပါရပါသည်, as in the way of being compelled to do anything, *nolens volens.*

လှိုင်းအိ, *n.* the swell of the sea, လှိုင်းအိမ္မိကြောက်စရာမရှိ။

လှိုင်းအိကွေး, *n.* a scallop, curve in an edge.

လှိုင်းအိထ, *v.* to swell, as the sea, ရေနက်လို့လှိုင်းအိကြီးထ; to fluctuate.

လှိုင်းကြက်ခွပ်, *n.* a cross sea.

လှိုင်းကြက်ခွပ်ထ, *v.* to meet, as cross seas; to be ruffled, as the surface of water.

လှိုင်းကြီး, လှိုင်းလေကြီး, *v.* to be rough and tempestuous, as the sea.
လှိုင်းစီး, *v.* to ride the waves, as a boat or ship, in contradistinction to စင်းလုံးခံ, to lie like a log in the water; လှိုင်းကျော်။
လှိုင်းခေါင်းဖြူ, *n.* a white-crested wave.
လှိုင်းချုပ်, *n.* a wave compressed by the shore.
လှိုင်းစိပ်, *n.* a short, choppy sea.
လှိုင်းတံပိုး, *n.* a wave; လှိုင်းတံပိုးကြား, the trough of the sea.
လှိုင်းတောက်, *v.* to be affected with nausea, owing to the pitching or rolling of a boat or ship, to be seasick.
လှိုင်းထ, *v.* to rise, as a wave or billow.
လှိုင်းပုတ်, *v.* to dash, strike against, as a wave.
လှိုင်းဖျက်, *n.* a small, curling wave, a ripple, လှိုင်းဖျက်ကလေးထ။
လှိုင်း (ပြော), *v.* to speak in a bombastic, boastful manner, ပြောသည့်အခါအခင်မတန်လှိုင်းပြောသည်။ပြုသည့်အခါ ဘာမျှမလုပ်ဘူး။
လှိုင်းမိ, *v.* to be caught in a sea, or in rough water on a river, မြစ်ထဲမှာလှိုင်းမိ၍လှေနစ်သွားသည်။
လှိုင်းမူး, *v.* to feel dizzy, to be seasick, လှိုင်းတောက်။
လှိုင်းရိုက်, *v.* to dash against, as waves.
လှိုင်းလေငြိမ်, *v.* to be calm, as the sea, လှိုင်းလေငြိမ်သက်, လှိုင်းလေသင့်သည့်အခါ, when the weather is favorable.
လှိုင်းဝင်, *v.* to take in water (as a boat or ship) from a wave, to ship a sea.
လှိုင်းသံ, *n.* the roar of the waves.
လှိုင်း, 2, *v.* to bind into a bundle or sheaf, စည်းနှောင်; *n.* a sheaf, ကောက်လှိုင်း. *Der.* အလှိုင်းကြီး။
လျှင်, 1, *v.* to be before, beforehand (*obs.*), တင်လျှင်; hence အလျှင်။
လျှင်, 2, *verb. affix continuative; see Gram. sec.* 109; *denoting first, the completion of an action or state of being prior to another,* as သွားလျှင်သေသည်, having gone he died; *second, supposition or conditionality,* as သွားလျှင်သေမည်, if he goes he will die; တောင်းလျှင်ရလိမ့်မည်, if he asks he will receive; *adv. distributive; see Gram. sec.* 126, 8, as တလလျှင်တတင်း, a basket a month; *sometimes definitive or emphatic; euphonic,* as အလွန်လျှင်, သာလျှင်, ပင်လျှင်, etc.
လျှပ်, 1 (*freq. pron.* ရှပ်), *n.* lightning.
လျှပ်စစ်, လျှပ်စစ်နွယ်, *n.* same. /hyaʔ siʔ/
လျှပ်စစ်ဓါး, *n.* electric fluid; လျှပ်စစ်ဓါးသွင်း, to electrify.
လျှပ်ပြက်, လျှပ်စစ်ပြက်, *v.* to lighten.
လျှပ်ပြက်သောအလျှံ, *n.* a flash of lightning.

လျှပ်, 2 (*pron.* ရှပ်), *v.* to be very thin, flimsy; *used adverbially,* တယ်ပါးသည့်လူ၊ လျှပ်လျှပ်ကလေးဘဲ, တယ်ပါးသည့်ဗိတ်၊ လျှပ်လျှပ်ကလေးဘဲ; to be light, quick, rapid, လမ်းမှာဝင်စားမနေလေနှင့်၊ လျှပ်လျှပ်ပါအောင်သွား; to glitter, coruscate, အရောင်လျှပ်; to be light, vain, unsteady, wanton, ရှုရွေမြဲမရှိ; to perform work in a superficial, perfunctory manner, အလုပ်အကိုင်လျှပ်သည့်လူ။

လျှပ်ပလာမ, *n.* a wanton woman; *used appellatively.*

လျှပ်ပေါ်, *v.* to be light, vain, unsteady, wanton, လော်မာ, လော်လည်, သောခွသွမ်း, လျှပ်ပေါ်လော်မာ, လျှပ်ပေါ်လော်လည်တတ်၏။

လျှပ်, 3, *v.* to extort money under a false pretence, အမှုမရှိဘဲနှင့်သက်သက်မဲ့ယူသည့်လူ; လူလျှပ်, one who thus extorts money.

လျှပ်စား, လျှပ်ဖြတ်, *v.* same, မဟုတ်မလျှားအကြောင်းမဲ့လျှပ်စားမနေပါနှင့်, သူများအပေါ်ခွသည်လိုချည်းဘဲလျှပ်ဖြတ်ယူသည့်လူ။

လျှမ်း, *v.* to be brimming full, ပြည့်လျှမ်း, ရေပြည့်လျှမ်းသောမြစ်ကမ်း, ရေပြည့်လျှမ်းသောအိုးကဲ့သို့မတုန်လှုပ်သောရှုရွေမြဲရှိသည်; applied to flame, မီးရောင်လျှမ်းလျှမ်းတက်အရောင်ထွက်သည်, and to verbose, bombastic language, မသိဘဲနှင့်လျှမ်းဖြမ်းမပြောပါနှင့်; applied to inconsecutive, rambling discourse, စကားပြောလျှမ်း; also to superior mental capacity, as လျှမ်းလျှမ်းတက်အောင်ဉာဏ်ကောင်းသည်, to have a brilliant intellect; hence တလျှမ်းလျှမ်း (အရောင်ထွက်), *adv.* brilliantly, glitteringly.

လျှံ (*pron.* ရှံ), *v.* to run over, as water, ရေအိုးထဲကရေလျှံကျသည်; to overflow its bank, as a river, မြစ်ရေကမ်းကိုလျှံတက်သည်; to run over, as brightness, to be brilliant, အရောင်လျှံ။

လျှာ (*freq. written and pron.* ရှာ), *n.* the tongue.

လျှာခင် (*pron.* ရှာခင်), *n.* the uvula; the palate.

လျှာခင်သံ, *n.* a palatal (sound), လျှာခင်သံအက္ခရာ, a palatal letter.

လျှာခိုင်, *v.* to have a stiffness of the tongue, so as not to be able to speak, လျှာခိုင်လို့စကားပြီအောင်မပြောနိုင်; to be tongue-tied.

လျှာစက်, *n.* the faculty of speaking with authority, အာစက်, အာစက်လျှာစက်ကောင်းသောကြောင့်၊ သူများရှိသေသည်။

လျှာထိပ် (*pron.* ဒိပ်), *n.* the tip of the tongue, လျှာဖျား။

လျှာထုတ်, *v.* to put out or show one's tongue, လျှာထုတ်ပြ, မြွေလျှာတလစ်လစ်ထုတ်သည်။

လျှာထူ, *v.* to be thick-tongued, not able to speak clearly and accurately.

လျှာထိုးစပ်, *v.* to match (boards) in carpentry, သေတ္တာကိုလျှာထိုးစပ်။

လျှာထိုးရန်အကြောင်း, *n.* a groove.

လျှာနာ, *n.* soreness of the tongue; လျှာနာခွါနာ, the foot and mouth disease (in cattle).

လျှာနာဆေး, *n.* medicine for a sore tongue.
လျှာပါး, *v.* to be thin-tongued, loquacious, လျှာပါးလို့စကားသွက်သည်။
လျှာပွတ်ဆေး (*pron.* ဖွတ်), *n.* medicine to rub on the tongue.
လျှာဖျား, *n.* the tip of the tongue, လျှာထိပ်, လျှာဖျားသံနှင့်စကားပြော. The Burmese often say when momentarily forgetting anything, လျှာဖျားတွင်မေ့သွားသည်။
လျှာရင်း, *n.* the root of the tongue, လျှာရင်းသံနှင့်စကားပြော။
လျှာလည် (*pron.* လယ်), *v.* to be accurate and fluent in pronunciation, အလွန်လျှာလည်သည့်လူ, စာဘတ်တယ်လျှာလည်သည့်လူ; to have an acquired taste for an article of food or drink, which was at first disagreeable, အစကခါးရည်းသီးကိုမသာတည်၊ ယခုမှာလျှာလည်လို့စားနိုင်ပြီ။
လျှော (*pron.* ရှော), *v.* to slide down, သစ်ပင်ပေါ်ကလျှောကျသည်, ထန်းလျှောလို့သေသည်။
လျှောခနဲ, *adv.* rustlingly, တာမှန်းမသိပါ၊ လျှောခနဲကြားလိုက်ထာဘဲ (*colloq.*), လျှောခနဲမြွေထွက်ပြေးသည်။
လျှောဖဲ, *n.* one kind of satin.
လျှောမွေး, *n.* an abortion (*rude*), လျှောမွေးလောင်း, သူငယ်အလောင်း။
လျှောမွေးဖြစ်, *v.* to be still born.
လျှောလျှော, *adv.* slopingly, မြေကြီးတဘက်လျှောလျှောနိမ့်သည်; rustlingly, မြွေလျှောလျှောလျှောလျှောနှင့်ပြေးသည်။
လျှောက် (*freq. pron.* ရှောက်), *v.* to address a superior.
လျှောက်ချက်, *n.* an address, the substance of an address to a superior.
လျှောက်စာ, လျှောက်လွှာ (*more common*), *n.* a written petition; လျှောက်လွှာတင်, လျှောက်လွှာသွင်း, to present a petition.
လျှောက်တင်, *v.* same as လျှောက်, လျှောက်လွှာတင်, လျှောက်လွှာသွင်း; honorific and applicable to kings; *comp.* သံတော်ဦးတင်။
လျှောက်ထား, *v.* same as လျှောက်။
လျှောက်ထားချက်, *n.* a respectful address.
လျှောက်လဲ, လျှောက်ထားလဲဆို, *v.* to address (a superior) by turns, to plead alternately before a court, ကျွန်တော်မျိုးစကားကျန်သောကြောင့်၊ လျှောက်ထဲလိုပါသေးသည်။
လျှောက်လွှာ, *n.* an application, လျှောက်ချက်။
လျှောက်သူ, *n.* an applicant, အခွင့်တောင်းသူ, လျှောက်ထားသူ။
လျှော့ (*commonly pron.* ရှော့), *v.* to loosen, make lax; to lessen, diminish, abate (*trans.*); ကြိုးကိုလျှော့လိုက်ပါ၊ ဇိဇပြုသောအမှုအပြီးသို့မရောက်မှီလျှော့လို့မတော်ဘူး; to reduce the price, အတိုးကိုလျှော့သည်။
လျှော့ပေး, *v.* to yield, give up the point in dispute; to discount; to slacken, as a rope; to pay out, as a fishing line or a cable; အလွန်

တသည့်လူ၊တစ်ဆိတ်မျှလျှော့မပေးဘူး; ကြိုးလျှော့ပေးသည်, ငါးစာငါးတစ်ခုနှင့်၊ ငါးမျှားကြိုးကိုလျှော့ပေးလိုက်၊

လျှော့၍ဝန်ခံ, *v.* to concede, yield a point, လျှော့၍ခံနေရပေးသည်။

လျှော်, 1, *n.* a kind of tree; the fibrous inner bark of the said tree, and of some other trees and plants, as ဂုံ, ပိုက်ဆန်။

လျှော်ကြိုး, *n.* a rope made of the bark of the လျှော်ပင်။

လျှော်တေ, *n.* the bark of the လျှော်ပင် beaten, dressed, and made into coarse cloth, worn by ascetics (ရသေ့).

လျှော်နီ, *n.* the *Sterculia remosa*; a variety of လျှော် bark.

လျှော်ဖြူ, *n.* the *Sterculia versicolor*; another variety of လျှော် bark.

လျှော်မျှင်, *n.* a strip of bark from the လျှော်ပင်။

လျှော်ဝါ, *n.* the *Sterculia ornata.*

လျှော်, 2, *v.* to wash (clothes or the hair), အဝတ်ကိုလျှော်, ခေါင်းကိုလျှော်; *comp.* ဖွေး, ဖွပ်။

လွှို, 1 (*pron.* ရှို), *n.* a medicine or charm to secure favor, of which there are three kinds, ရာဇလွှို, that which has influence with kings; ဣတ္ထိလွှို (မိယလွှို), that which has influence with women; and သဗ္ဗလွှို, that which is of general efficacy.

လွှို, 2 (*pron.* ရှို), *v.* to thrust through, as a bar through the hole of a post, တိုင်ပေါက်လွှို, ရက်မလွှို, or thread through the eye of a needle, အပ်နဖါးလွှို; to bolt, တံခါးကျင်လွှို; *comp.* ထိုး, and သွင်း; hence တံလွှို။

လွှိုနိုး, *n.* the channel of a small stream in level ground (occasionally dry), လွှိုတန်း; *see* နိုး။

လွှို, *v.* to do secretly under a guise, အကြောင်းကိုလွှို။

လွှိုကဝက်, *v.* to be indirect, covert (in language); to conceal one's self, ဖျက်နှာကိုမမြင်စေခြင်းသူများအကြားကလွှိုကွက်ပြီးထိုင်နေသည်။

လွှိုဝှက်, *v.* same as လွှို; to conceal one's character, to be hypocritical; လွှိုဝှက်သော, *a.* clandestine.

လွှိုး, *v.* to stoop and enter, ငုံ့၍ဝင်, အိမ်အောက်ကိုလွှိုး။

လွှ, *n.* a saw; တိုက်လွှ, a pit saw; အကောက်လွှ, a scroll saw; မိုင်းလွှ, a saw-set in a rectangular frame; ပျောက်ပြီးလွှ, a keyhole saw; ထိုး လွှ, a handsaw; ဖြတ်လွှ, a crosscut saw; စက်လွှ, a circular saw.

လွှခ, *n.* the hire of a saw; wages for sawing.

လွှစက် (*pron.* လှစက်), *n.* a steam sawmill.

လွှစင် (*pron.* လှစင်), *n.* a frame for sawing timber; a saw pit.

လွှစာ (*pron.* လှစာ), *n.* sawdust.

လွှစာတုံး, *n.* a log for sawing; a teak log, longer than the လှသီ, and shorter than the လုံကြီး; it must be at least four cubits in girth,

and not less than eight cubits in length. It is usually twelve, or at most fifteen cubits in length, and is called simply လွှ။

လွှစာရုန့်, *n.* sawdust, လွှစာ။

လွှစား, *v.* to cut, as a saw, လွှကောင်းကောင်းစားသည်။

လွှသွယ်, *n.* a tooth of a saw.

လွှဆိုင်း, *n.* a pair of sawyers.

လွှဆွဲ, လွှတိုက်, *v.* to saw.

လွှတွင်း, *n.* a saw pit, လွှစင်။

လွှထောင် (*pron.* ဒေါင်), *n.* the proprietor of a saw mill.

လွှပတ်, *v.* to saw out of line, to saw crookedly.

လွှဖယ်, *n.* a saw-set.

လွှသမား, *n.* a sawyer.

လွှသွား, *n.* the point of the tooth of a saw.

လွှသွားကြေ, *v.* to have one or more of the points of the teeth broken off.

လွှင့် (from လွင့်), *v.* to blow away, ခေါင်းပေါင်းကိုလေလွှင့်သွားသည်; to dissipate; to throw away, အဝတ်စုတ်များကိုလွှင့်ပစ်လိုက်ပါ; to disseminate, as news, to publish, သိတင်းလွှင့်သည်, ကျွန်တော်မန္တလေးမြို့သို့သွားသည့်အခါ၊ကျွန်တော်ကိုမကောင်းသိတင်းချည်းလွှင့်နေလို့ကြားရသည်, at the time of my going to Mandalay, I hear that you were circulating nothing but evil reports about me; to sail, to go on the sea, သဘော်ာ စီးလျက်သုဝဏ္ဏဘုမ္မိသို့ရွှေရှုလွှင့်လေ၏။

လွှတ် (တော်), 1, *n.* the building occupied by the King's Supreme Court, the Council Hall of the Ministers of State; the Supreme Court of Judicature (at Rangoon); အင်္ဂလိပ်လူကြီးမင်းတို့လွှတ်တော်, the British Parliament (133).

လွှတ်တော်မင်းကြီး, *n.* formerly one of the four *mingyis* of the *Hluttaw*. U. B.; in L. B., a Judge of the Supreme Court of Judicature, or Special Court (in Rangoon), the Judicial Commissioner.

လွှတ်, 2 (from လွတ်), *v.* to free, release, နွားကိုခြံထဲကလွှတ်လိုက်ပါ; to emancipate, ချွတ်, ကျွန်အဖြစ်ကစာရင်းဖျက်၍လွှတ်လိုက်သည်; to send, ခင်ဗျား သားကလေး ကျွန်တော်ဆီကို စောစော လွှတ်လျှင်၊ ငွေစကို ပေးလိုက်ပါမည်; to discharge an accused, as a magistrate, အမှုမထင်ရှားသော ကြောင့်တရားခံကိုလွှတ်သည်။

လွှတ်စာ, *n.* a document from the husband to the wife renouncing all marital rights, ယနေ့ကစ၍မယားဟူသောအမှတ်ဖြင့်မထားပါနှင့်။ ကျွန်ုပ်ကို လည်းလင်ဟူသောအမှတ်မထားပါနှင့်။သဘောရှိရာ၊လင်နေပါတော့။

လွှတ်လိုက်, *v.* to send away; to despatch an agent or messenger, သည် သိတင်းမှန်သည်မမှန်သည်သိရအောင်၊လူယုံတယောက်ကိုလွှတ်မှတော်မည်; to

dismiss from service, ထိုသူအပြုအမူကိုမနှစ်သက်သောကြောင့်၊သတောရှိရာ သွားလေတော့ဟုလွှတ်လိုက်သည်။

ၯွန်, *see* လွန်, *v.* to take precedence, on higher ground or advanced position; to excel.

ၯွမ်း, *v.* to spread over, overspread, တမြို့လုံးမိုးခိုးၯွမ်းနေသည်၊အိမ်ကိုမမြင်ရဘူး; မိုးသည်းရေၯွမ်းသောကြောင့်၊ စပါးအသီးအနှံ ယိုယွင်းပျက်စီးကုန်ပြီ, ကမ်းနှစ်ဘက်ကိုမြစ်ရေၯွမ်းသွားသည်။

ၯွမ်းအုပ်, *v.* to loricate, cover with some protecting substance.

ၯွမ်းဆင်, *v.* to adorn by covering or spreading over.

ၯွမ်းမိုး, *v.* same as ၯွမ်း; to overwhelm, ရေကြီးသောကြောင့်၊တမြို့လုံးရေၯွမ်းမိုးသွားသည်; to overshade, overshadow, အိမ်ရိပ်ၯွမ်းမိုးသောကြောင့်၊ မြက်မပေါက်နိုင်။

ၯွာ, *v.* to be very thin; *more than* ပါး, ခင်ဗျားအင်္ကျီၯွာၯွာကလေးမချမ်းဘဲနေမည်လား, ချေၯွာ်ၯွာကလေးမျှအတိုက်အခိုက်မခံဘူး; to slice, cut into slices, ဆေးၯွာ, နာနတ်သီးၯွာ, ဟင်းသီးၯွာ။

ၯွာချင်း, *a.* single, not double, as cloth, အင်္ကျီၯွာချင်း, စောင်ၯွာချင်းခြုံအိပ်လို့ချမ်းသည်။

ၯွား, 1, *n.* a shield, oblong and convex; *comp.* ကာ, and ဒိုင်း။

ၯွား, 2, *v.* to throw out or upon, with a spreading motion, စားပွဲကိုၯွားခင်းသည်, မိန်းမပဝါၯွားခြုံသည်, တန်းပေါ်မှာပုဆိုးၯွားထားပါ; မြင်းၯွားခြုံသည့်စောင်, a horse cloth; to leap upon or over from some distance, ခုန်ၯွား, မြောင်းကိုၯွားခုန်သည်; to wave, as a flag, တံခွန်ၯွား, လေတိုက်သောကြောင့်တံခွန်တၯွားၯွားနေသည်; to unfurl a flag, အလံကိုၯွားတင်; to unfurl a sail, ရွက်ကိုၯွားတင်; to line, place along inside, as loose paper in a chest, သေတ္တာထဲမှာစက္ကူၯွား၍ဆေးလိပ်ထည့်ပါ. Der. အၯွား။

ၯွဲ, 1, *n.* an outlet by the side of a reservoir of water, ၯွဲပေါက်။

ၯွဲပေါက်, *n.* same, ကန်ပေါင်မိုးကျို့မည်မိုးသောကြောင့်၊ ၯွဲပေါက်ကရေထုတ်ပစ်ရသည်; a wasteweir.

ၯွဲ, 2 (from လွဲ), *v.* to go out of the way, turn aside from, ရွာကိုမဝင်ဘဲမြင်ဘက်ကၯွဲသွားသည်, ဟိုအနားကိုတဆိတ်ၯွဲနေလိုက်ပါ, ဖယ်; to put out of the way, လူမမြင်အောင်မျက်ကွယ်မှာၯွဲထားသည်; to turn aside, ခင်ဗျားကျွန်တော်နှင့် တွေ့သောအခါ၊ ထာပြုလို့ မျက်နှာၯွဲသလဲ; to divert, digress, လွဲအောင်ပြု, တခုကိုကြည့်ရှုနေကြသည့်အခါ၊ တခြားကိုၯွဲကြည့်အောင်ပြောသည်; to dispose of, give away, to transfer to another, ၯွဲအပ်, ၯွဲထား; to swing, make swing, ခန်းၯွဲ, ဝှက်ၯွဲ; to strike or throw with a swinging motion of the arm, ထားနှင့်ၯွဲခုတ်, ၯွဲပစ်; မၯွဲသာ, to have no alternative, to be inevitable, မၯွဲသာလို့လာရသည်။

လွှဲအပ်, *v.* to dispose of, give away, transfer to another, ဥစ္စာပစ္စည်းများကိုလွှဲအပ်; အမှုလွှဲအပ်, to refer a case to a higher court, သည်အမှုကိုမြို့အုပ်မင်းမစီရင်နိုင်သောကြောင့်၊အရေးပိုင်မင်းရုံးကိုလွှဲအပ်ရသည်။
လွှဲအပ်စာ, *n.* a commission, letters patent, ခန့်ထားသောစာ။
လွှဲဝယ်, *v.* to put out of the way, turn aside, divert.
လွှဲဖယ်, *v.* to cease prosecuting (a business), တိုး၍မပြုဘဲနေသည်။
လွှဲဖယ်ပြော, *v.* to distort the meaning.
လွှဲရှောင်, *v.* to avoid; to depart from, ဒုစရိုက်ကိုလွှဲရှောင်၍သုစရိုက်ကိုပြုလော့; မတွေ့မမြင်အောင်လွှဲရှောင်၍နေသည်။
လွှဲသွား, *v.* to swerve, deviate, go aside.
†လွှဲကျော် (မျောက်လွှဲကျော်), *n.* the hoolock monkey or white-browed gibbon; the white-handed gibbon or long-armed ape.



ဝ, The twenty-ninth consonant in the Burmese alphabet.
ဝ, 1, *n.* the sign which represents a cipher, zero, သုည။
ဝကွက်, *v.* to mark with a cipher (passing sentence of death), ရင်ပတ်မှာဝကွက်၍သေနတ်နှင့်ပစ်သတ်သည်။
ဝကွက်ရာပါ, *v.* to be thus marked, or sentenced, ဝကွက်ရာပါသည့်လူပေါင်းမည်မျှရှိသလဲ။
ဝကွင်း, *v.* to mark with a zero, ဝကွက်။
ဝထိုးပုကန်, *n.* a dish marked with small circles, တရုပ်ပုကန်။
ဝ, 2, *n.* a kind of plant, the Telinga potato, *Arum campanulatum.*
ဝ, 3, *v.* to be full, satisfied with food or drink, ထမင်းစားလို့ဝပြီလား; to be satisfied with looking at an object, ပွဲကြည့်လို့ဝပြီလား; also used with reference to a fire balloon when inflated with hot air, as မီးပုံးပျံမှိုင်းဝလို့ဖောင်းနေသည်; အိပ်ရေးဝ, to be refreshed with sleep.
ဝပြော (*pron.* ဖြော), *v.* same; to abound in, be plentifully supplied with, as a country with provisions, ပြည်ကြီးဝပြောစည်ပင်ပါစေသော; ဝပြော is frequently combined with သာယာ, သာယာဝပြောရှိပါ၏; ဝပြောခြင်း, plenteousness; ခင်ဗျားအရပ်တွင်အစားအစာဝပြောပါသလား။
ဝ, 4, *v.* to be corpulent, plump; *comp.* တုတ်။
ဝဖြိုး, *v.* same, အသားအရေဝဖြိုးသည်, အစားအသောက်ကောင်းလို့ဝဖြိုးလာသည်, ဝဖြိုးသန်မာ, to be well nourished and strong.
ဝလင်, *v.* to be in vigorous, perfect health, as human beings; to be in good condition, as horses, buffaloes and bullocks; ဝဝလင်လင်တဲ့သေဆုံးသည်, he died even while in perfect health, ကျွန်ုပ်သွားလယ်

ထွန်ငှားလိုက်သည့်မှာ၊ဝဝလင်လင်ရှိပါသလား, in regard to the bullocks I loaned for ploughing, are they in good condition?
ဝက်, 1, *n.* a hog.
ဝက်အူ, *n.* a screw; a swine's intestines; sausage.
ဝက်အူကျစ်, *v.* to braid; to intertwist three or more strands into one.
ဝက်အူကြော်, *n.* sausage; a fried sausage.
ဝက်အူစုတ်, ဝက်အူလှည့်, *v.* to turn or apply a screw; to screw, သေတ္တာကိုဝက်အူနှင့်စုတ်ထားသည်။
ဝက်အူပုံ, *n.* taps and dies.
ဝက်အူရစ်, *n.* the thread of a screw.
ဝက်အူလမ်း, *n.* same; a screw-driver; ဝက်အူလမ်း or နဘူးလမ်း, the grooving or spiral channel in a rifle.
ဝက်အူလမ်းအမြောက်, *n.* a rifled cannon.
ဝက်အူလမ်းသေနတ်, *n.* a rifle.
ဝက်အူလှည့်, *n.* a screw-driver.
ဝက်ကာ, *n.* a yoke for a hog's neck, ဝက်ထိတ်။
ဝက်ကြိမ်, *n.* a species of rattan.
ဝက်ခေါင်း, 1, *n.* a bastion, bulwark; a brace (in writing).
ဝက်ခေါင်း, 2, *n.* a fenced pathway into an enclosure or fort; *smaller than* ရဲလောင်း။
ဝက်ချေးပနဲ, *n.* an annual, a weed growing to the height of about two feet, bearing a minute, yellow flower. It has alternate, lanceolate, notched leaves three inches long. It appears to be the same as the မြွေတံတိုင်း။
ဝက်ခြင်း, *n.* an oblong, open-work basket in which pigs are carried.
ဝက်ခြံ, 1, *n.* a pigsty; a barred cage in a police station house, အချုပ်ခန်း, အချုပ်ထောင်။
ဝက်ခြံ, 2, *n.* a sty, an inflamed swelling or boil on the eyelid.
ဝက်စာအရည်, *n.* swill.
ဝက်စွယ်, *n.* a hog's tusk; the pin which secures the shaft of a cart to the axletree; the blocks placed under the head of a ship's keel, when building.
ဝက်စွယ်နားပင်း, *n.* a solid tusk of a hog, used as a charm.
ဝက်ဆီ, *n.* lard.
ဝက်တခြမ်းသား, *n.* a flitch, side of bacon.
ဝက်တုပ်, *v.* to tie hand and foot.
ဝက်တောင်း, *n.* a large male swine in his prime; a species of the *Pyrula* shell, ခရုဝက်တောင်း။

ဝက်ထိတ်, ဝက်လည်ထိတ်, *n.* a yoke for a hog's neck; formerly a yoke for the neck of a criminal.
ဝက်နံတချပ်, *n.* a sparerib.
ဝက်နား, *n.* a species of clam, ရှပ်, ရှပ်ပအုပ်။
ဝက်ပေါက်ဖိုး, *n.* a trap door, ကြမ်းပေါက်ဖိုး, ကုန်းပတ်ပေါက်ဖိုး။
ဝက်ပေါင်, *n.* a ham.
ဝက်ဖရုံ, *n.* a species of pumpkin.
ဝက်မှင်, *n.* the bristles on a hog's back.
ဝက်မှင်ဘီး, *n.* a brush made of bristles.
ဝက်ရောင်းသားထိုး, *n.* one who slays animals and sells the flesh.
ဝက်လျှော်, *n.* the *Heritiera litoralis*; *comp.* ကနစို; *see* လျှော်။
ဝက်ဝမ်းတွင်းဆီ, *n.* the fat inside a swine; *comp.* ဝက်ဆီ။
ဝက်ဝမ်းတွင်းသား, *n.* the haslet.
ဝက်ဝံ, *n.* a bear; ဝက်ဝံသငယ်, a cub.
ဝက်သစ်ချ, *n.* the oak; the hog chestnut, *Castanea tribuloides*.
ဝက်သား, *n.* pork.
ဝက်သားခေါက်, *n.* the fat part of pork; a kind of medicinal tree.
ဝက်သားခြောက်, *n.* bacon; ဝက်သားခြောက်တလွှာ, a rasher of bacon.
ဝက်သိုး, 1, *n.* a boar.
ဝက်သိုး, 2, *n.* an annual, a weed growing to the height of four or five feet, having tomentose, cordate leaves, which with the petioles are five or six inches in length.
ဝက်, 2, *v.* to halve, to divide into two equal parts; *not used as a simple verb*, ခြမ်း, ထက်ဝက်ခွဲ, အလယ်ထက်ပိုင်းဝက်၍ဝေယူကြသည်. *Der.* အဝက်, and ထက်ဝက်။
ဝက်ကပိုင်, *n.* a kind of plant (creeper).
ဝက်ကြွပ်, *n.* a kind of plant, the *Zollingeria macrocarpa*.
ဝက်ချ, *n.* a kind of tree.
ဝက်ခွ (*pron.* ဝက်က), *n.* three poles set apart at the bottom and united at the top.
ဝက်ခွတုံးဆွဲ, *n.* a battering-ram.
ဝက်ခွထောင်, *v.* to set up muskets (or sticks) together, crossing one another; သေနတ်ဝက်ခွထောင်, to pile arms; သေနတ်သုံးလက်စီဝက်ခွထောင်ထား, to stack arms.
ဝက်မြစ်ဥ, ဝက်မြက်စာ, *n.* sedge root.
ဝက်မြေ, *n.* a kind of tree.
ဝက်ရူး, *n.* epilepsy; apoplexy, သွက်ချာပါဒ; ဝက်ရူးပြန်။

ဝက်လာ, *n.* a kind of grass, the *Papyrus pangorei*; sometimes used for thatching houses.

ဝက်ဝက်ကွဲ, *a corruption of* အက်အက်ကွဲ, *adv.* exceedingly; *lit.* to bursting open, ပွဲမှာလူဝက်ဝက်ကွဲအောင်စည်, လူစည်လိုက်ထာဝက်ဝက်ကွဲလို့ (*Colloq.*).

ဝက်သက်, *n.* the measles, ဝက်သက်ပေါက်, ဝက်သက်ဝမ်းလိုက်။

ဝက်သိုးချုပ်, *v.* to overcast (in sewing).

ဝဂ် (Pali ဝဂ္ဂ), *n.* a set of objects classed together; particularly a class of letters in the alphabet.

ဝင်, 1 (Pali ဝံသ), *n.* a race, succession, descent; a history of successive persons, places or things. *Der.* ဒီပဝင်, ဗုဒ္ဓဝင်, မဟာဝင်, ရာဇဝင်။

ဝင်, 2, *v.* to enter, go or come in, ကျွန်တော်အိမ်မကြာမကြာဝင်ထွက်၍သွားပါ; to go to bed, အိပ်ရာဝင်; to set, go down, as a celestial luminary, နေဝင်, လဝင်, ကြယ်ဝင်; to sing to an accompaniment on a musical instrument, စောင်းချင်းနှင့်ဝင်အောင်ဆိုတတ်သလား, ပတ္တလားချင်းနှင့်ဝင်အောင်ဆိုတတ်သလား, can you sing to an accompaniment on the *pattala*? to go over from one party to another, as in war, မိုးနဲစော်ဘွား၊ သိန္နီစော်ဘွားဘက်ကိုဝင်ပြီ၊ ခင်ဘျားသိတင်းကြားပြီလား, have you heard, sir, that the Mone Sawbwa has gone over to the Theinni Sawbwa's side? *Der.* အဝင်, အဝင်အပေါ, ဝင်ရိုး။

ဝင်ငွေ, *n.* income; money given as an advance, or as part payment of a debt, ငွေငါးဆယ်နှင့်ရှပ်သေးငါးသည့်အနက်ကာ၊စားရန်ဝင်ငွေတဆယ်ပြုလုပ်၍သတောတွလက်မှတ်ရေးထိုးကြသည်။

ဝင်စား (*pron.* ဇား), *v.* to enter into the enjoyment of, ဝင်၍စား, ဝင်၍ခံစား; to go over to another party or power; to enter into another state of existence; အလုပ်ကိုဝင်စားသည်, ပညာကိုဝင်စား; ဘိန္နရှအရက်သောက်ဝယ်ဝင်စား; ထဝတပါးနွှဝင်စား၍လူဖြစ်ပြန်သည်; when coupled with စိတ်, to enter heartily into any undertaking, သည်အမှုကိုတယ်စိတ်ဝင်စားသည်။

ဝင်ဝ, *n.* an entrance.

ဝင်ဝလမ်း, *n.* an entrance-way, avenue.

†ဝင်ကနွတ်, *n.* the hermit crab, ဝန်းနွတ်။

ဝင်္ကပါ, *n.* the name of a range of mountains intorted and intervolved; the Burmese "walls of Troy;" a labyrinth; the ဝင်္ကပါပွဲ is one of the grandest of the Burmese festivals, and is celebrated on the full moon of သီတင်းကျွတ်, at the close of the ဝါ, or Buddhist Lent. It originated with King Theinzi, who, in order to pacify his enraged subjects, was obliged to banish his son Wethandaya (ဝေဿန္တရာ)

to the mountains of Winga, whose summit is reached only by narrow, winding passages, which to this day are represented by those of a *wingaba* or labyrinth.

ဝဏ်ဝုဏ္ဏိ, *adv.* in a deceitful, treacherous manner, ဝဏ်ဝုဏ္ဏိဥာဏ်ထယ်များသည့်လူ; in an unsettled, irregular manner, as ထည်မကျ, အငြိမ်အငြိမ်မရှိ။

ဝင်ရိုး, *n.* a spindle; an axletree; any axis, လှည်းဝင်ရိုးသိတည်း။

ဝှေ့, *v.* to swing round (the hand or an instrument), ဝိုက်; to spin, ငင်; to make boastful pretensions, ဝါ; ထားကိုဝှေ့, ထားကိုဝှေ့နေသောကြောင့်မည်သူမျှဝင်၍မထမ်းဆီးနိုင်, ထားလှံနှင့်ထဝှေ့ဝှေ့နေသည်။

ဝှေ့ကျယ်, *v.* to be boastful, quarrelsome, အလွန်ဝှေ့ကျယ်သည့်မိန်းမ။

ဝှေ့ဝါ, *v.* to make boastful pretensions, အဝတ်အစားအလွန်ဝှေ့ဝါသည်, စကားအပြောအဆိုဝှေ့ဝါသည်။

ဝင်း, 1, *n.* a fence made of wrought materials, forming an enclosure.

ဝင်းခင်း, *v.* to arrange troops with a view to accompany, or to form a passage for, a great man, ဝင်းခင်းထွက်တော်မူသည်, ရွှေဝင်းနောက်ဝင်းခင်းသည်, ကိုယ်ရံတော်ဝင်းခင်းတျာင်းကြီးဆိုကြသည်။

ဝင်းမှူး, *n.* an officer who has charge of one of the four gates of the palace, ဝင်းတော်မှူး။

ဝင်းသား, *n.* bodyguards who reside within the outer enclosure of the palace yard.

ဝင်း, 2, *v.* to be brightly yellow; *more than* ဝါ; ငှက်ပျောသီးဝင်းအောင်မှည့်သည်, သဘောသီးဝင်းအောင်မှည့်သည်; မီးဝင်းခနဲ ဝင်းခနဲ မြင်သည်။

ဝဏ္ဏနာ, *n.* an explanation subjoined to a ဗြိုဟ် in the vernacular, ဗြိုဟ်၏အကြောင်းဖွင့်ပွတ်။

ဝစနာလင်္ကာရ (စကား), *n.* polished, agreeable language.

ဝစီ (*pron.* ဝစီ) (Pali), *n.* words, language, စကား။

ဝစီကံ (Pali ကမ္မ), *n.* a deed performed in words; *comp.* ကာယကံ, and မနောကံ; ဝစီကံထိုက်, ဝစီကံပြစ်မှား, ကာယကံဝစီကံ မနောကံ၊သုံးပါးသောကံထို့တွင်၊တပါးပါးဖြင့်ပြစ်မှားမိသမျှကိုကန်တော့ပါ၏။

ဝစ္စမဂ် (Pali ဝစ္စ, ကျင်ကြီး, and မဂ္ဂ, ခရီး), *n.* the anus, စအို, ဖင်။

ဝဇ္ဇ, *n.* the stamen, anther, and pollen of a flower, ဝတ်ဆံ။

ဝည်ဝည်, *adv.* whirringly, ဝည်ဝည်မြည်, နားကိုဝည်ဝည်လေထိုးအောင်ပြေးသည့်မြင်း, ရထတ်ဝည်ဝည်မြည်အောင်လည်သည်။

ဝဋ် (Pali ဝဋ္ဋ), *n.* the result of ဗိပါက်, or the evil consequences of sin, which remain after the main penalty has been borne in a previous state, ဝဋ်ခံ, ဝဋ်ထိုက်။

ဝဋ်ကျွတ်, *v.* to be released from such result, ဝဋ်ကုန်။

ဝဏ္ဏော (Pali), *n.* appearance, အဆင်း။

ဝတ်, 1, *n.* duty, service due, as ဘုရားဝတ်, the duty which intelligent beings owe to God; မိဘဝတ်, the duty which children owe to parents.
ဝတ်ကျင့်ဝတ်ကြေ, *adv.* in the way of fulfiling duties or obligations, ဝတ်ကျင့်ဝတ်ကြေပြု, ဝတ်ကြေပန်ကြေ။
ဝတ်ကျောင်း, *n.* a small building (permanent or temporary) appropriated to penance performed by *pongyis*, usually in the month of Tabodwe; a movable privy attached to a monastery.
ဝတ်ကြီးဝတ်ငယ်, *n.* important and minor duties collectively.
ဝတ်ကြောင်, *v.* to be of various colors; *a clerical term* applied to a layman's dress, ဝတ်ကြောင်နှင့်နေစည်ကာလ။
ဝတ်ခွက်, *n.* the basin, or bowl from which a *pongyi* eats his food.
ဝတ်စင်, *v.* to reverence, honor, to fully discharge one's duties to a superior, as a pupil to a teacher, a wife to a husband, etc., ဝတ်စင်အောင်ပြု (*rare in colloq.*).
ဝတ်တက်, *v.* to go up (to a pagoda at stated times) to perform certain religious duties, ဘုရားဝတ်တက်, နေ့စည်မပြတ်လူကြီးတို့စည်းဝေး၍ဝတ်တက်ကြသည်။
ဝတ်နိပါတ်, *n.* same as ဝတ်ကျောင်း, second definition.
ဝတ်နေ, *v.* to perform extra duties, as when priests dwell for a season on the ground, သင်္ဃာတော်များစည်းဝေး၍ဝတ်နေကြသည်။
ဝတ်ပျက်, *v.* to have the performance of duty interfered with.
ဝတ်ပြု, *v.* to perform duty, particularly the duty of stated religious worship, ကိုးကွယ်, ဘုရားကိုဝတ်ပြု, သင်္ဃာတော်ကိုဝတ်ပြု။
ဝတ်ပြေ, *v.* to have discharged one's duty.
ဝတ်ပြေအောင်ပြု, *v.* to discharge one's obligations satisfactorily.
ဝတ်ဖြည့်, *v. see next,* ထရုတည့ဝတ်ဖြည့်၍အိမ်ထဲကလာကြောင်း။
ဝတ်ဖြေ, *v.* to discharge one's obligations to a superior, by waiting upon him, and performing acts of polite attention, as a pupil to his teacher.
ဝတ်မိုဃ်းဝတ်မြေ, *n. see next.*
ဝတ်မြေ, *n.* sacred ground, glebe, သည်မြေသည်ဘုရားဝတ်မြေဖြစ်သည်။
ဝတ်မြေစာရေး, *n.* a government writer pertaining to some sacred ground.
ဝတ်မြေတကန့်, *n.* same as ဝတ်မြေ။
ဝတ်မြေဝန်, *n.* formerly the officer in charge of sacred precincts.
ဝတ်, 2, *v.* to put on clothes, dress; to wear, as clothes. *Der.* အဝတ်။
ဝတ်စား, *v.* to dress, array with; ရက်ရက်စက်စက်ဝတ်စားသည်, to dress extravagantly.
ဝတ်စားတန်ဆာ, *n.* ornamental dress, wearing apparel.

ဝတ္ထုရှည်   longshort story, novella   MA-MM 114

ဝတ်ဆင်, *v.* same as ဝတ်စား, ဆင်ရင်, ဝတ်ဆင်လို့အလှန်တင့်တယ်သည်။
ဝတ်နွမ်းစားနွမ်း (*pron.* စနွမ်း), *adv.* with shabby and faded garments, ဝတ်ညစ်စားညစ် (*pron.* စညစ်).
ဝတ်လစ်စလစ်, *adv.* open (as the clothes), wantonly.
ဝတ်လုံ, *n.* a great coat, or cloak.
ဝတ်လုံတော်ရရှေ့နေ, *n.* a barrister-at-law.
ဝတ်လဲ, *n.* clothes worn on special occasions.
ဝတ်လဲတော်, *n.* clothes worn by the royal family, as ဝတ်လဲတော်ပုဆိုး။
ဝတ်လဲတော်ကျ, *n.* clothes which have been laid aside by the royal family, ဝတ်လဲတော်ကျပုဆိုးသနားတော်မူသည်။
†ဝတ်စနှစ်လုံး, *n.* the heavy accent (း), ရှေ့ပေါက်; *after the symbol of* အ (ါ or ာ) *at the end of a word, the heavy accent is termed* ဝတ်စနှစ်လုံး or ဝတ်စနှစ်လုံးပေါက်, *and after consonants* (ဗျည်း), ရှေ့ကဆီး, ရှေ့ဆီး, and ရှေ့ကပေါက်, ရှေ့ပေါက်။
ဝတ်ဆံ, *n.* the stamen, anther, and pollen of a flower; the core of a boil, ဝတ်ဆံတည်; ဝတ်ဆံထည့်, to suppurate, as a boil.
ဝတ်ဆံတိုင်, *n.* the stamen, ပန်းဝတ်ဆံတိုင်။
ဝတ်ဆံပွင့်, *n.* the anther.
†ဝတ်ထိစပါ, *adv.* freely, without fear of offending, အားမနာဘဲ။
ဝတ္ထု, 1, *n.* property, goods, money; ဥစ္စာ, ပစ္စည်း။
ဝတ္ထုကံ, *n.* sacred property; particularly applied to sacred grounds.
ဝတ္ထုကာမ, *n.* the desire of outward things, the love of wealth; a cleaving to existing objects; *see under* ကာမ။
ဝတ္ထု, 2, *n.* a pattern, representation, သက်သေ; a statement of events, a tale, narrative; commonly applied to narratives extracted from the Buddhist Scriptures, of which there are several kinds, as အဘိဓမ္မဝတ္ထု, ဇာတ်ဝတ္ထု, ဓမ္မပဒဝတ္ထု, မဏိကုဏ္ဍလဝတ္ထု, etc.
ဝတ်ပန်း, *a.* light bay; applied to horses, ဝတ်ပန်းမြင်း; and to dress, as ဝတ်ပန်းပုဆိုး, ဝတ်ပန်းထဘီ။
ဝတ်မှုန် (from အမှုန်), *n.* the farina or pollen of a flower.
ဝတ်ရက်, *n.* the juice or essence of flowers.
ဝန်, 1, *n.* a burden, load, something to be carried or conveyed.
ဝန်ကင်း, *v.* to be free from responsibility.
ဝန်ကြီး, ဝန်လေး, *v.* to incur great responsibility, as opposed to ဝန်ပေါ့။
ဝန်ခံ, *v.* to assent, to admit as true; to consent, agree to; to engage for, take or incur the responsibility, အာမခံ, ခံဝန်, ပဋိညာဉ်ပြု, နက်ဖြန်ပေးမည်လို့ခင်ဗျားဝန်ခံမည်လား, will you engage to give it to-morrow? In certain instances ဝန်ခံ appears to signify "promise",

in the way of undertaking to perform any business, or to desist from any particular line of conduct; *comp.* ဂတိထား, ဂတိပေး, ဂတိရှိ။

ဝန်ချ, *v.* to lay down a burden, to unlade; to yield, submit; to acknowledge, admit, confess, ခင်ဗျားအပေါ်၌ကျွန်တော်လွန်ကျူးမြင့်သည်ဟု ဝန်ချပါ၏, I acknowledge, sir, that I have gone too far with you.

ဝန်စည်, ဝန်စလယ်, *n.* same as ဝန်; luggage.

ဝန်တက်, *v.* to increase, as responsibility.

ဝန်တင်, *v.* to load, place a burden on (a beast, carriage, boat, etc.); to incur responsibility; *n.* a load (on the back of a beast).

ဝန်တင်ကုန်းနှီး, *n.* a pack saddle, အုံးကွဲဝန်တင်ကာ။

ဝန်တင်ခြင်း, *n.* a pannier.

ဝန်တင်နွား, *n.* an ox that carries panniers or other burdens.

ဝန်တင်မြင်း, *n.* a pack horse, ကုန်တင်မြင်း။

ဝန်တို, *v.* to be cross, disobliging; to be impatient, irritable, သဝန်တို; အလွန်ဝန်တိုတတ်သည့်လူကြီး၊စားရှိနှင့်စိတ်ဆိုးသည်, တယ်ဝန်တိုသည့်လူ၊ တဆိတ်မျှပိုမိုလို့မလုပ်ဘူး။

ဝန်ထုပ်, *n.* a pack, package, bale, etc.

ဝန်ပို, *v.* to cumber, overload.

ဝန်ပိုး, *n.* a load carried on the back.

ဝန်မှိုပြစ်မှု, *v.* to leave a business unfinished in the hands of a partner or successor, ကျွန်တော်အပေါ်တွင်၊ဝန်မှိုပြစ်မှုလုပ်ထားခဲ့သည်၊ပြေကုန်အောင်လုပ်မသွားဘူး; to throw responsibility on, inculpate another, ကျွန်တော်အပေါ်၌၊ဝန်မှိုပြစ်မှုလုပ်ပြောသည့်စကားဖြစ်ပါသည်။

ဝန်ရုန်း, *v.* to draw a load, as a buffalo or bullock, ဝန်ရုန်းကောင်းသည့်နွား။

ဝန်လေး, *v.* to be heavy, as a burden or load; to be heavy, or onerous, as a responsibility.

ဝန်လွတ်, *v.* to be free from responsibility, ဝန်ကင်း။

ဝန်, 2, *v.* to have an allotment, appointment; *seldom used*; *n.* formerly one in charge of some department of government; အဝေးဝန်, the governor of a rural district. *Der.* အဝန်။

ဝန်ကြီး, *n.* a Minister, member of the supreme council of state (လွှတ်တော်), ဝန်ကြီးလေးပါး။

ဝန်ချုပ်, *n.* a chief over other governors.

ဝန်စာရေး, *n.* a *wun's* chief secretary.

ဝန်ရုံ (*pron.* ရုံ), *n.* the jurisdiction of a *wun.*

ဝန်ရှိ, *n.* one of the number of administrators of government.

ဝန်ထောက်, *n.* an assistant to a Minister; an Assistant Commissioner, sometimes called တရားမဝန်ထောက်, to distinguish him from ရာဇဝတ်

ဝန်ထောက်, Superintendent of Police; မြူနီစီပါယ်ဝန်ထောက်, Municipal Secretary; လမ်းဝန်ထောက်, Assistant Civil Engineer; ပညာဝန်ထောက်, Inspector of Schools; နန်းကြိုးဝန်ထောက်, Assistant Superintendent in the Telegraph Department.

ဝန်ရှင်တော်မင်းကြီး, *n.* the Commissioner of a Division.

ဝန်, 3 (Pali ဝန), *n.* a collection, multitude; a forest, တော; *used only in composition. Der.* ဂုဏဝန်, ဓိဝဒါဝန်, သီလဝန်, ဟိမဝန်။

ဝန္ဒနာ (Pali), *n.* divine homage, ဘုရားကိုရှိခိုးခြင်း, ဝန္ဒနာပဏာမစီကုံးသည်။

ဝန္ဒနာပြု, *v.* to pay divine homage, ရှိခိုးဝန္ဒနာပြု။

ဝန်း, *v.* to be round, circular, နေဝန်း, လဝန်း, ဝိုင်း; တိုင်းမိုက်ရန်တွင်းကိုဝန်းဝန်းတူးသည်; to compass, surround, encircle, ရံ, ဝိုင်း. *Der.* အဝန်း။

ဝန်းကျင်, *n.* the space round about, ပတ်လည်, ထက်ဝန်းကျင်, ပတ်ဝန်းကျင်။

ဝန်းစက်, *v.* to be round (*infreq.*), ရွှေလမင်းဝန်းဝန်းစက်စက်ထွက်လာသည်။

ဝန်းတိတိ, *adv.* completely circular.

ဝန်းရံ, ဝန်းဝိုင်း, *v.* to encompass, beleaguer, surround, as an army surrounds a city, or as a body of police surrounds a band of dacoits, မြို့ကိုစစ်သည်များဝန်းဝိုင်းထားသောကြောင့်၊ဘယ်ကိုထွက်သွားစရာမရှိ, အမှုထမ်းများထားပြများကိုဝန်းဝိုင်းကြသောကြောင့်၊ထားပြများထွက်မပြေးနိုင်ကြဘူး; to unite in common effort, to aid another in the attainment of some object, မိတ်ဆွေအပေါင်းတို့သည်ကျွန်တော်ကိစ္စကိုဝန်းဝိုင်းကြပေသည်။

ဝန်းလည်, *n.* same as ဝန်းကျင်။

ဝပ်, *v.* to kneel with the head bowed down, တုပ်ဝပ်; to sit, as a fowl, to incubate, ကြက်ဝပ်; to lie down as an animal with the forefeet under the body, ဆင်ဝပ်, နွားဝပ်, မြင်းဝပ်, ယုန်ဝပ်, သမင်ဝပ်။

ဝပ်စင်း, *v.* to be stretched out prostrate.

ဝပ်တွား, *v.* to be prostrate on the face, to grovel, ရှိခိုးဝပ်တွားအသနားတော်မြတ်ခံပါသည်, ခြေလက်မသန်သောကြောင့်၊ဝပ်တွား၍သွားသည်။

ဝမ်း, *n.* the belly, abdomen; the womb; the hold of a vessel or boat; *fæces*, ordure, ကျင်ကြီး, ချေး, မစင်; မဟာသမုဒ္ဒရာဝမ်းတထွာကိုပြည့်ဝအောင်သွပ်နိုင်ပါမည်လား, canst thou fill, so as to satisfy, the mighty ocean of the belly, one span in breadth? signifying that the belly is ever requiring food.

ဝမ်းကိုက်, *v.* to have dysentery, ဝိတ်ကိုက်။

ဝမ်းကိုက်နာ, *n.* colic, လေနာ။

ဝမ်းကျ, *v.* to be loose, as the bowels.

ဝမ်းကျဆေး, *n.* a purgative.

ဝမ်းကျစ်, *v.* to be very costive, with indurated *fæces*.

ဝမ်းကြွက်ကြွက်, *n.* a swelled belly; a disease of children.
ဝမ်းကြီး, *v.* to be in an advanced state of pregnancy (*vulgar*), နုတ် ဗိုက်ရှိ, ကိုယ်ဝန်ဆောင်။
ဝမ်းကြွတ်, *v.* to rumble in the bowels, ဝမ်းရုတ်, ဝမ်းနူး။
ဝမ်းကြော, *n.* the muscles of the abdomen.
ဝမ်းကြောတင်း, *v.* to have the muscles of the abdomen in a tense, rigid state, so as to feel hard to the touch.
ဝမ်းခက်, *v.* to be costive, ဝမ်းခိုင်။
ဝမ်းခေါက် (*pron.* ဂေါက်), *n.* the skin of the belly.
ဝမ်းခေါက်ထူ, *v.* to be fat-bellied, ဝမ်းခေါက်ထူသောသူများတွင်းတတ်သည်။
ဝမ်းခေါင်း, *n.* the cavity of the abdomen.
ဝမ်းခေါင်းဟာင်းလောင်း, *a.* empty-bellied; sorrowful, dejected, ဝမ်းခေါင်း ဟာင်းလောင်းကျန်ရစ်ရှာပြီ။
ဝမ်းခိုင်, *v.* to be costive, ဝမ်းခက်။
ဝမ်းချ, *v.* to purge, produce purging, ဝမ်းနုတ်။
ဝမ်းချုပ်, *v.* to have no motion of the bowels, ဝမ်းမိတ်။
ဝမ်းချူ, *v.* to extract *fæces.*
ဝမ်းချူဆေး, *n.* a clyster, injection, enema.
ဝမ်းချူတန်ဆာ, *n.* a clyster pipe.
ဝမ်းစာ (*pron.* ဇာ), *n.* food, just sufficient food to satisfy one's self; ballast, လှေဝမ်းစာ။
ဝမ်းစာထိုး, *v.* to put in ballast.
ဝမ်းဆင်း, *v.* to be loose, as the bowels, ဝမ်းကျ။
ဝမ်းဆိုး, *v.* to have diarrhœa; to have a protuberant stomach.
ဝမ်းဆွဲ (*pron.* ဇွဲ), *n.* a midwife, *accoucheur.*
ဝမ်းတွင်းကောက်, *v.* to be of a treacherous disposition.
ဝမ်းတွင်းပါ, *v.* to be connatural.
ဝမ်းတွင်းရူး, *n.* an idiot.
ဝမ်းတွင်းသား, *n.* the entrails; the haslet.
ဝမ်းလျှော, *v.* to have constant diarrhœa, ဝမ်းပြောပြောကြီးသွား။
ဝမ်းထွက်သား, *n.* an own son, သားရင်း။
ဝမ်းနည်း (*pron.* နဲ), *v.* to be sorry, to take to heart; to be sensitive, တယ်ဝမ်းနည်းတတ်သည့်လူ, ဝမ်းနည်းမိတ်ဆိုးစကားပြောသည်။
ဝမ်းနာ, *v.* to have pain in the stomach, or bowels, or uterus; to experience labor pains, ကမ္ဘာလောလျှပ်; ကိုယ်ဝမ်းနာကိုယ်သာသိသည်, meaning that no one can know one's private affairs like one's self.
ဝမ်းနုတ်, *v.* to purge, produce purging.
ဝမ်းနုတ်ဆေး, *n.* an aperient, purgative.

ဝမ်းနှိုး, *n.* the bowels, or the stamina of the bowels, ဝမ်းခိုး။
ဝမ်းပတ်ကြိုး, *n.* a saddle girth.
ဝမ်းပန်း, *n.* the belly, abdomen; same as ဝမ်း, ဝမ်းပန်းနည်း, ဝမ်းပန်းသာ။
ဝမ်းပိတ်, *v.* to have no movement of the bowels, ဝမ်းချုပ်။
ဝမ်းပူ, *n.* a swelled abdomen.
ဝမ်းပူရဲ, *n.* same as ဝမ်းပူ။
ဝမ်းပေါက်, *v.* to pass *fæces* after obstinate or prolonged constipation.
ဝမ်းပိုက်, *n.* the external part, or outside of the belly; ဝမ်းပိုက်ရာ, မြွေဝမ်းပိုက်ရာ, the trail of a serpent.
ဝမ်းပိုက်တွဲ, ဝမ်းပိုက်တွဲကြီး, *n.* a big belly.
ဝမ်းပိုး, *n.* the *fetus* (of animals), ဝိုး, ဝမ်းပိုးကောင်, ဝမ်းပိုးရှိ (*vulgar*).
ဝမ်းပျက်, *v.* to be subject to chronic diarrhœa.
ဝမ်းပျည်း (*pron.* ဗျည်း), *n.* the flabby, pendulous skin of the belly of some animals.
ဝမ်းပြော, *v.* to be loose, relaxed; ဝမ်းပြောပြောသွား။
ဝမ်းပြော့, *v.* to be a little loose, as the bowels.
ဝမ်းဖောဝမ်းရောင်, *v.* to have the stomach distended through disease.
ဝမ်းဖြောင့်, *v.* to be regular in the intestinal evacuation, ဝမ်းမှန်။
ဝမ်းမာ, *v.* to have evacuations of hard *fæces*.
ဝမ်းမီး, *n.* the fire of digestive faculty, အဂ္ဂိသာခံ။
ဝမ်းမြောက်, *v.* to rejoice, to be elated, ဝမ်းသာ။
ဝမ်းမှန်, *v.* to be regular in the intestinal evacution, ဝမ်းဖြောင့်။
ဝမ်းမှိုး, *n.* the bowels, or the stamina of the bowels; *chiefly used in the next phrase.*
ဝမ်းမှိုးပျက်, *v. a term used by medical men; see* ဝမ်းပျက်, ဝမ်းမီး, and ဓါတ်မီး။
ဝမ်းရုတ်, *v.* to rumble, as the bowels, ဝမ်းကြုတ်။
ဝမ်းရှင်, *v.* to have free movements of the bowels.
ဝမ်းလား, *v.* to evacuate the intestines; applied to a Buddh, ဝမ်းတော်လား။
ဝမ်းလိုက်, *v.* to be subject to chronic diarrhœa, ဝမ်းပျက်။
ဝမ်းလျားထိုး, *v.* to lie at full length on one's belly, တပ်နားဝမ်းလျားထိုး၍နေရသည်။
ဝမ်းလျှော, *v.* to be very loose, as the bowels (*polite*), ဝမ်းကျ (ဓါတ်လျှော *is more elegant*).
ဝမ်းသက်, *v.* same as ဝမ်းလျှော။
ဝမ်းသာ, *v.* to rejoice, ဝမ်းမြောက်, ဝမ်းပန်းတသာ, ဝမ်းသာအားရ။
ဝမ်းသူခိုး, *n.* a stomach which receives a great quantity of food, yet

does not show it by distention; one who has such a stomach, a great eater, သည်သူဝမ်းသူခိုး၊တယ်လောက်ဘဲစားသော်လည်းမဝနိုင်; also applied to animals.

ဝမ်းသွား, *v.* to evacuate the intestines; ချေးယို, applied to children or sick persons.

†ဝမ်းဘဲ, *n.* a duck.

ဝမ်းဘဲဥပုံ, *n.* an ellipse, ဝန်းလျား, ကြက်ဥပုံ။

ဝမ်းဘဲစာမြက် (*pron.* ဇာ), *n.* a kind of grass, the seeds of which are said to serve as food for man in times of famine.

ဝမ်းဘဲတောင်, *n.* the under saddle of the ridge of a roof.

ဝမ်းဘဲနှုတ်သီး, *n.* that part of a gunlock which holds the flint.

ဝယ်, 1, *v.* to purchase, buy.

ဝယ်ချမ်း, *v.* same, ကုန်စည်များဝယ်ချမ်း၍ပြည့်စုံကြပြီလား။

ဝယ်ရင်းအတိုး, *n.* the cost price.

ဝယ်, 2, *n.* *affix, locative*, in, တွင်, ၌, မှာ, ပေးရန်စာညီကလေးလက်ဝယ် ထည့်ပေးလိုက်ပါ။

ဝရမိန်, *n.* a certain celestial weapon, ဝရမိန်လက်နက်။

ဝရီး, *n.* a maternal uncle; *see* ဦးမင်း, and ဦးရီး; ဝရီးသားချင်း။

ဝလုံးခေါင်း, *n.* a kind of plant.

ဝသဝရော (Pali), *n.* a kind of tree, ကံ့ကော်။

ဝသီ (Pali), *n.* habitual inclination, acquired or confirmed by practice, အလေ့အလာ; *comp.* ဝါသနာ; ခေါင်းညွှင်းပတ္တလားတီးခြင်း၌တယ်ဝသီပါ သည်, ဝသီနှင့်စကားပြော; စကားပြောဝသီပါ, to be in the habit of interpolating obscene comparisons in one's speech, ဝသီအားကြီးသည့်လူ။

ဝသုန် (Pali ဝသုန္ဓရ), *n.* the earth, မြေကြီး (*seldom used*).

ဝသုန္ဓရေ, *n.* according to Buddhist mythology, the guardian *nat* of the earth, expected to be on the alert to record, and hereafter to testify to, the good deeds of the devout worshiper; ဝသုန္ဓရေမြေ စောင့်နတ်; the Burmese when dedicating a religious offering, appeal to this *nat* as a witness, ဝသုန္ဓရေမြေစောင့်နတ်သားသည်ကြားသိ သည့်သက်သေဖြစ်စေသော။

ဝဿာန္တဥတု (Pali), *n.* the rainy season, မိုးသည်းကာလ။

ဝဆဲပြောင်, *n.* a kind of plant.

ဝံ, *n.* a bear, ဝက်ဝံ။

ဝံအုန္နယ်, *n.* the *Vitis erythroclada*, a leaf-shedding climber, the stem of which is sometimes as thick as a man's arm.

ဝံပုလွေ, *n.* a wolf, ခွေးဝံပုလွေ (*pron.* ဗလွေ); met with in the north of U.B.

ဝံပို, *n.* the spotted-billed pelican.

ဝံပိုက်, *n.* the toddy cat, ကြောင်ဝံပိုက်။
ဝံလက်, *n.* the osprey, ဝံလက်ခေါင်းကျားသည်, ငါးယုန်ရင်ဖြူ။
ဝံလို, *n.* the eagle, ဝံလိုခေါင်းမကျား။
ဝံ့, *v.* to dare (to do), မပြောဝံ့, မသွားဝံ့, ဆိုဝံ့လျှင်လာပ်စေ၊မဆိုဝံ့လျှင်အလာပ်စေ; *occasionally used singly*, as when from an inferior to a superior, *e.g.*, ကျွန်တော်မျှားမဝံ့ပါဘုရား; *chiefly used as a qual. affix.*
ဝံ့စား, *v.* to dare (to do); to be bold, courageous, ရဲဝံ့; the term မဝံ့မစား is frequently used when prefacing a request which at any ordinary time would be considered bold or indelicate.
ဝါ, 1, *n.* the cotton plant; undressed cotton; *comp.* ဂွမ်း; ဝါ becomes ဂွမ်း when it has been cleaned (ဖတ်), and the seed extracted.
ဝါကုလား, *n.* Pernambuco cotton.
ဝါကောင်, *n.* dressed cotton from the bolls.
ဝါကြိတ်, *n.* a wheel for grinding cotton before dressing, a cotton gin.
ဝါဂွမ်း, *n.* dressed cotton.
ဝါခင်း, *n.* a cotton field.
ဝါစေ့, *n.* the cotton seed.
ဝါစေ့ပင်ပေါက်, *n.* sprouts from the cotton seed; an article of food.
ဝါစေ့ပြောက်, *n.* a speckle on a speckled beast; *comp.* ညွှင်းပြောက်။
ဝါနီ, *n.* red cotton.
ဝါပေါက်, *v.* to open, as the bolls when fully ripe.
ဝါဖတ်, *v.* to dress cotton (with a bowstring).
ဝါဖတ်ခြင်း, *n.* a basket for holding the cotton when it has been thinned out.
ဝါဖတ်လေး, *n.* a cotton beater for thinning or spreading out the fibres of the cotton.
ဝါဖန်, *v.* to clean cotton, by pulling and picking, previous to dressing it with the gin, and with the bow, ဖန်။
ဝါသီး, *n.* the boll which contains the cotton.
ဝါ, 2 (Pali ဝါသ), *n.* Buddhist Lent, an annual period of three months, during which religious observances are strictly enjoined.
ဝါဦး, *n.* the beginning of Lent, the first day after the full moon of Waso, ဝါဆိုလပြည့်ကျော်တရက်။
ဝါကပ်, *v.* to begin to keep Lent after the season has commenced.
ဝါကုန်, *v.* to terminate, as the season of Lent.
ဝါကျိုး, *v.* to lose the priestly character in consequence of a breach of monastic vows, as a *rahan* staying away from his *kyaung* for a night during Lent, without repeating the *rahan's* formula of permission, ဝါတွင်းဝါမပန်ဘဲသွားလျှင်ဝါကျိုးသည်။

ဝါကျွတ်, *v.* to come to the end of Lent; *see* သိတင်းကျွတ်, သိတင်းဝါလကျွတ်, ဝါကျွတ်ကန်တော့ပွဲ; *see* ကန်တော့။
ဝါခေါင်, *n.* the fifth month in the Burmese year, nearly answering to August.
ဝါဆို, *v.* to keep Lent; *n.* the first month of Lent, the fourth in the Burmese year, nearly answering to July, ဝါဆိုဝါခေါင်ရေဖောင်ဖောင်။
ဝါဆိုပန်း, *n.* a species of *Elæocarpus.*
ဝါတွင်း, *n.* the season comprised within Lent, ဝါတွင်းသုံးလ။
ဝါထပ်, *v.* to intercalate a month after ဝါဆို, ဝါဆိုဝါထပ်, ဝါထပ်ရက်ငင်။
ဝါလ, *n.* all the year outside of Lent.
ဝါပန်, *v.* to request a dispensation from the duties of Lent, ရဟန်းများဝါတွင်းတခြားသို့ဝါပန်၍ကြွတော်မူကြရသည်။
ဝါပေါက်, ဝါပျက်, *v.* to lose the priestly character in consequence of a breach of monastic vows, ဝါကျိုး။
ဝါရှောင်, *v.* to keep Lent.
ဝါဝင်, *v.* to commence, as the season of Lent.
ဝါ, 3, *v.* to be yellow, အသားဝါ (natural color), အသားအရေဝါ (as from sickness), စက္ကူဝါ, ဗိတ်ဝါ; to be vain, boastful, ostentatious in language, စကားဝါ၍ပြောသည်, ကြွား; *comp.* ပလွှား။
ဝါကား, *v. see the parts*; မထုတ်ဘဲနှင့်ဝါကားပြောသည်။
ဝါကြန့်ကြန့်, *a.* pale yellow, အရောင်ဝါကြန့်ကြန့်ရှိသည်; ဝါကြင့်ကြင့်။
ဝါကြွား, *v.* to be vain, boastful, အနည်းငယ်မျှမြင်ဘူးရှိနှင့်၊အကြီးအကျယ်ဝါကြွားပြောထွေရှိသည်။
ဝါတာတာ, *a.* yellowish, russet, ခပ်ဝါဝါ, အရောင်ဝါတာတာရှိသည်။
ဝါဝင့်, *v.* to make boastful pretensions.
ဝါ, 4 (Pali), *adv.* again, once more, or တနည်းကား (*not used in colloq.*).
ဝါကျထပ်, *v.* to be repeated unnecessarily; applied to writing, စကားထပ်သည်, စကားဝါကျထပ်, စာဝါကျထပ်။
ဝါပေါက်, *v.* to lead off several clauses under one head.
ဝါ, 5, *v.* to test by a given standard, as by weights or measures.
ဝါကရာ, *n.* the two hundred and fourteen orders of beings, ပုဂ္ဂိုလ်အပြားဝါကရာ။
ဝါကြီး, *n. a. term of compellation*; used by the Arakanese to elderly men (*not polite*).
ဝါကြီးမ, *n.* the same applied to elderly women (*not polite*).
ဝါစာ (Pali), *n.* a word; language, စကား။
ဝါစာကမာ, *adv.* indefinitely, ambiguously, evasively, waveringly, ယီးတီးယားတား, အသေအချာမသိဘဲ၊ဝါစာကမာယောင်းပြော။

ဝါစာသိလိဋ္ဌ (from ဝါစာ, language, and သိလိဋ္ဌ, adhering, connected), *n.* elegance of style in speaking or composition, ဝါစာသိလိဋ္ဌဖြစ်အောင် ပြောတတ်သည်။

ဝါစုဂ္ဂ, *n.* study.

ဝါစုဂ္ဂဆောင်, *v.* to retain, by constant study, what one has learned.

ဝါဒ (Pali), *n.* an opinion, belief, အယူ; usually preceded by အယူ, but occasionally used singly.

ဝါဖလေး (ငှက်), *n.* the large bottle-green, long-tailed cuckoo.

ဝါယာမ (Pali), *n.* diligence, industry, လုံ့လ။

ဝါယာမထုတ်, *v.* to be diligent, industrious, ဝါယာမစိုက်, အလုပ်ကိုအလွန်ဝါယာမစိုက်သည်။

ဝါယော (Pali), *n.* the air, လေ, ဝါယောဓါတ်, လေဓါတ်မှဝါယောကြွသည်။

ဝါရန်း (Eng.), *n.* a warrant, ဝါရန်းစာ။

ဝါရန်းကပ်, *v.* to attach, as property in a legal process.

ဝါရန်းခွာ, *v.* to remove a warrant of attachment.

ဝါရန်းစာ, *n.* same as ဝါရန်း။

ဝါရန်းထုတ်, *v.* to issue a warrant.

ဝါရန်းပြေး, *n.* a fugitive from justice, a proclaimed offender; an absconder.

ဝါရန်းတမ်း, *v.* to issue a warrant for the distress and sale of movable property.

ဝါရန်းသိမ်း, *v.* to recall a warrant.

ဝါသနာ (Pali), *n.* natural bent, inclination, genius, proclivity, not common to the whole species, ထုံခြင်း, ပကတိစွဲလမ်းခြင်း။

ဝါသနာထုံ, ဝါသနာပါ, ဝါသနာရှိ, *v.* to have such a bent, ပွဲကိုဝါသနာထုံ၏လား, ကျွန်တော်မှာစာပေကျမ်းဂန်ဝါသနာရှိသည်။

ဝါး, 1, *n.* the bamboo.

ဝါးကပ်, *n.* bamboo shingles.

ဝါးကတုံး, *n.* a bundle of bamboos made up for rafting.

ဝါးခလောက်, *n.* a bamboo rattle for frightening birds.

ဝါးခေါင်း, *n.* the hollow of the bamboo; ဝါးတုံးခေါင်းထဲမှာလသာသလို, like the moon shining in a hollow bamboo; referring to a talented person living in obscurity.

ဝါးခြမ်း, *n.* split bamboo.

ဝါးငချပ်, *n.* a species of thorny bamboo; *comp.* ကြခတ်ဝါး။

ဝါးရှင်းနက်, ဝါးရှင်းဖြူ, ဝါးပွတ်ကြီး, ဝါးပွတ်ငယ်, ဝါးပြောက်, ဝါးတယောင်း, ဝါးမဲ, ဝါးမိုးဝါး, ဝါးမျက်ဆန်ကျယ်, ဝါးသပွတ်, ဝါးသိုးရွှေ, *n.* varieties of the bamboo; တင်းဝါး, used for making mat walls; ဝါးဖြူ used for flooring; ထိုက်ဝါး used for rafters.

ဝါးဆစ်, *n.* a bamboo joint.
ဝါးညှပ်, *n.* pincers made of bamboo stocks.
ဝါးတာရှက်, *n.* twelve cubits' length (some say eight cubits' length).
ဝါးထရံ, *n.* walling made of bamboo matting.
ဝါးထဲကကျောက်, *n.* tabasheer, a silicious substance secreted from some bamboos.
ဝါးနက်, *n.* the *Gigantochloa macrostachya*, ဝါးနွယ်, the *Dinochloa Maclellandii*, varieties of the bamboo.
ဝါးပတ်, *n.* the thin sheath which envelops a bamboo sprout.
ဝါးဗိုး (*pron.* ဝဗိုး), *n.* the elephant bamboo.
ဝါးဗိုးမျက်ဆန်ကျယ်, *n.* the *Dendrocalamus Hamiltonii.*
ဝါးဖြူကလေး, *n.* the *Gigantochloa albociliata*, an evergreen, densely tufted bamboo, growing to the height of twenty or thirty feet. It is marked by minute white bristles.
ဝါးဖောင်, *n.* a bamboo raft.
ဝါးမင်း, *n.* a kind of bamboo remarkable for the shortness of its joints, which are from two and one half to five inches in length.
ဝါးမှို, *n.* bamboo fungus, သံမှို။
ဝါးယား, *n.* the *Dendrocalamus longispathus.*
ဝါးယောင်း, *n.* an old, decayed bamboo.
ဝါးယောင်းကြောင်ပြောက်, *n.* the spotted civet with odoriferous pouch, ကြောင်ကတိုး။
ဝါးယောင်းချည် (*pron.* ချည်), *n.* a creeper which adheres to old bamboos.
ဝါးယောင်းငှက်, *n.* birds of the genus *Garrulax,* etc.
ဝါးယောင်းမှို, *n.* a species of edible mushrooms.
ဝါးရုံ, *n.* a cluster or clump of bamboos.
ဝါးရောင်, *n.* a species of palm.
ဝါးသပ်, *v.* to whittle bamboo.
ဝါးသီး, *n.* the fruit or seed of the bamboo, sometimes used as food.
ဝါးသိုင်, *n.* the *Phrynium macrostachyum.*
ဝါး, 2, *v.* to chew.
ဝါးဖတ်, *n.* chewings.
ဝိကာရ (Pali), *n.* decay, destruction, ဖောက်ပြန်ခြင်း; *comp.* သဝိါရ။
ဝိကာလ, *n.* afternoon, evening; wrong time, *see next.*
ဝိကာလစရိယ, *n.* the going on begging rounds in the afternoon; this is strictly forbidden to Buddhist monks, who are required to complete their rounds in the early morning.
ဝိကာလဘောဇန, *n.* the taking of food at a wrong time, said of a meal

taken by a Buddhist monk outside the appointed time, *e.g.*, after noon.

ဝိဂြုဟ်, *n.* an explanation subjoined to the text in the same language; *comp.* ဝစနတ်။

ဝိဂြုဟ်ကျင်း, *v.* to make a display of philological lore, သည့်ကျောင်းတကာ နှစ်ဦး ဝိဂြုဟ်ကျင်း၍ပြောသည့်စကားမှာ ဘယ်သူကသာ၊ ဘယ်သူက နသည်ကို ကျွန်ုပ်သိချင်သည်။

ဝိစာရ (Pali), *n.* consideration, ဆင်ခြင်ခြင်း, ဝိတက်ဝိစာရများ; "*wichara,* the exercise of judgment or reason on a present object, investigation, consideration, deliberation, dispute, discussion." *Wilson.*

ဝိစိကိစ္ဆာ (Pali), *n.* doubt, indecision of mind, ယုံမှားခြင်း, ဉာဏ်ဖြင့်မကျူး နိုင်ခြင်း, အခါရိုကိုမဆုံးဖြတ်နိုင်ခြင်း; "*wichikicha,* doubt, that which questions the existence of Buddha, his discourses, and the priesthood, previous birth, future birth, the consequences resulting from moral action, and the entrance into the *dhyanas* by means of the exercise of *kasina* (ကသိုဏ်). He who is under the influence of this principle is like a man held by a serpent; he trembles from the doubts that agitate him; he does not continue in one mind." M.B.; သည်မြို့မှာနေဖို့တော်မည်မတော်မည်၊ ဝိဝိစိတ်ကို မဆုံးဖြတ်နိုင်အောင် ဝိစိကိစ္ဆာဖြစ်နေသည်။

ဝိဇ္ဇာ (Pali), *n.* knowledge, wisdom, ပညာ. The Burmese in a jocular way, often call a person who does anything particularly well, or who has a stroke of good luck, ဝိဇ်, *an abbrev. of* ဝိဇ္ဇာ, သည်လူဝိဇ်ပါဘဲ, စကားပြောဝိဇ်ဘဲ, လှေလုပ်အရာသည်ဝိဇ်ဘဲ။

ဝိဇ္ဇာဓိုရ် (Pali ထေရော, great), *n.* one possessed of certain miraculous powers, ဂုဏ်ဒွေနိုဝါသ, ဝိဇ္ဇစကြ္ဂ၊ အဘာသဝက္ကရ။

ဝိဇ္ဇာမယ, *n.* magical or supernatural skill.

ဝိညာဉ် (*pron.* ဝိညဉ်) (Pali ဝိညာဏ), *n.* the soul; *comp.* ဝိတ်, and နံ။

ဝိညာဏ (Pali), *n.* *see above*; "the meaning of *winyana* may be learnt in this way. The watchman of a city remains in its centre, at the place where the four principal streets meet; by this means he can discover who comes from the east, and who from the south, or the west, or the north; in like manner form is seen by the eye, sound is heard by the ear, odor is smelled by the nose, flavor is tasted by the tongue, contact or touch is felt by the body, and thoughts are perceived by the mind; all these things are discovered or ascertained by means of *winyana.*" M.B.

ဝိညာဏက္ခန္ဓာ, *n.* the organs of intellect or thought; *see under* ခန္ဓာ။

ဝိတက် (Pali ဝိတက္က), *n.* intention, အကြံအစည်; "*witarka* (ဝိတက်), rea-

soning, discussion, doubt, deliberation, consideration of probabilities, mental anticipation of alternatives, conjecture, from the root *wi*, implying discrimination, and *tarka*, to reason or doubt." *Wilson.*

ဝိတက်ဝိစာရ, *n.* consideration and investigation collectively; "*wichara*, investigation, examination, continued impulse or tendency, that which prolongs the *witarka* that has arisen in the mind, as the sound that continues to proceed from the bell. The property of *wichara* is that of investigation; thus when a gong is struck by a mallet it gives forth sound, the stroke is *witarka* and the sound is *wichara.*" M.B.

ဝိတ္ထာရ, *n.* width, breadth, extension, detail.

ဝိထိ (Pali), *n.* a path of the sun, of which there are three, *viz.*, အဗ္ဘောဝိထိ, the inner path; မဇ္ဈေဝိထိ, the middle path; and ဗာဟိရဝိထိ, the outer path.

ဝိနည်း (Pali ဝိနယော, ဆုံးမခြင်း), *n.* rules, particularly such as relate to the conduct of priests, ရဟန်းကျင့်စည်တရား; one grand division of the Buddhist Scriptures, comprising five books, *viz.*, ပါရာဇိကကဏ်, ပါစိတ်, မဟာဝါ, စူဠဝါ, and ပရိဝါ; *comp.* ဝိဋကတ်. "Of the five sections into which the Winaya Pitaka is divided, the first and second, Parajika (ပါရာဇိကကဏ်) and Pachiti (ပါစိတ်), contain a code of ordinances relative to priestly crimes and misdemeanors; the third and fourth, Maha Waga (မဟာဝါ) and Chulawaga (စူဠဝါ), miscellaneous rules and regulations relative to ordination, the ceremony called *wass* (ဝါတ်), etc., and the fifth, Pariwanapata (ပရိဝါ), contains a recapitulation of the preceding books." E.M.

ဝိနာ, *a.* or *adv.* sundry, various, အသီးသီး, ဝိနာကင်း, ဝိနာကြည် (*rarely used in colloq.*).

ဝိနာဘာဝ, *a.* or *adv.* same.

ဝိပတ္တိ (Pali), *n.* destruction, ပျက်စီးခြင်း, ဝိပတ္တိကာလ, ဝိပတ္တိတရားမှကင်း လွတ်လိုပါ၏; misfortune, failure, ဝိပတ္တိဖြစ်။

ဝိပဿနာ (Pali), *n.* a kind of wisdom which enables the possessor to make extraordinary discoveries, အထူးထူးအပြားပြားရှုမြင်ခြင်း, ဝိပဿနာတင်, ဝိပဿနာရှု။

ဝိပါက် (Pali ဝိပါက), *n.* the result of any deed, good or bad; the result of an evil deed which remains after the main part has been exhausted through inflictions in a previous state; *comp.* ဝဋ်; ဝိပါက်ခံ, ဝိပါက်လိုက်, အကုသလဝိပါက်, ကုသလဝိပါက်။

